# သာသနာလင်္ကာရ
# စာတမ်း



ဟံသာဝတီ

ရတနာပုရစတုတ္ထမြို့တည် နန်းတည် ဘဝရှင် မင်းတရားကြီး
အမိန့်တော် မြတ်ဖြင့် အတွင်းဝန် မင်းကြီး
သိရိမဟာနန္ဒသင်္ကြံ မေးဆိုချက်ကို
မင်းတိုင်ပင် အမတ်ကြီး
မဟာဓမ္မသင်္ကြံသည်အထူးထူးသော
ကျမ်းဂန်တို့မှထုတ်နုတ်ရေးသားဖြေဆိုအပ်သည့်
မြန်မာပြည်သာသနာဝင်
ဟုဆိုအပ်သော

# သာသနာလင်္ကာရစာတမ်း



ရန်ကုန်မြို့
ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်
၁၉၅၆
H 334—A [ဟံသာဝတီ]

# နိဒါန်း

**သာသနာလင်္ကာရ ပဘဝ**

သမ္မာသမ္ဗုဒ္ဓ ဒွိပဒုတ္တမ လောကသင်းကျစ် ဓမ္မရာဇ်မှန်ကူ သယမ္ဘူထွတ်ထား သဗ္ဗညုမြတ်စွာဘုရား၏ အံ့ဘွယ်ရှစ်ဖြာ သာသနာတော်၏ တည်ထွန်းသက်ဆင်းပုံ အကြောင်းစုံကို ဗုဒ္ဓဘာသာဝင်တိုင်းသိသင့်သိထိုက်သောအကြောင်းအရာတခုဖြစ်သည်အားလျော်စွာ မဇ္ဈိမဒေသခေါ် ဇမ္ဗူဒီပကျွန်း ပြည်,သီဟဠဒီပခေါ် သီဟိုဠ်ကျွန်းတို့၌သာသနာတည်ထွန်းသက်ဆင်းပုံကို အဋ္ဌကထာ, ဋီကာ,မဟာဝင်, ဒီပဝင် စသည်တို့၌ လာရှိပြီးဖြစ်၍ ကြည့်ရှုလိုသူတို့ ရှာဘွေရန်လွယ်ကူပေသည်၊ မြန်မာပြည်အတွက်မှာမူ ရာဇဝင်, သမိုင်း,မော်ကွန်း, သံပိုင်း, ချောင်း, ကျောက်စာစသည်တို့၌သာ တပိုင်းတစ အစီအစဉ်မရှိ အရောရောအထွေးထွေးလာရှိရကား ကြည့်ရှုလိုသူတို့ရှာဘွေရန်မလွယ်ကူလှချေ၊ ထို့ကြောင့် မြန်မာပြည်၌ သာသနာသက်ဆင်းပုံ,တည်ထွန်းပုံနှင့်တကွ ဆရာအစဉ်အဆက်ကို ရွှလုံးများကိုသီကုံးထားသကဲ့သို့ စီကာစဉ်ကာ သိရှိတော်မူလိုသော **ရတနာပုရစတုတ္ထမြို့တည် နန်းဘည် ဘဝရှင် မင်းတရားကြီးသည်** အတွင်းဝန်ဆောမြို့စား မင်းကြီး**သိရိမဟာနန္ဒသင်္ကြံ**မှတဆင့် တိုက်တွန်းအပ်သည်ဖြစ်၍ မင်းတိုင်ပင်အမတ်ကြီး **မဟာဓမ္မသင်္ကြံ**သည် အထူးထူးသော ပိဋကကျမ်းတို့နှင့် ညှိနှိုင်းတိုက်ဆိုင်လျက် အစောင်စောင်သော ရာဇဝင်, သမိုင်း, မော်ကွန်း, သံပိုင်း, ချောင်း,ကျောက်စာစသည်တို့မှ ထုတ်နုတ်ကာ မြန်မာ့သာသနာဝင်ခေါ် ဤသာသနာလင်္ကာရစာတမ်းကို ရေးသားတင်သွင်းဆက်သအပ်သည်ဖြစ်ပါကြောင်း။

**ဟံသာဝတီ၏ အာသီသ**

ဗုဒ္ဓဘာသာဝင် သူတော်စင်ဖြစ်ကြသောအမျိုးသား အမျိုးသမီးတို့အား····တရား သက်ဝင် သဒ္ဓါရှင်လျက် ဝမ်းတွင်သိမ္မီး ပိဋကတိုက်ကြီးသဖွယ် ဖြစ်ကြစေရန် ရည်သန်ရိုးရင်း နှလုံးသွင်းရှိသည်ဖြစ်၍ စာကောင်းစာမွန်စာချွန်တို့ကိုရွေးနုတ်ပြီးကာ ငွေကြေးရမှု တခုကိုသာ ပဓာနမထားဘဲ [**အမတႋဒုဖြဘိ**၊အမြိုက်နိဗ္ဗာန်လမ်းပြ ဓမ္မစည်တော်ကြီးကို၊ **အဟညိ**၊ ဒေသနာဉာဏ်စက်ဖြင့် တီးနှက်ပေတော့အံ့။]ဟူသောဗုဒ္ဓရှင်တော်မြတ်

# နိဒါန်း

ဘုရား၏ အာသီသအလိုကျမိန့်ခွန်းတော်မြွက်ဟသည့်အတိုင်း တသွေမတိမ်းလိုက်နာကျင့်သုံးသောအားဖြင့် မြန်မာ့သာသနာဝင်ဓေါ် ဤ **သာသနာလင်္ကာရစာတမ်း**ကို ရိုက်နှိပ်ဖြန့်ချိ ထုတ်ဝေအပ်သည် ဖြစ်ပါကြောင်း၊ ယင်းသို့ထုတ်ဝေဖြန့်ချိရာ တွင်လည်း ရှင်းလင်းသေသပ်သော အထား အသို့,အပိုအလိုမရှိသောပုဒ်ပါဌ်, အဖြတ်အရပ်ကျနသေချာ အက္ခရာပုဒ်ဗျည်း မလိပ်လည်းစေရအောင် ပါဠိဆရာကြီး **ဦးခင်စိုး သိရီပဝရဓမ္မာစရိယအမှူးရှိသော ဟံသာဝတီပါဠိဆရာအဖွဲ့**ဝင်များက ကောင်းစွာ သုတ်သင်ပြင်ဆင်ကာ ပုံနှိပ်အပ်သည် ဖြစ်ပါကြောင်း။

**"ဟံသာဝတီ"**

၂၈-၇-၅၆။



# မာတိကာ

| ဦးရေ | အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|---|

| ဦးရေ | အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|---|
| ၆၁။ | ရတနာသိင်္ခ,ရတနာသိယ်ဟူသော ၂-မျိုး အကြောင်း | .... | ၁၈၅ |
| ၆၂။ | တောင်တွင်းကြီးပုဂ္ဂိုလ်ကျော်အကြောင်း | .... | ၁၈၇ |
| ၆၃။ | စစ်ကိုင်းမင်းလက်ထက် အတင်ဂိုဏ်းသားတို့ဝိနည်းတရားနှင့်မညီ၍ဝန်ချကြရကြောင်း | .... | ၁၈၈ |
| ၆၄။ | စစ်ကိုင်းမင်းတရားကြီးလက်ထက် သာသနာတော်ကို ပြုစုကြည့်ရှုတော်မူကြောင်း | .... | ၁၉၀ |
| ၆၅။ | ခေတ်သိုက်ဗျာဒိတ် နိမိတ်တပေါင်အရ-အမရပုရမြို့ကိုတည်ထောင်တော်မူကြောင်း | .... | ၁၉၃ |
| ၆၆။ | သာသနာပိုင် ၄-ပါးခန့်၍ သာသနာပြုတော်မူခြင်းအကြောင်း | .... | ၁၉၆ |
| ၆၇။ | သာသနာပြု ၁၂-ပါးခန့်၍ သာသနာပြုတော်မူခြင်းအကြောင်း | .... | ၁၉၈ |
| ၆၈။ | သာသနာပိုင်ဆရာတော် အဓိဋ္ဌာန်ချက်ပြုသည့်အကြောင်း | .... | ၂၀၀ |
| ၆၉။ | သာသနာပိုင်ဆရာတော် အနက်မြန်မာပြန်ဆိုသောကျမ်းဂန်များ၏ စာရင်း | .... | ၂၀၁ |
| ၇၀။ | စူဠဂဏ္ဍိဟူသောကျမ်းသည် မခိုင်မခံ့ကြောင်း | .... | ၂၀၄ |
| ၇၁။ | ဥကင်သအဓိပ္ပါယ်ကိုအကျယ်ပြဆိုကြောင်း | .... | ၂၀၆ |
| ၇၂။ | သတိုးမင်းဖျားအိမ်မက်ကို ပတူးကြီးသယ်ရာဇာဘတ်ဆိုကြောင်း | .... | ၂၀၈ |
| ၇၃။ | ရတနာပုရရွှေဝမြို့ကြီးကိုထပ်မံတည်ထောင်ပြန်၍ ရာဇာဘိသိက်ခံခြင်းအကြောင်း | .... | ၂၁၀ |
| ၇၄။ | စာပေကျမ်းဂန်ကျနစ်၍ သတ္တိ,ဗျတ္တိရှိသောဆရာတော်များကို ကျောင်းတင်အပ်လှူတော်မူကြောင်း | .... | ၂၁၁ |

| ဦးရေ | အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|---|
| ၇၅။ | မဟာသကျသီဟကမ္မည်းတပ်သောကြေးရုပ် တုသွန်းလုပ်တော်မူခြင်းအကြောင်း | .... | ၂၀၄ |
| ၇၆။ | ရတနာဆယ်ပါး အဝင်ဖြစ်သော ကျောက် သလင်းတော်ကြီးကို စစ်အင်္ဂါလေးပါးနှင့် ယူဆောင်ကြောင်း | .... | ၂၀၅ |
| ၇၇။ | သွားတော် ၄၀,စွယ်တော် ၄-ချောင်း အဆုံးအဖြတ်အကြောင်း | .... | ၂၀၆ |
| ၇၈။ | ဝတ်မိုးဝတ်မြေ အာရာမ်သံဃိကနှင့်စပ် လျဉ်းသောအမေးတော် ၅-ချက်၏ အဖြေ စကားအကြောင်း | .... | ၂၂၀ |
| ၇၉။ | ဆရာစဉ်ဆက်ကို အကျဉ်းအားဖြင့် ကောက်နုတ်၍ ပြခြင်းအကြောင်း | .... | ၂၂၀ |
| ၈၀။ | သာသနာတော်ဆုတ်ယုတ်ကွယ်ပျောက်ခြင်း ၅-ပါးအကြောင်း | .... | ၂၃၄ |
| ၈၁။ | သာသနာတော်ကို ပြုစုသုတ်သင်သင့်ခြင်း အကြောင်း | .... | ၂၄၂ |
| | **ကျမ်းပြီးနိဂုံး** | .... | ၂၄၅ |





# သာသနာလင်္ကာရစာတမ်း

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

## အမိန့်တော်မြတ်နှင့်မေးစေသည်ကိုဖြေရန် တိုက်တွန်းခြင်း-ဥယျောဇဉ်

သာသနဝံသအဆက်အနွယ်သည် အစဥ်မပျက်ဖြစ်လျက် ဖြစ်လျက်တစောင်တဘွဲ့တည်း မရှိကြ၊မှတ်မိမှတ်ရာ အသင့်အတော်သာ မှတ်သားကြလျက်ရှိသည်၊ကျန်လပ်သည့်အရာများကို အတွင်းဝန်မင်းကြီး **သိရိမဟာနန္ဒသင်္ကြံ**က ရှင်းလင်း သိသာအောင် မင်းတိုင်ပင်အမတ် **မဟာဓမ္မသင်္ကြံ** သို့ မေးစေ၊ ဘုရားအမိန့်တော်မြတ်ကို ဦးထိပ်ထက်ဆင်ရွက်ရသည့်အတိုင်း အတွင်းဝန်မင်းကြီး **သိရိမဟာနန္ဒသင်္ကြံ**က သက္ကရာဇ် ၁၁၉၃-ခု၊ နယုန်လပြည့်ကျော်၅-ရက်နေ့မေးသည့်အမေးပုံကား—

ကုသလာဓမ္မာ,အကုသလာဓမ္မာ, အဗျာကတာဓမ္မာ-စသည်ဖြင့် ကုသိုလ်,အကုသိုလ်အကြောင်းနှင့် နိဗ္ဗာန်အကျိုးများကို ဟောတော်မူသော အရှင်ဂေါတမမြတ်စွာဘုရားသည် ပရိနိဗ္ဗာန်စံယူတော် မူသည့်နေ့က် လေးလမြောက်၌ ရာဇဂြိုဟ်ပြည်အဇာတသတ်မင်းကိုအမှီပြု၍

အရှင်မဟာကဿပ အမှူးရှိသောရဟန္တာငါးရာတို့သည် ပဌမသင်္ဂါယနာတင်တော်မူကုန်သည်။

ထိုနောက် အနှစ်တရာတိုင် ရောက်သည့်ကာလ ဝေသာလီပြည် ကာလာသောကမင်းကိုအမှီပြု၍ရှင်ယသမထေရ်အမှူးရှိသောရဟန္တာ ခုနစ်ရာတို့သည် ဒုတိယသင်္ဂါယနာတင်တော်မူကုန်သည်၊ ဘုရားပရိနိဗ္ဗာန် စံတော်မူသည့်နောက် သာသနာနှစ် နှစ်ရာ့ သုံးဆယ့် ငါးနှစ်ရှိသောအခါပါဋလိပုတ်ပြည် သိရီဓမ္မာသောကမင်းကိုအမှီပြု၍ အရှင်မောဂ္ဂလိပုတ္တတိဿမထေရ် အမှူးရှိသော ရဟန္တာ တထောင်တို့သည် တတိယသင်္ဂါယနာတင်တော်မူကုန်သည်။

သင်္ဂါယနာတင်ပြီးသည့်နောက် ဟောတော်မူသော ဒေသနာတော်အစဉ်ကို ထင်ရှားပျံ့နှံ့သဖြင့် သတ္တဝါအပေါင်းတို့ခိုမှီကိုးကွယ်ရာဖြစ်စေရန် ရည်မှတ်၍ အရှင်မောဂ္ဂလိပုတ္တတိဿမထေရ်က မဇ္ဈန္တိကထေရ်ကို ကသ္မီရ ဂန္ဓာရတိုင်း၊ မဟာရေဝထေရ်ကို မဟိံသကတိုင်း၊ ရက္ခိတထေရ်ကိုဝနဝါသီတိုင်း၊ ယောနကဓမ္မရက္ခိတထေရ်ကို အပရန္တတိုင်း၊ မဟာဓမ္မရက္ခိတထေရ်ကိုမဟာရဋ္ဌတိုင်း၊ မဟာရက္ခိတထေရ်ကို ယောနကတိုင်း၊မဇ္ဈိမထေရ်ကို ဟိမဝန္တာအရပ်၊သောဏထေရ်,ဥတ္တရထေရ်တို့ကို သုဝဏ္ဏဘူမိတိုင်း၊မဟိန္ဒထေရ်,ဣဋ္ဋိယထေရ်,ဥတ္တိယထေရ်,ဘဒ္ဒသာလထေရ်, သမ္ဗလထေရ်,သုမနသာမဏေ,ဘဏ္ဍုက သီတင်းသည် ခုနစ်ပါးတို့ကိုမူကား သီဟိုဠ်ကျွန်းသို့ သာသနာပြုစေလွှတ်ကြောင်းနှင့် ပါရာဇိကဏ် အဋ္ဌကထာတွင်ဆိုသည်၊မဟာဝင်ကျမ်းအာစရိယဝံသများတွင်လည်းဆိုသည်၊ ဘုရားထင်ရှားရှိတော်မူစဉ် သုနာပရန္တတိုင်းသား ရှင်ပုဏ္ဏထေရ်သည် မြတ်စွာဘုရား အဆုံးမတော်ခံ၍ ရဟန္တာအဖြစ်သို့ ရောက်တော်မူသည်၊ ထိုပုဏ္ဏထေရ် သုနာပရန္တတိုင်းသို့ပြန်၍ သတ္တဝါ အပေါင်းတို့အား ဆုံးမဩဝါဒပေးသည်၊ ယောကျ်ား-၅၀၀, မိန်းမ-၅၀၀-ပင် သရဏဂုံတည်ကြောင်းကို ပုဏ္ဏောဝါဒသုတ်ထင်ရှားထွက်ရှိသည်။

သုနာပရန္တတိုင်း, တမ္ဗဒီပတိုင်း ဆိုသည်များလည်း ဆရာတို့,ကျွန်ုပ်တို့ နေထိုင်သည့်နိုင်ငံတော် ဖြစ်သည်၊ ရှင်ပုဏ္ဏထေရ် သာသနာတော်မည်သို့အဆက်အလက်ရှိသည်၊မည်သို့အဆုတ်

အလက်မရှိ၊ မည်သည့်ကာလ မည်သို့ ပြတ်လပ်သည်၊ မပြတ်လပ်သည်ကို သိလိုပါသည်။

ကုန်းဘောင်မြို့တည် မင်းတရားကြီး ဆရာအတုလယသမဟာဓမ္မရာဇဂုရုဆက်လက်ခဲ့သည့်သာသနာမှာ သက္ကရာဇ် ၁၀၄-ခု ထုပါရုံဒါယကာနရပတိကြီးသား မင်းကြီးစွာလက်ထက် ပြည်မြို့သို့သီဟိုဠ်ကျွန်းမှ ရောက်လာသောရှင်သဒ္ဓမ္မစာရီ သီဟိုဠ်မဟာဝိဟာရ ဆရာတို့အဆက်က ဖြစ်သည်၊သဒ္ဓမ္မစာရီတပည့်ကား မဟာသာမိ၊၎င်းတပည့်ကားအတုလဝံသ၊၎င်းတပည့် ဓမ္မသာမိ၊၎င်းတပည့် အဘိသင်္ကေတ၊၎င်းတပည့် တိပိဋကာလင်္ကာရအမည်ရှိသော တောင်ဘီလာပုဂ္ဂိုလ်၊ ၎င်းတပည့်ဆားလင်း အရိယဓဇ၊၎င်းတပည့် ရှင်ဂုဏာဘိလင်္ကာရ ဟူသော တုံဆရာ၊ ၎င်းတပည့် ပညာရာမ၊ ၎င်းတပည့် ကုန်းဘောင်မြို့တည် မင်းတရားကြီးလက်ထက်တော် သာသနာပြုတော်မူသော ရှင်အတုလယသမဟာဓမ္မရာဇဂုရုသို့တိုင် အစဉ်အားဖြင့် ၁၁-ဆက်၊ဂေါဇာ သက္ကရာဇ် ၁၁၂၂-ခု၊သာသနာနှစ် ၂၃၀၄-ခု ရှိသည်ဟုဆိုသည်၊ထိုနောက်စေည့်ကူးစား လက်ထက် ဆုံးထား ဆရာတော် ဆက်လက်ရေးထားခဲ့သည့် ဆရာစဉ်ဆက်စာ, ဘိုးတော်မင်းတရားကြီးလက်ထက် ဆရာဆက်လက်ရေးသားသည့် ဆရာစဉ်ဆက်စာရှိသည်-ဟု ကြားဘူးသည်၊မတွေ့မမြင်ဘူးပါ။

သာသနာတော်ကို အစဉ်မပျက် ထိန်းဆောင်တော်မူကြကုန်သော ပုဂ္ဂိုလ်သူမြတ်တို့အစဉ်အဆက်သေချာစွာရှိမှနောင်လာလူများတို့မှတ်သားကြည်ညိုခြင်း၊ နောက်နောင်ဆက်ကာဆက်ကာ သာသနာတော် တည်သမျှကာလပတ်လုံး ပညာရှိသူတော်ကောင်းတို့လည်း ထိုစာကို အခြေပြု၍ ဆက်လက်ရေးသားပွားများရန် အကြောင်းရှိပါသည်။

ကုန်းဘောင်တည် မင်းတရားကြီးဆရာ ဆိုခဲ့သောဆရာအစဉ်လည်း သရေခေတ္တရာပြည်မြို့တွင် ၁၀၄-ခုနှစ် သီဟိုဠ်က ရှင်သဒ္ဓမ္မစာရီရောက်သည့် အဆက်ကစဉ်ခဲ့၍ ၁၁-ဆက်မျှသာ ဆိုခဲ့သည်၊ ပါရာဇိကဏ် အဋ္ဌကထာ, မဟာဝင်ကျမ်းများကမူကား ရှင်မောဂ္ဂလိပုတ္တတိဿ ထေရ် သာသနာနှစ် ၂၃၅-နှစ်တွင် သောဏထေရ်, ဥတ္တရထေရ်တို့ကို သုဝဏ္ဏဘုမ္မိသို့ စေလွှတ်ကြောင်း၊ သည်မှတပါး အသီးသီးတိုင်းများသို့

သာသနာပြု စေလွှတ်ကြောင်းများကိုလည်းဆိုသည်၊ ပြည်မြို့သို့ သဒ္ဓမ္မစာရီ ရောက်သည့်နှစ်, ရှင်မဟိန္ဒထေရ် သီဟိုဠ်သို့ သာသနာပြုသွားသည့်နှစ်ကိုတွက်သော် အနှစ် ၅၀၀ ကျော်ကွာဝေးသည်၊ သုဝဏ္ဏဘုမ္မိဆိုသည့် သုဓမ္မဝတီသထုံပြည်၁သို့ စေလွှတ်သည့် သောဏထေရ်,ဥတ္တရထေရ်တို့ အဆက်အနွယ်တကြောင်း ဆက်လက်ရန်ရှိသေးသည်။

သုဓမ္မဝတီသထုံပြည် ရှင်ဗုဒ္ဓဒတ္တထေရ် သီဟိုဠ်သို့ ပိဋကကူး သာသနာသက္ကရာဇ် ၉၃၀၊ဂေါဇာသက္ကရာဇ် ၃၀၈-ရောက်သောအခါ သွားသည်၊ရောက်လျှင် သီဟိုဠ်ဆရာတို့နှင့် နှီးနှောပြောဆို၍ ဇိနာလင်္ကာရစာကိုယ်,၎င်းဋီကာများကိုစီရင်သည်၊သီဟိုဠ်ဆရာတို့ကသည်ဆရာသည် လောက,ဓမ္မ အကြောင်းနှစ်ပါးတွင် လောကကြောင်းကို အားကြီးပြောသည်၊ အပြောအဆို နှလုံးရည်ကို ထောက်၍ ပိဋကတော်ကို မကူးရ၊ သီဟိုဠ်က ပြန်လာရသည်။

၎င်းနောက် ရှင်ဗုဒ္ဓဃောသထေရ်သည် ပိဋကတော်ကို အကူးအဆောင် သီဟိုဠ်သို့သာသနာသက္ကရာဇ် ၉၃၀-နှစ်တွင် သွားပြန်သည်၊ သီဟိုဠ် မဟာဝိဟာရဝါသီဆရာတော်တို့နှင့် နှီးနှောပြောဆိုကြ၍ ''သီလေ ပတိဋ္ဌာယနရော'' စသော ဝိသုဒ္ဓိမဂ်ကျမ်းကို စီရင်သည်၊ သီဟိုဠ်ဆရာတို့နှစ်သက်ကြ၍ ပိဋကတော်ကို ကူးယူပါတော့ ခွင့်ပြုသည်၊ ပိဋကတိုက်မှာ သံကွန်ယက်အဖြီးအခိုင် လုံခြုံစွာလုပ်ဆောင်ဖုံးအုပ်လျက်ရှိသည်ကိုရှင်ဗုဒ္ဓဃောသဆရာသည်''သုဂတံသုဂတံ'' စသော မဟာနမက္ကာရကို ရွတ်ဘတ်သရဇ္ဈာယ်သဖြင့် ဖုံးအုပ်သောသံကွန်ယက် ပွင့်လေသည်၊ ပိဋကတော် သီဟိုဠ်ဘာသာကို မြန်မာဘာသာသို့ကူးယူပြီးလျှင် သုဓမ္မဝတီ သထုံပြည်သို့ပြန်သည်၊အရှင်မောဂ္ဂလိပုတ္တတိဿထေရ်က သောဏထေရ်,ဥတ္တရထေရ်, မဟိန္ဒထေရ်တို့ကို စေသည့် သာသနာနှစ် ၂၃၆-နှင့် ရှင်ဗုဒ္ဓဃောသ သီဟိုဠ်သို့သွားသည့်နှစ် အကွာကိုတွက်သော် ၆၉၄-နှစ်ကွာသည်။

သုဓမ္မဝတီသထုံပြည်တွင်လည်း အထက်သာသနာပြု စေလွှတ်ရင်းသူ သောဏထေရ်,ဥတ္တရထေရ်တို့ တပည့်ကြီး သောဘိတထေရ်၊ ၎င်း

၁။ သထုံပြည်ကို သုဝဏ္ဏဘုမ္မိ–သုဓမ္မဝတီဟု ခေါ်ဆိုကြသည်။

တပည့် သောမဒတ္တထေရ်၊ ၎င်းတပည့် သုမနတိဿထေရ်၊ ၎င်းတပည့် သောပါကထေရ်၊၎င်းတပည့် သောမဒတ္တထေရ်၊၎င်းတပည့် အနောမဒဿီထေရ်တို့ခုနစ်ဆက်တွင် ဗုဒ္ဓဃောသထေရ်နှင့် ဆိုင်ပြိုင်မိကြသည်၊ အကြောင်းအရာမျိုးကိုမေးမြန်းကြသည်နှင့်အလွန်ကြည်ညိုခြင်းဖြစ်ကြ၍ထိုကာလ သာသနာတော် ပွင့်လင်းစည်ပင်လျက်ရှိသည်၊ထိုအခါ ပိဋကတော်ကို မင်းမိဖုရားတို့ ကြည်ညိုဆောင်ယူ၍ နန်းရင်ပြင်တွင် ထားသည်-ဟု ဆိုသည်၊ သထုံမင်း၏ အမည်သညာမပါ၊ ထိုကာလ ကြောင့် ပုဂံပြည် မင်းရှစ်ဆက်မြောက် ဖြစ်သော ဒူရစ်မင်းလက်ထက်နှင့်ဆိုင်သည်။

သထုံပြည်တွင်ရှိသူ အနောမဒဿီ၊ ၎င်းတပည့်အဓိသီလ၊ ၎င်းတပည့် ပြာဏဒဿီ၊ ၎င်းတပည့် အဓိသီလကာလ၊ ၎င်းတပည့် အရဟံ၊ ၄- ဆက်မြောက်ရှိသည်။

> ပုဂံပြည်တွင်လည်း နော်ရထာမင်းစောလက်ထက် နော်ရထာမင်းစောကိုးကွယ်ရှိသည့် အရည်းရဟန်းတို့ကို ယုံကြည်တော်မမူရှိ၍ထိုအရည်းရဟန်းတို့ယုံကြည်ရာ, ယုံကြည်ကြောင်း ပြောဆိုသော်လည်းမယုံရှိသည်နှင့် ကြီးစွာသောသစ်ခေါင်းတွင် မိမိတို့ စွဲယူလေ့လာသောစာသဘောကိုရေးသား၍ သွင်းထားသည်၊၃-နှစ်လောက်ရှိလျှင်ထိုသစ်ခေါင်းအပွေးတက်၍စေ့သည်နှင့်ပိဋကတော်ထိုသစ်ခေါင်းအတွင်းရှိသည်ဟု အိပ်မက်မြင်ဟန် ပြောဆိုသောကြောင့် နော်ရထာမင်းစောက ခုတ်လှီးကြည့်ရှုသည်တွင်စာကိုတွေ့ရသည်၊ထိုသူတို့၏အယူဝါဒသဘောနှင့်မကွဲမပြားရှိသောကြောင့်မီးနှင့်တိုက်၍ယခုတိုင်အောင် သရေခေတ္တရာတွင် မီးတိုက်ကုန်း-ဟု အထင်အရှားရှိသည်။

ပိဋကတွေ့ရသည်-ဟုကျော်စောခြင်းအသံကို သထုံပြည်က ရှင်အရဟံ ကြားလေရာတွင် ရှင်အရဟံလာရောက်သည်၊ တောသားမုဆိုးတွေ့၍ နော်ရထာမင်းစောထံပို့သည်၊ နော်ရထာမင်းစောကလည်း ထိုသူ့ဣန္ဒြေအနေအထိုင်ကိုကြည့်ရှုမေးမြန်းရာတွင်အပြောအဆိုကို ကြားနာရသဖြင့်နှစ်သက်တော်မူ၍ကိုးကွယ်တော်မူသည်၊ရှင်အရဟံကသထုံပြည်မှာ ပိဋကတော်ရှိကြောင်းကို ပြောဆိုသည်၊သထုံမင်းသို့စေ၍ တောင်း

သည်၊ မပေးမရသောကြောင့် သထုံပြည်ကိုတိုက်ရာ မင်းနှင့်တကွ ပိဋကအစုံ ၃၀,ရဟန်း ၅၀၀-တို့ကိုပင့်ဆောင်ယူခဲ့၍ သက္ကရာဇ် ၄၁၉-ခု ပြည်သို့ရောက်သည်။

ထိုအခါ ရှင်အရဟံနှင့်သာသနာပြုဘက် ရှင်ဉာဏပုဂ္ဂိုလ်, ရှင်အာနန္ဒာ, ရှင်သီလဗုဒ္ဓိ။ ထို ၄-ပါးတို့သည် သာသနာတော်ကိုရွက်ဆောင်တော်မူကြကုန်သည်။

ထို၄-ပါးတွင်အရှင်အရဟံတပည့် ရှင်အရိယဝံသ၊၎င်းတပည့်ရှင်ဥတ္တရာဇီဝ ဖြစ်သည်၊၎င်းဥတ္တရာဇီဝသည် သက္ကရာဇ် ၅၃၂-ခု မင်းယဉ်နရသိခ်လက်ထက် သီဟိုဠ်သို့ သိက္ခာအယူ သံဃာ ၁၀-ပါးနှင့်သွားသည်၊ ရောက်လျှင် ခေါ်သွားသည့်သံဃာ ၁၀-ပါးအနက်ဆပ္ပဒသာမဏေတပါး ပါသည်၊သီဟိုဠ်မဟာဝိဟာရ ဝါသီဂိုဏ်းဆရာတို့နှင့် နှစ်လိုစဘွယ်စကားပြောဆိုကြပြီးလျှင်ဆပ္ပဒသာမဏေကို မဟာသိမ်တွင်ရဟန်းပြုသည်၊ ဥတ္တရာဇီဝနှင့် သီဟိုဠ်ဆရာတို့ တရားစကား ပြောဆိုကြသည်၊ သီဟိုဠ်ဆရာတို့က ကျွန်ုပ်တို့အဆက်အနွယ်သည် အခြားမဟုတ်၊ ရှင်မောဂ္ဂလိပုတ္တတိဿ မထေရ်က သာသနာပြု စေလွှတ်ရင်း ရှင်မဟိန္ဒအနွယ်ဖြစ်သည်၊ အရှင်တို့လည်း ရှေးဦးစွာသုဝဏ္ဏဘုမ္မိသို့ ရှင်မောဂ္ဂလိပုတ္တတိဿထေရ်က စေလွှတ်ရင်း ရှင်သောဏထေရ်, ဥတ္တရထေရ်တို့အဆက်အနွယ် တပည့်သံဃာမှန်တော့သည်၊ အရှင်တို့ ငါတို့ဆရာ အဆက်ဆက်တွင် အရင်းမူလရှင်မဟိန္ဒထေရ်, သောဏထေရ်, ဥတ္တရထေရ်တို့ဆရာ မောဂ္ဂလိပုတ္တတိဿထေရ်၊ ၎င်းဆရာသိဂ္ဂဝ, စန္ဒဝဇ္ဇီ၊ ၎င်း ၂-ပါးဆရာ သောဏက၊၎င်းဆရာ ရှင်ဒါသက၊ ၎င်းဆရာ ရှင်ဥပါလိပင် ဖြစ်သည်-ဟု ပြောဆိုကြပြီးသည့်နောက် ပုဂံပြည်သို့ ရှင်ဥတ္တရာဇီဝ ပြန်သွားသည်။

ဆပ္ပဒထေရ်မှာ သီဟိုဠ်တွင် ၁၇-နှစ်နေပြီးမှ ပုဂံသို့ပြန်သည်တွင် တေမလိတ္ထိရွာသား သီဝလိထေရ်, ကမ္ဘောဇမြို့သားတာမလိန္ဒ ထေရ်, ကဉ္စိပုရမြို့သား အာနန္ဒထေရ်, အနုရာဓမြို့သား ရာဟုလထေရ်တို့ကိုပေးအပ်လိုက်၍ သက္ကရာဇ် ၅၄၃-ခု နရပတိစည်သူမင်း လက်ထက် ပုဂံပြည်သို့ရောက်သည်၊ (ဆပ္ပဒထေရ် ရောက်သည်နှစ်တွင် ဥတ္တရာဇီဝထေရ် ကံကုန်သည်။) ဆပ္ပဒနှင့်ပါသည့်ရဟန်း ၄-ဦးအနက် ရှင်ရာဟု

လာမှာ နရပတိစည်သူမင်းကြီး ပွဲသဘင်တွင် ကချေသည်မတယောက်ကို မြင်သည်နှင့်စိတ်ဘောက်ပြန်၍လူပြုလိုသောကြောင့်မလ္လာယုကျွန်းသို့သွားသည်၊မလ္လာယုမင်းကဝိနည်းကို တတ်လိုပါသည်ဟု ဆိုလျှင် ခုဒ္ဒ-သိက္ခာ ဝိနည်းကျမ်းကိုငှါကာနှင့်တကွသင်၍ပတ္တမြားတသပိတ်လှူသော်လူထွက်၍ အိမ်ရာထောင်သည်။

အာနန္ဒာ,တာမလိန္ဒ,သီဝလိတို့ ၃-ဦးမှာနရပတိစည်သူမင်းကြီးကဆင်လှူသည်ကိုအလှူခံ၍၂-ပါးဆရာမှာတောတွင်လွှတ်သည်၊ အာနန္ဒာမှာမူကား ဆွေမျိုးရှိရာပို့သည်၊၂-ပါးဆရာက မနှစ်သက်၍ အာနန္ဒာနှင့်ဂိုဏ်းခွဲသည် ၊နောက်သီဝလိနှင့် တာမလိန္ဒ ၂-ဦးလည်း အပြောအဆိုမတွေ့၊ကာယဝိညတ်, ဝစီဝိညတ်၂-ရပ်တွင် ကာယဝိညတ်ဖြင့်သာခံအပ်သည်၊ဝစီဝိညတ်ဖြင့်မခံအပ်၊ အငြင်းအဆိုရှိကြသည်နှင့် နှစ်ဂိုဏ်းခွဲကြသည်။

နောက်ပုဂံပြည်တွင်—

၁။ ရှင်အရဟံ-ရှေ့သာသနာ တဂိုဏ်း,

၂။ ဥတ္တရာဇီဝ,ဆပ္ပဒတို့-နောက်သာသနာ တဂိုဏ်း,

၃။ ဆပ္ပဒနှင့်အတူပါ သီဝလိ တဂိုဏ်း,

၄။ ရှင်အာနန္ဒာ တဂိုဏ်း,

၅။ ရှင်တာမလိန္ဒတဂိုဏ်း၊ဤသို့ ၅-ဂိုဏ်းကွဲကြလေသည်။

ပုဂံပြည်ရောက် ဂိုဏ်း ၅-ဂိုဏ်းက မည်သည့်ဂိုဏ်း အနွယ်အဆက် ပင်းယ,စစ်ကိုင်း,ရတနာပုရမြို့များသို့ ရောက်သည်ကိုသိလိုပါသည်။

မင်းစဉ်မှာလည်း မဟာသမ္မတကဆက်လက်၍ရာဇဝင်တွင်ဆိုသည်၊ သာသနာတော်အစဉ်မှာလည်း ဘုရားလက်ထက် ရှင်ဥပါလိထေရ်ကစ၍ သာသနာတော်ကို အစဉ်အတိုင်းဆိုမှသင့်ပါမည်၊ အထက်ဆိုခဲ့ပြီးသောပုဂံပြည်က ဥတ္တရာဇီဝ,ဆပ္ပဒတို့နှင့်သင်္ဃာ ၁၀-ပါး သီဟိုဠ်သို့သွားရာ သီဟိုဠ်မဟာဝိဟာရဝါသီဆရာတို့နှင့် ပြောဆိုကြသည့် စကားစပ်အလျဉ်းတွင် သီဟိုဠ်ဆရာတို့ ပြောစဉ်အဆက်ကား ရှင်ဥပါလိ၊ ၎င်းတပည့်ဒါသက၊၎င်းတပည့်သောဏက၊၎င်းတပည့်စန္ဒဝဇ္ဇီ၊ ၎င်းတပည့်မောဂ္ဂလိပုတ္တတိဿ၊ ၎င်းတပည့် သောဏမထေရ်,ဥတ္တရမထေရ်၊ ၎င်း

တပည့်သောဘိတမထေရ်၊ ၎င်းတပည့်သောမဒတ္တ၊ ၎င်းတပည့်သုမနတိဿ၊ ၎င်းတပည့်သောပါက၊ ၎င်းတပည့်အနောမဒဿီ၊ ၎င်းတပည့်အဓိသီလ၊ ၎င်းပည့်ပြာဏဒဿီ၊ ၎င်းတပည့်အဓိသီလကာလ၊ ၎င်းတပည့်အရဟံ၊ ၎င်းတပည့် အရိယဝံသ၊ ၎င်းတပည့် ဥတ္တရာဇီဝ၊ ၎င်းတပည့် ဆပ္ပဒပေါင်း ၁၉-ဆက်သာ အဖြောင့်အမှန်ရသည်။

နောက်သုဓမ္မသာမိဟူသော ဆရာသည် အရဟံဂိုဏ်းဝင် အနွယ်ဆိုသည်၊ ထိုဆရာသည်လည်း ပင်းယဥဇနာမင်းကြီးလက်ထက် သက္ကရာဇ် ၇၀၂-ခုတွင် သာသနာပြုဆရာတော်စကားကျောင်းမ-နေ ဟူ၍အာစရိယဝံသအဆက်အနွယ်စာ စကားကျောင်းမသမိုင်းများကထွက်သည်၊ သုဓမ္မသာမိဆိုသောဆရာ့တပည့် မဟာမဟိန္ဒ၊ ၎င်းတပည့်ခေမာစာရ၊ ၎င်းတပည့် သာရဒဿီ-ဟု ပုဂ္ဂိုလ် ၄-ဦးထွက်သည်၊ ပင်းယက သာရဒဿီဆရာလည်း ပြည်မြို့သို့စုန်လေသည်ဟု အာစရိယဝံသတွင် ထွက်ရှိသည်။

> သရေခေတ္တရာက သဒ္ဓမ္မစာရီပုဂ္ဂိုလ်အဆက် အတုလဆရာသွင်းချက်အရ ဆရာစဉ်ကယူရမည်၊ သို့မဟုတ် သထုံ, ပုဂံ, ပြည်က အဆက်အနွယ်ပင်ယူရမည်ကို ခြားနား၍ဆိုစေချင်ပါသည်၊ သည်အရာကိုပုဏ္ဏောဝါဒသုတ်ထွက်စကား, ပါရာဇိကဏ် အဋ္ဌကထာ, မဟာဝင်ထွက်, ကလျာဏီကျောက်စာ, အာစရိယဝံသ, ဗုဒ္ဓဃောသုပ္ပတ္တိ စာအထွက်, ဆိုးထားဆရာတော်ဆက်လက်သည့် အဆက်, မင်းတရားကြီး လက်ထက် ဆရာဆက်လက်သည့် အဆက်အလက်များနှင့်တိုင်းထောက်ပြီးလျှင် မြတ်စွာဘုရားတပည့်ရှင်း-ရှင်ဥပါလိဆရာကစ၍ အစဉ်မပြတ်ပုတီးလုံးသီသကဲ့သို့ သက္ကရာဇ် ၁၁၉၃-ခု၊ သာသနာနှစ် ၂၃၇၅-ခုတိုင် အင်းစောက်ရေး၍ ထားရန် သာသနာတော်ကို ထိန်းဆောင်တော်မူပေသော ဆရာတော်တို့သတ္တိ ဗျတ္တိ, နိုင်ငံပြည်သာသနာတော်ကို ပြုစုသည့်မင်းနှင့်တကွ ဆရာစဉ်ကို သေချာအောင်ရေး၍ ပေးစေချင်ပါသည်ဆရာ။

ဥယျောဇဉ်ပြီး၏။

---

# ၁-အာသီသပုဗ္ဗကဂန္ထာရမ္ဘ
# ကျမ်းဦးဂါထာ

ယော နေကဝါရမ္ပိ မရမ္မမဏ္ဍလံ၊
အာဂမ္မ သဒ္ဓမ္မဇုတိံ အကာ စိရံ။
ဇန္တူနမတ္ထံ ဒိဃဒဿိ တဿိဒံ၊
ဇောတေတု မောဟန္ဓဝိဓံသိ သာသနံ။ ။

[၁၂-လုံးဘွဲ့ဣန္ဒဝံသာဂါထာ။]

**အနက်ကား။** ယော တထာဂတော၊ အကြင် ရှေးဘုရားတို့ကဲ့သို့ လာခြင်း ကောင်းတော်မူသော မြတ်စွာဘုရားသည်။ မရမ္မမဏ္ဍလံ၊ သုနာပရန် တမ္ပဒီပမည်သော မြန်မာတိုင်းပြည်သို့။ အနေကဝါရမ္ပိ၊ အကြိမ်များစွာလည်း။ အာဂမ္မ၊ ကြွလာတော်မူ၍။ ဇန္တူနံ၊ မြန်မာတိုင်းသူ လူအပေါင်းတို့၏။အတ္ထံ၊ အကျိုးစီးပွားကို။ ဒိဃဒဿိ၊ အရှည်အမြော် ခေါ်တော်မူလျက်။ စိရံ၊ ကြာမြင့်စွာ။ သဒ္ဓမ္မဇုတိံ၊ သာသနာတော်မြတ် ထွန်းလင်းအံ့သော အကြောင်းကို။ အကာ၊ ပြုတော်မူလေပြီ။ တဿ တထာဂတဿ၊ ထိုရှေးဘုရားတို့ကဲ့သို့. လာခြင်းကောင်းတော်မူသော မြတ်စွာဘုရား၏။ ဣဒံသာသနံ၊ ဤသာသနာတော်မြတ်သည်။ မောဟန္ဓဝိဓံသိ၊ မောဟတည်းဟူသော အမိုက်မှောင်ကိုပယ်ဖျောက်လျက်။စိရံ၊ရှည်မြင့်စွာ။ဇောတေတု၊စည်ပင်သန့်ရှင်းထွန်းလင်းပါစေသတည်း။

ဤသို့လျှင် အာသီသပုဗ္ဗက-ဂန္ထာရမ္ဘ သာသနဝံသစာတမ်းကျမ်းဦးထားလို၍ ဘွဲ့ဆိုသော မုနိငါးပါးတို့၏အရှင် ဘုရားသခင်၏ သာသနာတော်မြတ် အန္တယ်အဆက်ကိုပြရာ ဣန္ဒဝံသာ ဤဂါထာဖြင့် သာသနာတော်မြတ် ကာလမြင့်ရှည် စည်ပင်သန့်ရှင်း ထွန်းလင်းအံ့သည်ကို မြော်ခေါ်ထောက်ထားတော်မူလျက် သီဟိုဠ်ကျွန်း, ရာမညတိုင်းများတို့ကဲ့သို့ သုနာပရန် တမ္ပဒိပ် မည်သော မြန်မာတိုင်းပြည်သို့ အရှင်မဟာပုဏ္ဏထေရ် ပင့်ဘိတ်တောင်းပန်သဖြင့် နံ့သာတန်ဆောင်းကျောင်းတော်ခံခြင်း,နမ္မဒါမြစ်နားသစ္စပန်တောင်ဖျားထက် တရာ့ရှစ်ကွက်စက်အရေးနှင့်တကွ ခြေတော်ရာပြခြင်း အစရှိသော အကျိုးငါ

ပြာသာဒ်ငါးရာ ယာဥ်ညင်သာဖြင့်ကြွလာတော်မူ၍ သာသနာတော်မြတ် အရှည်တည်ထွန်းအံ့သောအကြောင်းကိုပြုတော်မူသဖြင့် မဟာပုဏ္ဏ,သစ္စဗန္ဓ,ဣသိဒိန္န အရင်းစသောမြန်မာတိုင်းသူလူအပေါင်းတို့၏ အကျိုးစီးပွားကို ကိုယ်တော်မြတ် နှောင်နှစ်ငါးထောင်တိုင်အောင် ရွက်ဆောင်ချီးမြှင့်တော်မူသော ရှေးဘုရားတို့ကဲ့သို့ လာခြင်းကောင်းတော်မူသော မြတ်စွာဘုရား၏ ဤသာသနာတော်မြတ်သည် မောဟမိုက်မှောင်ကို ဖျောက်ပယ်လျက် ကြာမြင့်စွာစင်ကြယ်သန့်ရှင်းထွန်းလင်းပါစေ-ဟူ၍ တိုက်ရိုက်သိအပ်သော ပတ္ထနာအာသီသကိုလည်း နိတတ္ထအားဖြင့်ထင်ရှားပြသည်၊ သာသနာတော်မြတ်အဆက်အနွယ်သာသနဝံသစာတမ်းကို ကျမ်းဂန်စာပေအတွက်အဆိုရှိသည့် အတိုင်း စီစဉ်ရေးသားထားပါအံ့-ဟူသောစကားကျဖြင့် သိအပ်သော ပဋိညာဉ်ကိုလည်း နေယျတ္ထအားဖြင့်ပြသည်-ဟူလိုသော်။

## ဝန်ခံခြင်းပဋိညာဉ်

သာသနဝံသ အဆက်အနွယ်သည် အစဉ်မပြတ်ဖြစ်လျက် တစောင်တဘွဲ့တည်းမရှိကြ၊ မှတ်မိမှတ်ရာ အသင့်အတော်သာ မှတ်သားကြလျက်ရှိသည်၊ ကျန်လပ်သည့် အရာများကို အတွင်းဝန်မင်းကြီး**သီရိမဟာနန္ဒသင်္ကြံ**က ရှင်းလင်းသိသာအောင် မင်းတိုင်ပင် အမတ်**မဟာဓမ္မသင်္ကြံ**သို့မေးစေ၊ ဘုရားအမိန့်တော်မြတ်ကို ဦးထိပ်ထက်ဆင်ရွက်ရသည်အတိုင်း အတွင်းဝန်မင်းကြီး သီရိမဟာနန္ဒသင်္ကြံက သက္ကရာဇ် ၁၁၉၃-ခု၊နယုန်လပြည့်ကျော် ၅-ရက်နေ့ မေးလာသည့် အမေးပုံတွင် မြတ်စွာဘုရား တပည့်တော်ရင်း အရှင်ဥပါလိကစ၍ အစဉ်မပြတ် ပုတီးလုံးကိုသီသကဲ့သို့ ယခုသက္ကရာဇ် ၁၁၉၃-ခုတိုင်အောင် သာသနာပြုဆရာစဉ်ကို အင်းစောက်ရေးသားထားရန် အသေအချာပေးစေချင်ကြောင်းနှင့် အမေးပုစ္ဆာပါသည်မှာ မင်းစဉ်ရာဇဝင်ကဲ့သို့ သာသနာဝင်ဆရာစဉ်ဆက်လက်၍ တစုတည်း ကျမ်းဂန်စာပေမဆိုမရှိ၊ မင်းစဉ်မှာ ရှေ့မင်းနှင့် နောက်မင်းစေ့စပ်လျက် မချန်မလပ်ဆိုသည်၊ ဆရာစဉ်မှာ ထိုသို့မဆိုဘဲ အကြောင်းအထူးရှိမှ ဘော်ထုတ်၍ဆိုသည်၊ အကြောင်းအထူးမရှိလျှင် အစဉ်တချက်တည်း တသ

မတ်တည်းသာဆိုသည်၊ ယင်းသို့ဆိုမှုလည်း ဆရာစဉ်မပျက်ဆက်လက်၍အမိပ္ပါယ်ယူသာသည်။

ထို့ကြောင့် ရာဇဝင်မင်းစဉ်ကဲ့သို့ သာသနာဝင်ဆရာစဉ်ကို ကျမ်းဂန်စာပေ တစောင်တဘွဲ့တည်းမဆိုမရှိသည်ဖြစ်၍ အသီးသီးကျမ်းဂန်စာပေအဆိုအထွက်ရှိတိုင်းပင် ယူမှတ်သင့်သည်၊အထူးအခြားရေးသားစုမရှိပြီ၊ အကြိမ်ကြိမ်ပယ်သည်ကို ဆရာစဉ်ဆက်ပြတ်ပြီ၊ သာသနာကွယ်ပြီဟုအတွေးအဆမိစ္ဆာဝါဒရှိသူလည်းရှိရာပါသည်၊ခပ်သိမ်းသောသူတို့ အတွေးအဆ မိစ္ဆာဝါဒ မရှိကြအောင်ရေးသားပါ၊ ကိုယ်တိုင်ကိုယ်ကြပ်လာ၍ ဆောမြို့စား အတွင်းဝန်မင်းကြီး သိရီမဟာနန္ဒသင်္ကြံ အကြောင်းနှင့်တကွ အကြိမ်ကြိမ်တိုက်တွန်းသည်ဖြစ်၍ သာသနာဝင်၊ ဆရာစဉ်ဆက်ကို ထုတ်နုတ်ရေးသားပေအံ့။

ထိုသို့ရေးသားရာ၌လည်း ကမ္ဘည်းမှတ်စာမကွယ်မပျောက်လျှင် ရွှေအိုးရတနာ မတိမ်မမြုပ်လေသကဲ့သို့ ကျမ်းဂန်စာပေ မကွယ်မပသမျှ သာသနာဝင်ဆရာစဉ်ဆက် မပျက်မစီးရာသောကြောင့် ကျမ်းဂန်စာပေ အထွက်အဆိုရှိတိုင်း အကြောင်း-အကျိုး,အစ-အဆုံးကို ဆင်ခြင်ထောက်ထား၍ နည်းနာမှီးလျက် ကောင်းစွာဆိုလတ့်သတည်း။

အညာ[၁]၌ မိုယ်းရွာသည်ကိုထောက်၍ အကြေ[၂]၌ ရေကြီးမည်ကို သိသည်ကား ကာရဏာနုမာန[၃]နည်း၊အထက်၌ အခိုးအလျှံကိုမြင်၍ အောက်၌ မီးရှိကြောင်းကိုသိသည်ကား ဖလာနုမာန[၄]နည်း၊ ကျောက်ဖျာ အစ,အဆုံး၌ သားခြေရာကိုမြင်၍ ကျောက်ဖျာအလယ်၌ မထင်မရှား သွားလေသောသားခြေရာကို သိသည်ကား မိဂပဒဝလဉ္ဇနနည်း၊ ဤသို့အကြောင်းအကျိုးအစအဆုံးကို ဆင်ခြင်ထောက်ထား၍ နည်းနာမှီးလျက် ကောင်းစွာဆိုပေလတ့်၊ အလေးအမြတ် ပြုအပ်လှစွာသော သာသနာရေး-သာသနာမှုစကားကို ကျောက်ထီးကိုကဲ့သို့ အလေး

---

၁။ အညာ-(ဝေါဟာရ) အထက်။

၂။ အကြေ-(ဝေါဟာရ) အောက်။

၃။ ကာရဏာနုမာန- အကြောင်းမြင်၍ အကျိုးသိခြင်း။

၄။ ဖလာနုမာန- အကျိုးမြင်၍ အကြောင်းသိခြင်း။

အမြတ်ပြု၍ သင့်မသင့်ရာမရာကိုဆင်ခြင်စာနာလျက် ကောင်းစွာယူမှတ်စေကုန်သတည်း။

[ထိုသို့ ယူမှတ်သင့်သောအကြောင်း, သာသနာကွယ်ခြင်းအကြောင်း ငါးပါးကို အထက်စာပြီး နိဂုံးသို့ရောက်မှဆိုပေအံ့။]

အာသီသပုဗ္ဗကဂန္ထာရမ္ဘပြီး၏။

---

## ၂- ပဌမသင်္ဂါယနာတင်ရခြင်း၏ အကြောင်းအမြွက်စကား

"ကုသလာဓမ္မာ,အကုသလာဓမ္မာ,အဗျာကတာဓမ္မာ" စသည်ဖြင့် ကုသိုလ်, အကုသိုလ်အကြောင်းနှင့် နိဗ္ဗာန်အကျိုးများကို ဟောကြားတော်မူခဲ့သော အရှင်ဂေါတမမြတ်စွာဘုရားသည် ပရိနိဗ္ဗာန်စံယူတော်မူသည့်နောက်"လေးလ"မြောက်၌ ရာဇဂြိုဟ်ပြည် အဇာတသတ်မင်းကိုအမှီပြု၍ ရှင်မဟာကဿပ အမှူးရှိသော ရဟန္တာငါးရာတို့ ပဌမသင်္ဂါယနာတင်တော်မူကုန်သည်-ဟူ၍ မေးလာသော စာတမ်းတွင်ပါသည်၊အကြောင်းမရှိဘဲအလျောက်သင်္ဂါယနာတင်တော်မူသည်မဟုတ်၊ အကြောင်းအထူးရှိ၍သင်္ဂါယနာတင်တော်မူသည်၊ အကြောင်းအထူးကား- သဗ္ဗညုဘုရားပရိနိဗ္ဗာန်လားတော်မူ၍ ခုနစ်ရက်လည်သောအခါ တထောင့်နှစ်ရာငါးဆယ်သောရဟန်းသံဃာနှင့်တကွပါဝါပြည်မှကုသိနာရုံပြည်သို့အရှင်မဟာကဿပ ကြွလာလေသော် ခရီးအကြား၌ နိဗ္ဗာန်လားတော်မူသော အကြောင်းကိုကြား၍ ရဟန်းသံဃာ အပေါင်းငိုကြွေးကြသည်တွင် ကြီးမှရဟန်းပြုသော သုဘဒ် ရဟန်းက "မငိုကြွေးကြလင့်၊အဘယ်စိုးရိမ်ဘွယ်ရှိသနည်း၊ ဂေါတမ မရှိက ငါတို့ကျင့်လိုရာကျင့်၊ ကြိုက်သမျှကျင့်ရတော့မည်တကား"ဆိုသောစကားကိုကြားတော်မူလျှင် ဤသူကဲ့သို့သော ဝိသဘာဂ[၁] ဖြင့် သာသနာတော်မြတ်ကွယ်ပရာသော အကြောင်းရှိချေသည်-ဟု ဓမ္မသံဝေဂ[၂]ဖြစ်တော်မူ၏။

---

၁။ ဝိသဘာဂ-သဘောမတူခြင်း။

၂။ ဓမ္မသံဝေဂ-တရားနှင့်ယှဉ်သောထိတ်လန့်ခြင်းသဘော။

''ယနေ့ပင်လည်းရှေ့အဆင်းနှင့်တူသောခန္ဓာတော်ထင်ရှားရှိသေးလျက် ဆင်းရဲငြိုငြင်စွာပြီးစေတော်မူသော သာသနာတော်၌ ကြီးစွာသော ဘေးရန်,အမှိုက်,ဆူးငြောင့်ဖြစ်ခဲ့၏တကား၊ ဤသူယုတ်သည် မိမိနှင့်သဘောတူသူတပါးကို အပေါင်းအဘော်ရ၍ ကြီးပွားလတ်သော် သာသနာတော်မြတ်ကို ဆုတ်ယုတ် စေနိုင်ဘိ ယောင်တကား'' ဟု မသက်မသာရှိတော်မူ၍၊ ဤရဟန်းကြီးကို ဤအရပ်တွင်ပင် ပုဆိုးကြမ်းကိုလဲစေ၍ ကိုယ်၌ပြာဖြင့်ကြဲစေ၍ နှင်ထုတ်အံ့ဟုကြံတော်မူ၏၊ ရဟန်းဂေါတမခန္ဓာပင်ထင်ရှားရှိသေးလျက် တပည့်များ ခိုက်ရန်ဖြစ်ပွားကြသည်၊ လူတို့အပြစ်ဆိုလေတုံအံ့သည်၊ထိုနောက်ပြီးတဘန်အကြံတော်ကိုသိမ်း၍ ခတ်မဆိတ်သည်းခံတော်မူပြီးလျှင် ''သဗ္ဗညုဘုရားနိဗ္ဗာန်လားသော်လည်း ဟောကြားတော်မူခဲ့သော တရားတော်ထင်ရှားရှိသေး၏တကား၊တရားတော်မြတ်မြဲမြံစွာတည်အောင်သင်္ဂါယနာတင်သော် ဤသူယုတ်ကဲ့သို့သောဝိသဘာဂတို့ဖြင့် သာသနာတော်မြတ်မကွယ်မပ တည်ထွန်းရာသည်မဟုတ်လော၊ သာသနာတော်မြတ်တည်ထွန်းအောင်ပြုလုပ်မည်ကို ရည်မှတ်၍ကိုယ်တော်သပ္ပါယ်တော်မူသော ဒုကုဋ်တော်ကို သနားတော်မူခြင်းစသည်ဖြင့် သဗ္ဗညုဘုရားငါ့ကိုချီးမြှင့်တော်မူသည်မဟုတ်လော''ဟု- ဆင်ခြင်တော်မူပြီးမှ နိဗ္ဗာန်လားတော်မူသည့်နောက် သုံးလမြောက်သောအခါ ဝါခေါင်လပြည့်ကျော် ၅-ရက်နေ့ ရာဇဂြိုဟ်ပြည်စရည်းပင်ရောက်သောလိုဏ်၌ အဇာတသတ်မင်းကိုအမှီပြု၍ သံဃာတော်ငါးရာနှင့်တကွ ခုနစ်လပတ်လုံး ပဉ္စမသင်္ဂါယနာတင်တော်မူ၏။

[ထိုအခါ နဝစန္ဒေ ကိန်းသက္ကရာဇ်ရှည် ၁၄၈-နှစ်ကို အကုန်ချေ၍ သာသနာတော် သက္ကရာဇ် တနှစ်အဝင်တွင် မဇ္ဈိမဒေသ မဂဓရာဇ်တိုင်း ရာဇဂြိုဟ်ပြည်အဇာတသတ်မင်းနန်းစံ၅ှစ်နှစ်၊ငါတို့မြန်မာတိုင်း တကောင်းသင်းတွဲပြည် ဇမ္ဗူဒီပဓဇမင်း နန်းစံငါးနှစ်ကျော်တည်း၊အဇာတသတ်မင်းနှင့်ဇမ္ဗူဒီပဓဇမင်းပြိုင်၍၊နဝစန္ဒေကိန်းကို အကုန်ချေသည်-ဟူ၍ သာရတ္ထဒီပနီဋီကာ၌ဆိုသည်။]

ဤပဉ္စမသင်္ဂါယနာ၌ အရှင်မဟာကဿပ, အရှင်ဥပါလိ, အရှင်အာနန္ဒာ, အရှင်အနုရုဒ္ဓါအစရှိသော ရဟန္တာကြီးငါးရာတို့သင်္ဂါယနာတင်၍ လက်မွန်ရှေးဦးစွာ သာသနာပြုတော်မူကုန်သည်၊''ဘုရား

မရှိတပြီးကား၊ငါတို့ကျင့်လိုရာကျင့်၊ကြိုက်ရာကျင့်ရတော့မည် တကား" ဟု သုဘဒ် ရဟန်းကြီး သာသနာတော်ကိုဖျက်ဆီးပြောဆိုသောစကား သည် သာသနာတော်ပြုရသောအကြောင်းဖြစ်၏၊ သုဘဒ်ရဟန်းကြီး ကားအာတုမာမြို့သား ဆတ္တာသည် မျိုးတည်း၊အာတုမာမြို့သို့ဘုရား ရှင်ဒေသစာရီကြွတော်မူသောအခါ မိမိသားသာမဏေနှစ်ယောက်ကို ဆတ္တာမှုပြုစေ၍ရသော ဆီ,ဆား,ဆန် စသောဝတ္ထုဖြင့် ယာဂုချက် ပြီးလျှင် သံဃာနှင့်တကွ ဘုရားသခင်အားလှူသည်ကိုခံတော်မမူ၊ အ ကြောင်းကိုမေး၍ကဲ့ရဲ့ပြစ်တင်ပြုတော်မူသည်၊ "အကပ္ပိယအရာ၌ လု သာမဏေတို့ကိုဆောက်တည်စေသော် ဒုက္ကဋ်အာပတ်၊ ဆတ္တာသည် ဖြစ်ဘူးသောရဟန်းသည် သင်ဝုန်းစသော ဆတ္တာသည်အဆောက်အ ဦကို ဆောင်ရွက်သော် ဒုက္ကဋ်အာပတ်"ဟုသိက္ခာပုဒ် ၂-ချက် ပညတ် တော်မူသည်ကို အငြိုးထား၍ သာသနာတော်မြတ်ကို ဖျက်ဆီးလို သောကြောင့် ရဲရဲငြိသော သံပူ သံတွေကိုမျို၍အနန်ဘိသကဲ့သို့ ဤသို့စဉ် မဆိုကောင်းသော စကားကိုဆိုလေသတည်း။

အဇာတသတ်မင်းကား အရှင်ဘုရားတို့ ဓမ္မစက်လည်း ဖြစ်ပါစေ၊ အကျွန်ုပ်အာဏာစက်လည်းဖြစ်ပါစေအံ့၊ဝံ့ဝံ့ရဲရဲသင်္ဂါယနာတင်တော် မူပါကုန်ဟု တောင်းပန်ချီးမြှင့်သော လက်မွန်ရှေးဦး သာသနာပြုမင်း ပေတည်း။

သင်္ဂါယနာ[၁]တင်ကုန်သော အရှင်မဟာကဿပ, အရှင်ဥပါလိ, အရှင်အာနန္ဒာ,အရှင်အနုရုဒ္ဓါ အစရှိသောရဟန္တာကြီး ငါးရာတို့က အဆင့်ဆင့်ပွားများလေသော ဆရာဆက်, တပည့်ဆက်ကား သိန်း, သန်းမကလျှင် များပြားစွာသတည်း။

ပဌမသင်္ဂါယနာတင် အမြွက်စကားပြီး၏။

---

## ၃။ ဒုတိယသင်္ဂါယနာတင်ရခြင်း၏ အကြောင်းအမြွက်စကား

ထိုနောက် "အနှစ်တရာ တိုင်ရောက်သည်ကာလ ဝေသာလီပြည် ကာလာသောကမင်းကိုအမှီပြု၍ရှင်ယသမထေရ်အမှူးရှိသောရဟန္တာ

---

၁။ သင်္ဂါယနာ—ပေါင်းစုရွတ်ခြင်း။

ခုနစ်ရာတို့ ဒုတိယသင်္ဂါယနာ တင်တော်မူကုန်သည်''ဟူ၍ မေးလာသောစာတမ်းတွင်ပါသည့် ဒုတိယသင်္ဂါယနာကိုလည်း အကြောင်းမရှိဘဲ အလျောက်သာတင်တော်မူကုန်သည်မဟုတ်၊အကြောင်းအထူးရှိ၍ တင်တော်မူကုန်သည်၊အကြောင်းအထူးကား ပဌမသင်္ဂါယနာတင်ပြီးနောက်၊ နိဗ္ဗာန်လားတော်မူသည်က နှစ်တရာတိုင်ရောက်အောင် ပဌမသင်္ဂါယနာတင်တိုင် ငြိမ်ဝပ်စွာပင် ဆရာစဉ်ဆက် မပျက်မစီး ကျင့်ဆောင်ကုန်သည်၊ နှစ်တရာတိုင်လျှင် ဝေသာလီပြည် ဝဇ္ဇီတိုင်းသားရဟန်းတို့သည် ဝိနည်းတရားနှင့် မညီသော အဓမ္မဝတ္ထု၊ ဆယ်ပါးကို ပြသကျင့်ဆောင်ကုန်၍ သာသနာ၌ ဘေးရန်ကြီးစွာဖြစ်၏။

အဓမ္မဝတ္ထုဆယ်ပါးဟူသော်ကား—

၁။ သားချိုဖြင့် ဆားကိုဆောင်၍ ဆားမရှိသော ဆွမ်းနှင့် စားလျှင် သန္နိဓိမဖြစ်-ဟုယူသည်လည်းတပါး။

၂။ မွန်းလွဲ၍ အရိပ်လက် ၂-သစ်ထွက်အောင်ပင် စားသော်လည်း ဝိကာလဘောဇနမဖြစ်-ဟုယူသည်လည်းတပါး။

၃။ တရပ်တရွာသို့သွားလို၍ ပဝါရိတ်သင့်လျက် အတိရိတ်မပြုဘဲ စားကောင်း၏-ဟု ယူသည်လည်းတပါး။

၄။ တသိမ်တည်းတွင် တကျောင်းတခြားစီ သံဃာကံဆောင်ကောင်း၏-ဟုယူသည်လည်းတပါး။

၅။ မလာသေးဘဲ လာမှဆန္ဒယူအံ့ဟု ရှေးဦးက သံဃာကံဆောင်သော် ဝဂ်မဖြစ်-ဟုယူသည်လည်းတပါး။

၆။ ဆရာဥပဇ္ဈာယ်တို့ အလေ့အကျင့်ဖြစ်က အပ်တော့သည်သာ-ဟု ယူသည်လည်းတပါး။

၇။ နို့ရည်အဖြစ်ကိုလည်း မစွန့်သေး, နို့ခမ်းအဖြစ်သို့လည်း မရောက်သေးသော နို့ရည်ကို ပဝါရိတ်သင့်လျက် အတိရိတ်မပြုဘဲ စားကောင်း၏-ဟု ယူသည်လည်းတပါး။

၈။ သေရည်အဖြစ်သို့ စင်စစ်မရောက်သေးသော သေနုကို သောက်အပ်၏-ဟုယူသည်လည်းတပါး။

၉။ အဆာမရှိသော နိသီဒိုင်ကို သုံးဆောင်ကောင်း၏-ဟု ယူသည်လည်း တပါး။

၁၀။ ရွှေငွေကိုခံကောင်း၏-ဟု ယူသည်လည်း တပါး။

ဤအဓမ္မဝတ္ထု ၁၀-ပါးကို ဝဇ္ဇီတိုင်းသားရဟန်းတို့ ပြသကျင့်ဆောင်ကုန်၍သာသနာ၌ ဘေးရန်ကြီးစွာဖြစ်လေသည်၊ထိုအကြောင်းကို အရှင်မဟာယသထေရ်ကြားသိ၍ အရှင်ရေဝတ, အရှင်သဗ္ဗကာမီအစရှိသော ရဟန္တာကြီးခုနစ်ရာတို့ကို ဆော်နှိုးစည်းဝေးပြီးလျှင် သင်္ဂါယနာတင်အံ့-ဟု ဝေသာလီပြည် ဝါလိကာရုံကျောင်းသို့ ကြွတော်မူ၏၊ ဝဇ္ဇီတိုင်းသားရဟန်းတို့လည်းအကောက်ကြံ၍ မဟာဝုန်ကျောင်း၌ ဂန္ဓကုဋိတိုက်တော်ကို ငါတို့စောင့်နေပါသည်ကို ရဟန်းအများလုယူမည်လာသည်-ဟု ပါဋလိပုတ်ပြည် ကာလာသောကမင်းအား ကုန်းချောစားလေ၏၊ ကာလာသောကမင်းလည်း ထိုရဟန်းများကို မလာရအောင် ဆီးတားချေဟု အမတ်တို့ကိုစေမှားဘိ၏၊အမတ်တို့ကား နတ်တို့၏အာနုဘော်ဖြင့် သင်္ဂါယနာတင်မည်လာသော မထေရ်များနှင့် လမ်းလွဲလေသတည်း။

ထိုည၌ပင် ကာလာသောကမင်းအား လောဟကုမ္ဘီငရဲအိုး၌ကျသောအဖြစ်ကို အိပ်မက်မြင်လေ၏၊ ထိုမင်းနှမတော် နန္ဒာ မည်သော ရဟန္တာမထေရ်မလည်း ကောင်းကင်ခရီးဖြင့် လာပြီးသော် ဓမ္မဝါဒီမထေရ်များကို ပြစ်မှား၍ အဓမ္မဝါဒီရဟန်းများတို့ အပင်းအသင်းပြုလျှင် အပြစ်ကြီးကြောင်းကိုပြသလျက် သာသနာတော်ကို ချီးမြှင့်ထောက်ပံ့အောင်ဆုံးမ၏၊ကာလာသောကမင်းလည်း ထိတ်လန့်ခြင်းရှိသဖြင့် ဝေသာလီပြည်သို့လာ၍ အရှင်မဟာယသစသော မထေရ်တို့အား ကန်တော့ပူဇော်ပြီးလျှင် အပင်းအသင်း အစောင့်အရှောက်ပြု၏၊အရှင်မဟာယသစသော ရဟန္တာကြီးခုနစ်ရာတို့လည်း ကာလာသောကမင်းကိုအမှီပြု၍ ဝေသာလီပြည် ဝါလိကာရုံကျောင်း၌ ဝဇ္ဇီတိုင်းသားရဟန်းများတို့ ပြသကျင့်ဆောင်သော အဓမ္မဝတ္ထု ၁၀-ပါးကိုပယ်ဖျောက်လျက် ရှစ်လပတ်လုံး ဒုတိယသင်္ဂါယနာ တင်တော်မူကုန်၏။

[ထိုအခါ မဇ္ဈိမဒေသ ပါဋလိပုတ်ပြည် သုသုနာဂမင်းသား ကာလာသောကမင်း နန်းစံ၁၀-နှစ်၊ ငါတို့မြန်မာတိုင်း သရေခေတ္တရာ ရသေ့ပြည်တွင်း၌ ဒွတ္တပေါင်မင်းကြီး ဘိသိက်မခံမီတနှစ်၊ သာသနာသက္ကရာဇ် တရာတည်း၊ ကာလာသောကမင်းနှင့် ဒွတ္တပေါင်မင်းပြိုင်၏၊ ဤဒုတိယသင်္ဂါယနာ၌ အရှင်ယသ, အရှင်ရေဝတ, အရှင်သဗ္ဗကာမီ အစရှိသော ရဟန္တာကြီးခုနစ်ရာတို့သည် သင်္ဂါယနာတင်၍ နှစ်ကြိမ်မြောက် သာသနာပြုတော်မူကုန်သည်၊ အရှင်ယသကား တေဒဂ်ငါးချက်ရသော အရှင်အာနန္ဒာ၏ အတူနေတပည့်ရင်းတည်း။]

ဝဇ္ဇီတိုင်းသား ရဟန်းများတို့ ဝိနည်းတရားနှင့်မညီသော အဓမ္မဝတ္ထု ၁၀-ပါးကိုပြု၍ သာသနာအညစ်အကြေးဘေးရန်ကိုဖြစ်စေခြင်းကား သာသနာ ပြုရသော အကြောင်း ဖြစ်သဖြင့် ထိုအဓမ္မဝတ္ထု ၁၀-ပါးကို ရဟန်းတို့အားမအပ်ဟုပယ်၍ ဟောတော်မူရင်း တရားတော်အတိုင်းတည်တံ့အောင် သင်္ဂါယနာတင်သတည်း။

[ကာလာသောကမင်းကား လက်ဦးက အဓမ္မဝါဒီရဟန်းတို့ အပင်းအသင်းဖြစ်လျက် နောက်ပြီးမှတဘန် ဓမ္မဝါဒီရဟန်းတို့ အပင်းအသင်းဖြစ်ပြန်၍စောင့်ရှောက်ချီးမြှင့်ပေရကား ဒုတိယသာသနာပြုမင်းပေတည်း။]

ဒုတိယသင်္ဂါယနာတင်ကုန်သော အရှင်ယသ,အရှင်ရေဝတ, အရှင်သဗ္ဗကာမီ အစရှိသော ရဟန္တာကြီးခုနစ်ရာတို့က အဆင့်ဆင့်ပွားများလေသော ဆရာဆက်,တပည့်ဆက်ကား သိန်းသန်းမကလျှင် များပြားစွာသတည်း။

ဒုတိယသင်္ဂါယနာတင်အမြွက်စကားပြီး၏။

---

## ၄-တတိယသင်္ဂါယနာတင်ရခြင်း၏ အကြောင်းအမြွက်စကား

ဘုရားပရိနိဗ္ဗာန်စံယူတော်မူသည့်နောက် သာသနာ ၂၃၅-နှစ်ရောက်သောအခါ ပါဋလိပုတ်ပြည် သိရီဓမ္မာသောကမင်းကို အမှီပြု၍ ရှင်မောဂ္ဂလိပုတ္တတိဿမထေရ် အမှူးရှိသော ရဟန္တာတထောင်တို့ တတိယသင်္ဂါယနာ တင်တော်မူကုန်သည် ဟူ၍ မေးလာသော စာတမ်းတွင်ပါသည်၊ တတိယ သင်္ဂါယနာကိုလည်း အကြောင်းမရှိဘဲ အနှေလျောက်သာတင်တော်မူကုန်သည်မဟုတ်၊အကြောင်းအထူးရှိ၍ တင်

တော်မူကုန်သည်၊ အကြောင်းအထူးကား သင်္ဂါယနာနှစ်ကြိမ်တင်ပြီး နောက် နိဗ္ဗာန်လားတော်မူသည်က ၂၁၈–နှစ်ကျော်ရောက်အောင် သင်္ဂါယနာတင်တိုင်းသာ ငြိမ်ဝပ်စွာ ဆရာစဉ်ဆက် မပျက်မစီး ကျင့်ဆောင်ကုန်သည်၊ ၂၃၈–နှစ် ရောက်သောအခါကား ပါဋလိပုတ်ပြည် သိရီဓမ္မာသောကမင်းလက်ထက် အရှင်နိဂြောဓသာမဏေကို အရင်းစွဲ၍ သာသနာတော်၌ ကြည်ညိုသဖြင့် ရဟန်းသံဃာတို့အား လာဘသက္ကာရ များပြားသည်တွင် တိတ္ထိ ခြောက်သောင်းတို့သည် လာဘသက္ကာရကိုငဲ့သဖြင့် ရဟန်းယောင်ဆောင်၍ ဥပုသ်,ပဝါရဏာ,ကံကြီး, ကံငယ်၌ဝင်လေကုန်ရကား ပရိသတ်မစင်ကြယ်သောကြောင့် ရဟန်းသံဃာတို့ဥပုသ်မပြုကြကုန်၊ သာသနာတော်၌ အညစ်အကြေးဆူးငြောင့်ဘေးရန်များစွာဖြစ်၍ ခုနစ်နှစ်တိုင်အောင်ဥပုသ်ပြတ်လေ၏။

### အရှင်မောဂ္ဂလိပုတ္တတိဿ သာသနာသုတ်သင်ခြင်း

ထိုအကြောင်းကို သိရီဓမ္မာသောကမင်း ကြား၍ အမိကရုဏ်းကို ငြိမ်းချေ၊ ဥပုသ်ပြုစေ-ဟု အမတ်တယောက်ကို စေလိုက်သော် ဥပုသ်မပြုလျှင်သတ်ဘိ-ဆိုသည့်အထင်နှင့် ဥပုသ်မပြုသော ဓမ္မဝါဒီရဟန်းများကိုသတ်လေ၏၊ သိရီဓမ္မာသောကမင်းသိလျှင် ယင်းသို့ငါမစေဘဲ အမတ်အလျောက်သတ်လေသည်ကား ငါ့အားမကောင်းမှု လွတ်အံ့လော,မလွတ်လော-ယုံမှားရှိသဖြင့် ရှင်မောဂ္ဂလိပုတ္တတိဿမထေရ်ကို ဂင်္ဂါအညာမှပင့်၍လျှောက်မေးလျှင် ဒီပကတိတ္တိရဇာတ်ဖြင့် စေတနာမရှိလျှင် မကောင်းမှုလွတ်ကြောင်းကိုဖြေတော်မူ၏၊ခုနစ်ရက်တိုင်အောင်လည်း တိတ္ထိတို့အယူဝါဒကို သိရီဓမ္မာသောကမင်းအားသင်ကြားစေ၏၊ အယူဝါဒနှင့်နှိုင်းခိုင်းလျက် တိတ္ထိခြောက်သောင်းတို့ကိုနှင်ထုတ်စေပြီးမှ ရဟန်းခြောက်သိန်းနှင့်တကွ ဥပုသ်ပြုတော်မူ၏၊ဘုရားဗျာဒိတ်တော်နှင့်အညီ ကထာဝတ္ထုကိုလည်းဆက်လက်၍ဟောတော်မူ၏၊ အသောကာရုံကျောင်း၌ရဟန္တာကြီး တထောင်စည်းဝေး၍ ကိုးလပတ်လုံးသင်္ဂါယနာလည်းတင်တော်မူ၏၊ ထိုအခါ မဇ္ဈိမဒေသ ပါဋလိပုတ်ပြည် သိရီဓမ္မာသောကမင်းနန်းစံတဆယ့်ရှစ်နှစ်၊ငါတို့မြန်မာတိုင်းသရေခေတ္တရာ

---

၁။ လာဘသက္ကာရ-လာဘ်ပူဇော်သက္ကာ။

ရသေ့ပြည်တွင်း၌ ရန်ပေါင်မင်းနန်းစံ ၂၁- နှစ်တည်း၊သိရိဓမ္မာသောကနှင့်ရန်ပေါင်မင်းပြိုင်၏။

၅၇တတိယ သင်္ဂါယနာ၌ အရှင်မောဂ္ဂလိပုတ္တတိဿ, အရှင်မဇ္ဈန္တိက,အရှင်မဟာဒေဝ စသော ရဟန္တာကြီးတထောင်တို့သည် တတိယသင်္ဂါယနာတင်၍ သုံးကြိမ်မြောက်သာသနာပြုတော်မူကုန်သည်၊ အရှင်မောဂ္ဂလိပုတ္တတိဿမထေရ်ကား ဒုတိယသင်္ဂါယနာဆရာတို့ ဗြဟ္မာပြည်သို့တက်၍ တိဿဗြဟ္မာမင်းကိုသာသနာပြုစိမ့်သောငှါ တောင်းပန်သဖြင့် လူ့ပြည်မှာ ဖြစ်လာသောသူတည်း၊ ဘုရားတပည့်တော်ရင်းအရှင်ဥပါလိ၏ တပည့် အရှင် ဒါသက၊ရင်းတပည့် အရှင်သောဏက၊ ရင်းတပည့် အရှင်သိဂ္ဂဝ, အရှင်စန္ဒဝဇ္ဇီမထေရ်နှစ်ပါး၏ တပည့်ရင်းဟု အဋ္ဌကထာ၌ ဆို၏။

လာဘသက္ကာရကိုငဲ့သဖြင့် တိတ္ထိခြောက်သောင်းတို့ ရဟန်းယောင်ဆောင်၍ ဥပုသ်,ပဝါရဏာ,ကံကြီး,ကံငယ်၌ ဝင်ထွက်လေရကားသာသနာ အညစ်အကြေး မစင်ကြယ် မသန့်ရှင်းသောကြောင့် ခုနစ်နှစ်တိုင်အောင် ဥပုသ်မပြုရ ပြတ်လပ်ခြင်းသည် သာသနာပြုရာသောအကြောင်းဖြစ်သဖြင့် ထိုတိတ္ထိခြောက်သောင်းတို့ကို နှင်ထုတ်သည်တွင်မှ သာသနာ အညစ်အကြေးမရှိ စင်ကြယ်သန့်ရှင်းလေသတည်း။

[သိရီဓမ္မာသောကမင်းကား တိတ္ထိ[၁]တို့အယူဝါဒကို သင်မှတ်ခြင်း, တိတ္ထိတို့ကိုရဟန်းအယောင်မဆောင်ရအောင် လူထွက်စေခြင်း စသည်ဖြင့် ချီးမြှင့်ထောက်ပံ့သောကြောင့် တတိယသာသနာပြု မင်းပေတည်း။]

အရှင်မောဂ္ဂလိပုတ္တတိဿ, အရှင်မဇ္ဈန္တိက, အရှင်မဟာဒေဝ အစရှိသော ရဟန္တာကြီးတထောင်တို့က အဆင့်ဆင့် ပွားများလေသောဆရာဆက်,တပည့်ဆက်ကားသိန်းသန်းမကလျှင်များပြားစွာသတည်း။

တတိယသင်္ဂါယနာတင်အမြွက်စကားပြီး၏။

## ၅-ကိုးတိုင်းကိုးဌာနသို့ သာသနာပြု စေလွှတ်ခြင်းအကြောင်း

တတိယသင်္ဂါယနာ စကားအပြီးတွင် ပေထက်တင်သော စတုတ္ထသင်္ဂါယနာစကားကို ဆိုခွင့်ရောက်သော်လည်း သီဟိုဠ်ကျွန်းမှာ သာ

၁။ တိတ္ထိ=ဒိဋ္ဌိ (အတူတူ)—အမှားအားဖြင့်ရှုတတ်သူ။

သနာ တည်ထွန်းသည့်နောက်မှ ပေထက်တင်သည်ဖြစ်၍၄င်း, မေး လာသောစာတမ်းတွင် သာသနာပြုစေသောအကြောင်းပါသည်ဖြစ် ၍၄င်း သီဟိုဠ်ကျွန်းနှင့် တကွ ကိုးတိုင်းကိုးဌာနမှာ သာသနာပြုစေ သောအကြောင်းအရာကို အမြွက်မျှဆိုဦးအံ့။

တတိယသင်္ဂါယနာ တင်ပြီးအဆုံး၌ နောင်အခါ အဘယ်အရပ်မှာ သာသနာတော်မြတ် ကောင်းစွာတည်လတံ့နည်း-ဟု အရှင်မောဂ္ဂလိ ပုတ္တတိဿမထေရ် ဆင်ခြင်တော်မူလျှင် ပစ္စန္တရာဇ်တိုင်းတို့၌ ကောင်း စွာတည်လတံ့သည်ကို မြင်တော်မူ၍ ပစ္စန္တရာဇ် ကိုးဌာနသို့ သာသနာ ပြုစေတော်မူသည်။

ကိုးဌာန-ဟူသော်ကား—

၁။ မဇ္ဈန္တိကမထေရ်ကို ကသ္မီရဂန္ဓာရတိုင်းသို့ စေတော်မူသည်။
၂။ မဟာရေဝမထေရ်ကိုမဟိံသကတိုင်းသို့,
၃။ ရက္ခိတမထေရ်ကိုဝနဝါသီတိုင်းသို့,
၄။ ယောနကဓမ္မရက္ခိတမထေရ်ကို အပရန္တတိုင်းသို့,
၅။ မဟာဓမ္မရက္ခိတမထေရ်ကို မဟာရဋ္ဌတိုင်းသို့,
၆။ မဟာရက္ခိတမထေရ်ကို ယောနကတိုင်းသို့,
၇။ မဇ္ဈိမ မထေရ်ကို ဟိမန္တာ၌တည်သော စိန့်တိုင်း ငါးရပ်သို့,
၈။ သောဏ,ဥတ္တရ မထေရ်တို့ကို သုဝဏ္ဏဘူမိတိုင်းသို့,
၉။ အရှင်မဟိန္ဒ မထေရ်ကို သီဟဠ-တမ္ဗပဏ္ဏိမည်သော သိဃ်ိုဠ် ကျွန်းသို့စေတော်မူသည်။

ဤကိုးဌာနသို့ ဥပသမ္ပဒကံမြောက်လောက်အောင် ပဉ္စဝဂ်သံဃာ ငါးပါးစီ စေတော်မူသတည်း၊ ထိုရဟန္တာကြီးတို့အသီးအသီးကြွ၍ သာသနာပြုကြသဖြင့် ဤကိုးဌာန၌ ရဟန်းတို့ဝတ်ရုံသော သင်္ကန်း ရောင်ဖြင့် တောက်ပလျက် တိမ်တိုက်ဆီးနှင်း အခိုးမြေးမှုံ ရာဟု- ဟူသော အန္တရာယ်ငါးပါး ကင်းလွတ်သော နေမင်း, လမင်းကဲ့သို့ သာသနာတော်မြတ် ဘေးရန်အန္တရာယ်ကင်းလျက် သန့်ရှင်းထွန်း လင်းစွာဖြစ်၏။

ကိုးတိုင်း ကိုးဌာနသို့ သာသနာပြုစေလွှတ်ခြင်းအကြောင်းပြီး၏။

# ၆-မြန်မာနိုင်ငံတော်သို့ သာသနာပြု ရောက်လာပုံအကြောင်း

### အပရန္တတိုင်း

ဤကိုးဌာနတို့တွင် အပရန္တတိုင်းဟူသည်ကို တိုင်းသီး တိုင်းခြားပင် ဟူ၍ အရိယဝံသာလင်္ကာရ၌ ဆိုခဲ့သည်၊ရွှာကြီးဥက္ကံသမာလာ,မဟာသီလဝံသစသော အထက်ဆရာတို့ကားသုနာပရန္တတိုင်းပင် ဖြစ်သည်-ဟု ယူကြကုန်သည်၊ အဘယ့်ကြောင့် သုနာပရန္တတိုင်းဖြစ်ကြောင်းကို သိရသနည်း-ဟူမူကား- အရှင် မဟာပုဏ္ဏမထေရ်ပင့်ဘိတ်၍ သုနာပရန္တတိုင်းသို့ကြွတော်မူမည့်နေ့ စာရေးတံလက်ဦးယူသောကြောင့် အရှင်ကုဏ္ဍဓာနမထေရ်ကို စာရေးတံဦးယူသောအရာ၌ ဧတဒဂ်ထားတော်မူသည်ဆိုရာ ဥပရိပဏ္ဏာသအဋ္ဌကထာ, သဠာယတန သံယုတ်အဋ္ဌကထာများ၌ သုနာပရန္တသဒ္ဒါနှင့်ဆိုသည်၊ ဓမ္မပဒအဋ္ဌကထာ, အင်္ဂုတ္တိုရ်အဋ္ဌကထာများ၌ အပ ရန္တသဒ္ဒါနှင့်ဆိုသည်၊ ဤသို့ သုနာပရန္တသဒ္ဒါနှင့် အပရန္တသဒ္ဒါကိုအနက်တူ ပရိယာယ် အဖြစ်ဖြင့် အဋ္ဌကထာတို့၌ဆိုသောကြောင့် သိရသတည်း၊ မန္တလေးတ်စကြာမင်းနတ်ပြည်သို့တက်၍ သားကြီးရတနာကိုပြန်လည်စေသည်ကာလ အတူပါသောလေးကျွန်းသားတို့တွင် မြောက်ကျွန်းသားတို့နေရာကား ကုရုတိုင်း,အရှေ့ကျွန်းသားတို့နေရာကားဝိဒေဟတိုင်း,အနောက်ကျွန်းသားတို့နေရာကား အပရန္တတိုင်းမည်ကြောင်းကို သတိပဋ္ဌာနသုတ် အဋ္ဌကထာ၌ဆိုသည်နှင့်အညီ သုနာပရန္တမည်ကြောင်းကိုရှေးဆရာတို့ဆိုသော မှတ်စာရှိသောကြောင့်သိရသတည်း။

### သုနာပရန္တတိုင်းနှင့်အပရန္တတိုင်း

မန္ဓာတ်မင်း၏ သားကြီးရတနာနှင့်အတူပါသော အနောက်ကျွန်းသားတို့၏ နေရာဖြစ်၍ သားကိုဟောသော သုနသဒ္ဒါနှင့် သုနာပရန္တတိုင်း-ဟူ၍၎င်း၊ သုနသဒ္ဒါကိုမယှဉ်ဘဲအပရန္တတိုင်း-ဟူ၍၎င်းကျမ်းဂန်များ၌ အမည်နှစ်ပါးဖြင့် ခေါ်ဝေါ်သတည်း၊ဇမ္ဗူဒိပ်မြေအပြင်တွင် သုနာပရန္တတိုင်းမ, တိုင်းကြီး အထင်အရှား အကျော်အစောဖြစ်ကြောင်းကိုလည်း "စဏ္ဍာခေါ ပုဏ္ဏ သုနာပရန္တကာ မနုဿာ" အစ

ရှိသည်ဖြင့်ပုဏ္ဏောဝါဒသုတ်၌ ရွှေနူတ်တော်ထွက် ပါဠိရှိသောကြောင့် သိရသည်။

### သုဝဏ္ဏဘုမ္မိတိုင်း

သုဝဏ္ဏဘုမ္မိတိုင်းဟူသည်လည်း သထုံမြို့ခရိုင်ဇနပုဒ်ပင်တည်း၊ အဘယ်ကြောင့် သိရသနည်းဟူမူကား-သုဝဏ္ဏဘုမ္မိတိုင်းနှင့် သိဃိုဠ်ကျွန်းသည် ယူဇနာခုနစ်ရာကွာ၏၊ လေမှုသယ်တဖြောင့်တည်းသင့်လျှင် ခုနစ်ရက်တာသင်္ဘောသွားရ၏၊ ရံခါ ထိုယူဇနာ ခုနစ်ရာမျှလောက်သော ခုနစ်ရက်သင်္ဘောခရီး၌ ဝင္ကမည်သောငါးတို့ ကျောက်ကုန်းချင်းစပ်မျှရှိ၏၊ ထို့ကြောင့် ကြည်းနေသတ္တဝါထက် ရေနေသတ္တဝါသာ များ၏ဟု ကေဂ္ဂတ္တရအဋ္ဌကထာ၌ သမုဒ္ဒရာအနီးအပါး၌ဆိုသောကြောင့် လည်းကောင်း, စာဟောင်းစာတမ်းရှိသောကြောင့် လည်းကောင်း သိရသတည်း၊ ကလျာဏီကျောက်စာတွင်သုဓမ္မပုရဟုပါ၍စီရကားသုဓမ္မမြို့ကို တံခွန်လွှား၍ကာလလျားသဖြင့်သထုံခေါ်ဝေါ်သတည်း၊အချို့သူတို့ကား ရွှေမျက်ပါးခတ်ရာ ခံရာသောမြေရှိသည်ကို အစွဲအမှတ်ပြု၍ ဇင်းမယ်ခရိုင်ကိုသုဝဏ္ဏဘုမ္မိတိုင်းဟုအတွေးအဆနှင့် ဆိုကြကုန်၏၊အရပ်အနေမသင့် စာဟောင်းစာတမ်းလည်းမရှိ၊အချို့သူတို့လည်း ယိုးဒယားခရိုင်ကို သုဝဏ္ဏဘုမ္မိတိုင်းဟုအတွေးအထင်နှင့်ဆိုကြကုန်၏၊သက္ကရာဇ်၁၁၅၁-ခုနှစ် ရာပြတ်သိရိစန္ဒရတ်တို့တွင်ပါသော သိဃိုဠ်ကသံစာတွင် ရှမ်းဟူသောအမည်ကိုစွဲ၍ ယိုးဒယားခရိုင်ကို သျာမရဋ္ဌဟုပါ၍စီသည်နှင့်မညီ။

[ယောနကတိုင်းဟူသည်လည်းယွန်းပန်းသေးတို့နေရာဇနပုဒ်ပင်တည်း၊ ထိုအကြောင်းကိုသဒ္ဒါထင်လင်းနှင့်ဖြစ်၍သိသာပြီ။]

### မြန်မာနိုင်ငံတော်သုံးရပ်

ဤဆိုခဲ့ပြီးသောအပရန္တတိုင်း, သုဝဏ္ဏဘုမ္မိတိုင်း, ယောနကတိုင်း သုံးရပ်သည် အာဒိစ္စဝံသ မြန်မာ့ဦးစွန်း မင်းအဆက်ဆက် လက်နက်နိုင်ငံဖြစ်၏၊ ထို့ကြောင့် သာသနာတော် ၂၃၅-ခုနှစ်က သိရိဓမ္မာသောကမင်းလက်ထက် အရှင်မောဂ္ဂလိပုတ္တတိဿ မထေရ်စေ၍ ရဟန္တာကြီးတို့သာသနာပြုသော ပစ္စန္တရာဇ်[၁]ကိုး၌ာနတွင် ယခင်သုံး

၁။ ပစ္စန္တရာဇ်-တိုင်းကြီးပြည်ကြီး၏အစွန်အဖျား။

ဌာနသည် မရမ္မမဏ္ဍလ[၁]အဝင်အပါဖြစ်ရကား သာသနာပြုစေသည့် ကာလလည်း ငါတို့မြန်မာတိုင်းနိုင်ငံသို့ သာသနာတော်မြတ် အမွန် အဆက် သုံးကြောင်းသုံးသွယ်ပင်သက်ဆင်းသတည်း။

## မြန်မာနိုင်ငံတော်သို့ဘုရားရှင်ကြွလာတော်မူခြင်း

ထိုမှတပါးလည်း ငါတို့သုနာပရန္တတိုင်း၌ ဝါဏိဇ္ဇဂါမရွာသား စူဠပုဏ်, မဟာပုဏ်ညီနောင်နှစ်ပါးကိုစွဲ၍ ဘုရားသခင်ထင်ရှားရှိ တော်မူစဉ်ကပင် သာသနာတော်မြတ်သက်ဆင်းစ မူ၏၊ အမြဲအစွဲ အ ပြန့်အနှံ့ကား မတည်မထွန်းလေ၊ စူဠပုဏ်ကားသရဏဂုံတည်ဥပါသ ကာ,မဟာပုဏ်ကား ရဟန္တာအပဒါန်ကျမ်းဝင်မဟာသာဝကတည်း၊ လက်လေးသစ်ခန့်မျှပင် အဘိုးတသိန်းထိုက်သော ဂေါသီတစန္ဒကူးနီ ဖြင့် ကုန်သည်တို့က စန္ဒကူးတန်ဆောင်း ကျောင်းဆောက်သည့်ကာလ လည်း နောင်အခါ သာသနာတော် အဟုတ်အဟတ် အရှည်တည် ထွန်းမည်ကိုအကြောင်းပြု၍ အရှည်မြော်ထောက်တော်မူလျက် ဘုရား သခင် အကြိမ်ကြိမ်ကြွလာတော်မူ၏၊ သစ္စဗန်, ဣသိဒိန္နစသောသူတို့ အားလည်း အကျွတ်တရားပေးတော်မူ၏၊ ဤသို့ပုဏ္ဏ,သစ္စဗန်သူမွန်တို့ က အရင်းစ၍ သုနာပရန္တ မြန်မာတိုင်းပြည်၌ ဘုရားသခင်လက်ထက် ဝါတော် ၂၀- ကျော်ကပင် သာသနာတော်မြတ် သက်ဆင်းစဖြစ် ကြောင်းကိုလည်း ပုဏ္ဏောဝါဒသုတ် အဋ္ဌကထာ၌ ဆိုသည်။

[ဝတ္ထုစကား အကျယ်ကိုလိုလျှင် အမရပုရမြို့တည်နန်းတည်ဆဋ္ဌန် ဆင်မင်းသခင်မင်းတရားကြီး လက်ထက်တော်က သိဿိုဠ်သို့ပြန်ပေးသော သန္ဒေသကထာမှာယူလေ။]

## တပုဿနှင့်ဘလ္လိကတို့အကြောင်း

အာဒိစ္စဝံ့သမြန်မာ့ဦးစွန်း မင်းအဆက်ဆက် လက်နက်နိုင်ငံဖြစ် သောသုဝဏ္ဏဘုမ္မိတိုင်း၌လည်း အသိတဥ္စနပေါက္ခရဝတီမြို့သား တပု ဿ,ဘလ္လိကညီနောင်ကိုစွဲ၍ ဘုရားသခင်လက်ထက်တော်ကပင် သာသ နာတော်မြတ်သက်ဆင်းစ မူ၏၊ အမြဲအစွဲအပြန့်အနှံ့ကား မတည် မထွန်းလေ၊ တပုဿကား သောတာပန်ဥပါသကာ, ဘလ္လိကကား

---

၁။ မရမ္မမဏ္ဍလ-မြန်မာပြည်အဝန်း။

ရဟန္တာအပဒါန်ကျမ်းဝင် သာဝက-ဟူ၍ ထေရဂါထာအပဒါန်ကျမ်း များ၌ဆိုသည်။

ဘုရားဖြစ်တော်မူသည့်က သတ္တဌာန၌ သတ္တသတ္တာဟ စေ့၍ ခုနစ်ရက်ခုနစ်ကြိမ်လေးဆယ့်ကိုးရက်ပတ်လုံး မျက်နှာသစ်ခြင်း,ကိုယ်တော်ကိုသုတ်သင်ခြင်း,အာဟာရဘုဉ်းပေးသုံးဆောင်ခြင်း ကိစ္စမရှိ၊ဈာနသုခ,မဂ္ဂသုခ,ဖလသုခဖြင့်သာ လွန်တော်မူ၏၊ ၄၉-ရက် စေ့သောနေ့အရုဏ်တက်သောအခါ၌ မျက်နှာသစ်လိုသော နှလုံးတော်ဖြစ်သည်ကိုသိကြား မင်းသိ၍ ဆေးကိစ္စကို ပြီးစေတတ်သော ကြစုသီး, ကွမ်းရိုးဒန်ပူ, အနဝတတ်မျက်နှာသစ်ရေများကို ကပ်လှူလာလျှင် ကြစုသီးကို ဘုဉ်းပေးတော်မူသော် ဘုဉ်းပေးတော်မူခြင်းပင် ကိုယ်တော်သုတ်သင်ခြင်းကိစ္စပြီး၍ ကွမ်းရိုးဒန်ပူ, အနဝတတ်မျက်နှာသစ်ရေများဖြင့် မျက်နှာသစ်တော်မူပြီးတွင် ရှေးပဌမဘဝက ကုန်သည်ညီနောင်တို့၏ အမိဖြစ်ခဲ့ဘူးသော ထိုတောအုပ်၌ရှိသောနတ်သမီးသည် လှည်းငါးရာတို့ကို မလည်မသွားတတ်အောင် ချုပ်လေသောကြောင့် ဗလိနတ်စာပေးခြင်း,ပသခြင်းကိုပြုကုန်သော် အချင်းကုန်သည်တို့....ဤလင်းလွန်းပင်ရင်း၌ ဘုရားသခင်ရှိတော်မူ၏၊သင်တို့မှာပါသော ပျားမုံ့ဆုပ်, မုံ့ကြွက်ကျစ်များဖြင့် လုပ်ကျွေးကြလေ ဟု နတ်သမီးဆိုလျှင် ဆိုတိုင်းလုပ်ကျွေးကြ၍ ဒွေဝါစိကသရဏဂုံ ဆောက်တည်လေကုန်၏၊ ထို့ကြောင့် ကုန်သည်ညီနောင်တို့သည်ယောက်ျားတို့တွင်ရှေးဦးစွာသရဏဂုံ တည်သောအရာ၌ တေဒဂ်ရကုန်သည်၊ မိန်းမတို့တွင်ကား ဂဏာနိဂြွမ်းလှူသော သုဇာတာသည်-ရှေးဦးစွာသရဏဂုံတည်သောအရာ၌ တေဒဂ်ရသတည်း။

[မန္ထဉ္စ မဓုပိဏ္ဍိကာယ စာတိ အဗဒ္ဓသတ္တုနာ၊သပ္ပိမဓုဖာဏိတာဒီဟိ ယောဇေတွာ ဗဒ္ဓသတ္တုနာ စ-ဟူ၍မဟာဝါအဋ္ဌကထာ၌ဘွင့်ရကား ထောပတ်,ပျား, တင်လဲစသည်တို့နှင့်ယှဉ်၍ ဘွဲ့ဆုပ်သော မုံ့ကိုပျားမုံ့ဆုပ်ဆိုသည်၊ထိုသို့မဘွဲ့မဆုပ်သော အသီးအခြားစီ မာမာသွေ့သွေ့လုပ်သော မုံ့ကို မုံ့ကြွက်ကျစ်ဆိုသည်-မှတ်လေ။]

ထိုအခါ ကိုးကွယ်ပူဇော်ရာကို တောင်းကုန်သော်လက်ျာလက်တော်ဖြင့် ဦးခေါင်းတော်ကိုသုံးသပ်၍ လက်တော်တွင် ကပ်ငြိပါလာသော ဆံတော်ရှစ်ဆူကိုပေးတော်မူမှ ရာမညတိုင်းဥက္ကလာပဇနပုဒ် အာသိ

တဥ္စနမည်သော မိမိတို့နေရာ ပေါက္ခရဝတီမြို့သို့ ပြန်လည်ကုန်ပြီးလျှင် ရွှေကြုတ်တွင် ဆံတော်ရှစ်ဆူကိုထည့်၍ ဌာပနာသွင်းပြီးမှ လောကသုံးပါးတွင် ဘုရားဖြစ်တော်မူပြီးနောက် လက်ဦးမဆွ ပဌမစင်စစ်ဖြစ်သော ဆံတော်စေတီတည်ထားကိုးကွယ်လေကုန်၏။

သုဝဏ္ဏဘုမ္မိတိုင်းသည်လည်း ဥက္ကလာပဇနပုဒ် ရာမညတိုင်း အဝင်အပါဖြစ်၏၊ ထို့ကြောင့် တပုဿ, ဘလ္လိက ညီနောင်နှစ်ပါးကိုစွဲ၍ သုဝဏ္ဏဘုမ္မိတိုင်း၌ ဘုရားဖြစ်တော်မူဦး သတ္တသတ္တာဟ ခုနစ်ရက် ခုနစ်ကြိမ် လေးဆယ့်ကိုးရက်အစွေ့ ဝါဆိုလဆန်း ၃-ရက်နေ့ ဘုရားလက်ထက်တော်ကစ၍ သာသနာတော် သက်ဆင်းကြောင်းကို သိအပ်သတည်း။

[ဝတ္ထု၊ စကားအကျယ်ကိုလိုလျှင် ရွှေတိဂုံထောမနာ စာတမ်းမှာရှုလေ။]

မြန်မာနိုင်ငံတော်သို့ သာသနာပြုရောက်လာပုံအကြောင်း ပြီး၏။

---

## ၇–အရှင်ဥပါလိမှဆင်းသက်သော ဆရာစဉ်ဆက်အကြောင်း

''ဘုရားတပည့်အရှင်ဥပါလိကစ၍သာသနာပြုဆရာစဉ်ဆက်ကို သိချင်ပါသည်''ဟု စာတမ်းတွင်အမေးပါသည့်အတိုင်းဝိနည်းကိုဆောင်သောအရာ၌ ဧတဒဂ်ရသော ဘုရားတပည့်ရှင်း အရှင်ဥပါလိမထေရ်ကစ၍ ပေထက်တင်သော စတုတ္ထသင်္ဂါယနာ တိုင်အောင်သော ဆရာစဉ်ဆက်ကိုဆိုပေအံ့။

### ဇမ္ဗူဒိပ်ဆရာစဉ် ၅-ဆက်

''ဥပါလိဒါသကောစေဝ'' အစရှိသော ဂါထာ နှစ်ဆယ်ကျော်ဖြင့် ပါရာဇိကဏ်အဋ္ဌကထာ,ပရိဝါပါဠိတော်များ၌ ဆရာစဉ်ဆက်ကိုပြသည်၊ ဂါထာပါဠိအနက်ကိုဆိုသော် ကျယ်လွန်းခဲ့၏၊ အမိပ္ပါယ်မျှပြသော်ကား–

၁။ အရှင်ဥပါလိသည် ဧတဒဂ်ရ အသီတိမဟာသာဝကအဝင်,

၂။ ထိုအရှင်တပည့်ကား-အရှင်ဒါသက,

၃။ ထိုအရှင်တပည့်ကား-အရှင်သောဏက,

၄။ ထိုအရှင်တပည့်ကား-အရှင်သိဂ္ဂဝ,
၅။ ထိုအရှင်တပည့်ကား-အရှင် မောဂ္ဂလိပုတ္တတိဿ,

[ဤကား ဇမ္ဗူဒိပ်၌ ဆရာစဉ်ဆက်တွင် လက်ဦးရဟန္တာကြီးငါးပါး တို့တည်း။]

### သီဟိုဠ်ကျွန်းသို့သာသနာသက်ဆင်းပုံ

သိရိဓမ္မာသောကမင်းကြီး သားတော် အရှင်မဟိန္ဒကို အရှင် မောဂ္ဂလိပုတ္တတိဿ၏ဥပဇ္ဈာယ်ယူတပည့်ရင်းဖြစ်၍ သာသနာ ၂၃၅-ခု နှစ်၊တန်ဆောင်မုန်းလတွင် ဗျာဒိတ်ထားတော်မူခဲ့သည့်အတိုင်း ဣဋ္ဋိယ, ဥတ္တိယ, သမ္ဗလ, ဘဒ္ဒသာလ၊ ဤမထေရ်လေးပါးနှင့်တကွ သီဟိုဠ် ကျွန်းသို့ အရှင်မောဂ္ဂလိပုတ္တတိဿက သာသနာ ပြုစေတော်မူသည်၊ နောင်သောအခါ မဟိန္ဒမည်သောရဟန်းသည် သီဟိုဠ်ကျွန်းလူများကို ကြည်ညိုစေလတ့်-ဟု ဘုရားဗျာဒိတ်ထားတော်မူခဲ့သတည်း။

အခြားသာသနာပြုဆရာများကား - သာသနာ ၂၃၅-ခုနှစ် တန် ဆောင်မုန်းလ စေခိုင်းဦးကပင် သာသနာပြုကြွတော်မူကြ၏၊ အရှင် မဟိန္ဒကား ခုနစ်လဆိုင်းလင့်၍ သာသနာ ၂၃၆-ခုနှစ်နယုန်လပြည့် နေ့မှ သီဟိုဠ်ကျွန်းသို့ သာသနာပြု ကြွတော်မူသတည်း၊ ထို့ကြောင့် ကိုးဌာနတွင်သီဟိုဠ်ကျွန်းသို့၂၃၆-ခုနှစ်မှ သာသနာပြုကြွသည်၊အခြား ရှစ်ဌာနသို့ ၂၃၅-နှစ်ခုကပင် သာသနာပြုကြွသည်-ဟု သီးသန့်၍မှတ် လေ၊မဆင်ခြင်မိလျှင် စကားထွေးယှက်တတ်၏။

### မေးမြန်းဘွယ်

မေး။ အဘယ့်ကြောင့် ၂၃၆-နှစ်မှ သီဟိုဠ်ကျွန်းသို့ သာသနာပြု ကြွသနည်း-ဟူမူကား—

ဖြေ။ သီဟိုဠ်မင်း မုဋသိဝသည် အိုမင်းလေပြီ၊ သာသနာကိုချီး မြှင့်ခြင်းငှါ မတတ်နိုင်၊ ထိုမင်း၏သား ဒေဝါနံပိယတိဿ ကား ပျိုရွယ်၏၊သာသနာကို ချီးမြှင့်နိုင်လတ့်၊ထိုမင်းသား လည်း မင်းပြုစေဦး၊ ဝေဒိသမြို့မှာရှိသော မယ်တော်နှင့် ဆွေတော် မျိုးတော်တို့ကိုလည်း တွေ့မြင်ရစေဦး၊ ဤအ ကြောင်းနှစ်ပါးကို မြော်ထောက်သဖြင့် ခုနစ်လ ဆိုင်း

လင့်တော်မူ၍ ၂၃၆-ခုနှစ်မှ အရှင်မဟိန္ဒ သာသနာပြုကြွ
တော်မူသတည်း။

ယခင်မထေရ်ငါးပါး, တူတော်သုမနသာမဏေ, ဘဏ္ဍုက ဉပါသ
ကာနှင့် တကွ ခုနစ်ပါးလုံး ၂၃၆-ခုနှစ် နယုန်လပြည့်နေ့ ဒွေ့ဟသ်ာ
မင်းကဲ့သို့ ဇမ္ဗူဒီပါကပျံကြွ၍ အနုရာဓမြို့ရှေ့ မိဿကတောင်ထွတ်၌
တည်တော်မူကုန်၏၊ ထိုနယုန်လပြည့်နေ့ကား-သိင်္ဟိုဠ်ကျွန်းမှာ ဇေဋ္ဌ,
မူလနက္ခတ်သဘင်နှင့်ကြုံကြိုက်၍ ပွဲလမ်းသဘင်ခံကြသတည်း။

[ဇေဋ္ဌမာသဿပုဏ္ဏမိယံ ဇေဋ္ဌနက္ခတ္တံ မူလနက္ခတ္တံဝါ ဟောတိ-ဟူ၍ သာရတ္ထ ဒီပနီဋီကာ၌ ပုဏ္ဏမီနက္ခတ်ကို ရာဇမတ္တံပုဏ္ဏမီ နက္ခတ်ချနည်း အတိုင်း ဆိုသည်မှတ်လေ။]

ထိုအခါ ဒေဝါနံပိယတိဿမင်း၏ ပညာ ရှိ, မရှိကိုစုံစမ်းလို၍ အနီး
၌ရှိသော သရက်ပင်ကို အကြောင်းပြုလျက်—

မေး။ မင်းမြတ်··ဤသစ်ပင်ကား အဘယ်မည်သနည်းဟု မထေရ်
ကမေးတော်မူ၏။

ဖြေ။ သရက်ပင်မည်သည်ဟု လျှောက်လျှင်—

မေး။ ဤသရက်ပင်ကို လွှတ်၍ အခြားသရက်ပင် ရှိ,မရှိ မေး
တော်မူပြန်၏။

ဖြေ။ အခြားသရက်ပင်တို့ အများရှိကြောင်းကို လျှောက်သော်—

မေး။ ဤသရက်ပင်, အခြားသရက်ပင်တို့ကိုလွှတ်၍ အခြား သစ်
ပင်များရှိ, မရှိကို မေးတော်မူပြန်၏။

ဖြေ။ အခြားသစ်ပင်တို့ အများပင်ရှိကုန်၏၊ သရက်ပင်ကား
မဟုတ်ကုန်-ဟု လျှောက်မှ—

မေး။ အခြားသရက်ပင်, အခြားသစ်ပင်တို့ကိုလွှတ်၍ အခြား
သစ်ပင် ရှိ,မရှိမေးတော်မူပြန်၏။

ဖြေ။ ယခင်လက်ဦး သရက်ပင်သာ ဖြစ်တော့သည်-ဟု လျှောက်
သည်ကို—

မင်းမြတ်····ပညာရှိပေစွ-ဟူ၍ သာဓုခေါ်တော်မူ၏။

မေး။ မင်မြတ်အား ဆွေမျိုးရှိ၏ လော-ဟု မေးတော်မူပြန်၏။

ဖြေ။ အများပင်ရှိကြောင်းကို လျှောက်လျှင်—

မေး။ ထိုဆွေမျိုးတို့ကိုလွှတ်၍ ဆွေမျိုးမတော်သောသူတို့ ရှိ,မရှိ မေးတော်မူပြန်၏။

ဖြေ။ ဆွေမျိုးတော်သသူတို့ထက် မတော်သသူတို့ များကုန်သေး၏ဟု လျှောက်သော်—

မေး။ ဆွေမျိုးတော်သသူ, မတော်သသူတို့ကိုလွှတ်၍ အခြားသူရှိဦးမည်လောဟု မေးတော်မူပြန်၏။

ဖြေ။ အကျွန်ုပ်သာဖြစ်တော့သည်ဟု လျှောက်သည်ကို-

မင်းမြတ်....မိမိကိုယ်သည် မိမိ၏ဆွေမျိုးလည်းမတော်၊ ဆွေမျိုးမတော်သည်လည်းမဟုတ်၊ ဖြေခြင်းကောင်းပေ၏၊ ပညာရှိပေစွ-ဟု သာခုခေါ်တော်မူ၏။

ဤသို့မေးမြန်းသဖြင့် စုံစမ်းပြီးမှ ဤမင်းသည်တရားကိုသိနိုင်လောက်အောင်ပညာရှိ၏၊သာသနာကိုချီးမြှင့်ခြင်း၌ စွမ်းနိုင်လတံ့ဟု နှလုံးချတော်မူ၏၊ဤသို့သောအကြောင်းကိုထောက်၍ ပျို့ရွယ်စွမ်းသန်မှ,ပညာလည်းရှိမှ သာသနာကိုချီးမြှင့်နိုင်သည်-ဟု သမန္တပါသာဒိက အဋ္ဌကထာ၌ဆိုသည်။

### သီဟိုဠ်ကျွန်း ဆရာစဉ် ၂၇-ဆက်

ထိုသို့သီဟိုဠ်ကျွန်း၌ သာသနာပြုသော အရှင်မဟိန္ဒက ပွားများလေသော ဆရာဆက်,တပည့်ဆက်ကား—

၁။ အရှင်အရိဋ္ဌ,
၂။ အရှင်တိဿဒတ္တ,
၃။ အရှင်ကာလသုမန,
၄။ အရှင်ဒီဃသုမန,
၅။ တဘန်ဝှင်းအရှင်ကာလသုမန
၆။ အရှင်နာဂ,
၇။ အရှင်ဗုဒ္ဓရက္ခိတ,
၈။ အရှင်တိဿ,
၉။ အရှင်ရေဝ,
၁၀။ တဘန်ဝှင်းအရှင်သုမန,

၁၁။ အရှင်စူဠနာဂ,
၁၂။ အရှင်ဓမ္မပါလိတ ရောဟဏတိုင်း,
၁၃။ အရှင်ခေမ,
၁၄။ အရှင်ဥပတိဿ,
၁၅။ အရှင်ဖုဿဒေဝ,
၁၆။ တဘန်ဒုင်းအရှင်သုမန,
၁၇။ အရှင်မဟာပဒုမ,
၁၈။ အရှင်မဟာသိဝ,
၁၉။ တဘန်ဒုင်းအရှင်ဥပါလိ,
၂၀။ အရှင်မဟာနာဂ,
၂၁။ အရှင်အဘယ,
၂၂။ တဘန်ဒုင်းအရှင်တိဿ,
၂၃။ တဘန်ဒုင်းအရှင်သုမန,
၂၄။ အရှင်စူဠာဘယ,
၂၅။ တဘန်ဒုင်းအရှင်တိဿ,
၂၆။ အရှင်စူဠဒေဝ,
၂၇။ အရှင်သိဝ,

ဤကား ပေထက်တင်သော စတုတ္ထသင်္ဂါယနာ တိုင်အောင် ဆရာစဉ်ဆက်တည်း။

[''ယာဝစ္စတုတ္ထသင်္ဂါယနာ တေသံဒယဝအန္တေဝါသိကပရမ္ပရာဘူတာယ အာစရိယပရမ္ပရာယ အာဘတန္တိ ဝေဒိတဗ္ဗံ''ဟူ၍ အဋ္ဌကထာ၌ ဆိုသောကြောင့် ယခင်အစဉ်တွင် ရှေ့ရှေ့ကို ဆရာ, နောက်နောက်ကို တပည့်ဟု မှတ်လေ၊ထိုဆရာတို့ကပွားများသောဆရာဆက်,တပည့်ဆက်ကား ယနေ့ထက်တိုင် သိန်းသန်းမက များပြားလှ၏ဟု-သိလေ၊ ဤသို့သောဆရာစဉ်ဆက်ကို မသိမဟူသာ၊သိအောင်မှတ်သားကြမြဲတည်း။

အဘယ့်ကြောင့်နည်းဟူမူကား''တီဏိ ဟိ ဝိနယဓရဿ လက္ခဏာနိ ဣစ္ဆိတဗ္ဗာနိ''စသည်ဖြင့် နှုတ်တက်ရွရွ ပါဠိပါဌ်သားပါခြင်း,ဝိနည်းအကျင့်၌တည်တံ့ခြင်း, ဆရာစဉ်ဆက်ကို ကောင်းစွာမှတ်မိခြင်း၊ ဤသုံးပါးသည် ဝိနည်းဓိုရ်၏လက္ခဏာဖြစ်သည်၊''အဝဿံ ဒွေ တယော ပရိဝတ္တာ ဥဂ္ဂဟေတဗ္ဗာ'' အယုတ်သဖြင့် ဆရာနှစ်ဆက် သုံးဆက်ကိုပင်လည်း အောက်မေ့

တည္တလျှင် စိတ်တွင်ဆီမီးတောက် ဆီမီးလျှံကဲ့သို့ လင်းလင်းထင်အောင် မှတ်အပ်သည်-ဟူ၍ အဋ္ဌကထာ၌ ဆိုသောကြောင့် ဆရာစဉ်ဆက်ကို ကောင်းစွာမှတ်သားအပ်သတည်း။]

အရှင်ဥပါလိမှဆင်းသက်သော ဆရာစဉ်ဆက်အကြောင်း ပြီး၏။

## ၈—ပိဋကတော်ကိုနှုတ်ဖြင့်သာဆောင် ကြပုံအကြောင်း

ဤဆိုအပ်ခဲ့ပြီးသော ဆရာ,တပည့် အဆက်ဆက်တို့သည် ဘုရားလက်ထက်တော်ကစ၍ ပေထက်မတင်မီ ပိဋကတော်ကို နှုတ်တက်သာဆောင်ကုန်သည်၊ အပြည့်အစုံမရေးသားမထားကြကုန်၊ နှုတ်တွင်သာထိန်းသိမ်းသဖြင့် အလွန်ငြိုငြင်ခဲခက်သောအမှုကို ပြုကြပေသည်၊ ထိန်းသိမ်းဆောင်ရွက်သော နည်းအမြွက်ကား သီဟိုဠ်ကျွန်း၌ပြည်ရွာကိုလုယက်သော စဏ္ဍာလတိဿ မည်သော ဒွန်းစဏ္ဍား သူပုန်းစားဘေးဖြစ်သောအခါ မိုယ်းကောင်းစွာမရွာ မလုပ်ဆောင်ရ၍တော်မွတ်ကြလတ်သော် သိကြားမင်းလာ၍ အရှင်ဘုရားတို့….ပိဋကကိုမဆောင်နိုင်ကုန်လတ့်၊ ဤဘောင်ကိုစီး၍ ဇမ္ဗူဒိပ်သို့ကူးပါကုန်၊ ဘောင်မဆံ့လျှင် သစ်တုံး, ဝါးလုံးကိုပင် ရင်ဖြင့်အပ်၍ ကူးပါကုန်၊ ဘေးမဖြစ်ရအောင် ကျွန်ုပ်စောင့်ရှောက်ပါအံ့ဟု-ရဟန်းတို့အား လျှောက်ကြား၏။

ထိုရောအခါ ရဟန်းခြောက်ကျိပ်တို့သည်သမုဒ္ဒရာနားသို့ ရောက်မှပင် ဇမ္ဗူဒိပ်သို့မကူးလိုပြီ၊ ဤတွင်သာနေ၍ ပိဋကကိုဆောင်ရွက်စောင့်ရှောက်ကုန်အံ့ဟု ကတိကဝတ်ပြုလျက် သဘော်ာဆိပ်ကပြန်ခဲ့ပြီးမှသီဟိုဠ်ကျွန်းအစိတ်မလယဇနပုဒ်သို့သွား၍ သစ်ဖု,သစ်မြစ်,သစ်ရွက်ဖြင့်သာ ကိုယ်ကိုမျှစေသဖြင့် ပိဋကစာပေသရဇ္ဈာယ်ံတော်မူကုန်၏၊ ဆာလောင်ခြင်းပြင်းလှ၍ မသရဇ္ဈာယ်နိုင်သောအခါ သဲကိုစုပုံ၍ဝမ်းအောက်ကထားပြီးမှ တခုတည်းသောအရပ်၌ ဦးခေါင်းဆိုက်ကုန်လျက် ပိဋကစာပေတို့ကို စိတ်ဖြင့်ဆင်ခြင်ကုန်၏၊ ဤသို့လျှင် ၁၂-နှစ်ပတ်လုံးအဋ္ဌကထာနှင့်တကွ ပိဋကသုံးပုံကို မကွယ်မပျောက်ရအောင်ဆောင်ရွက်စောင့်ရှောက်တော်မူကုန်၏။

---

၁။ သရဇ္ဈာယ်-နှုတ်ဖြင့်ရွတ်ခြင်း။

၁၂-နှစ်စေ့၍ဒွန်းစဏ္ဍားသူပုန်းစားဘေးပြေငြိမ်းသောအခါ ယခင် ဇမ္ဗူဒိပ်သို့ကူး၍ပိဋကကိုဆောင်ရွက်စောင့်ရှောက်ကြလေသောရဟန်း ခုနစ်ရာတို့ပြန်လာ၍ သီဟိုဠ်ကျွန်းအစိတ်ကလ္လာရာမဇနပုဒ် မဏ္ဍလာ ရာမကျောင်းသို့ရောက်ကုန်၏၊ ဇမ္ဗူဒိပ်သို့မကူးဘဲ သီဟိုဠ်ကျွန်းတွင် ကျန်ရစ်သော ရဟန်းခြောက်ကျိပ်တို့လည်း မဏ္ဍလာရာမကျောင်းသို့ သွား၍ဖူးတွေ့ကြသော် အဋ္ဌကထာနှင့်ဘက္က ပိဋကသုံးပုံကိုတိုက်ဆိုင် တည်းပြင်ကြသည်၊ တပုဒ်တသဝေမျှမချွတ်မလွဲကြ၊ ဂင်္ဂါရေနှင့် ယမုနာ ရေကို ရောနှောသော်ညီညွတ်သကဲ့သို့ ဇမ္ဗူရာဇ်ရွှေစင်ကို ဖြတ်၍စံသော် ရောင်လျှံမထူးမပြားညီညွတ်ကြလေသည်၊ ဤသို့လျှင် ပိဋကတော်ကို နှုတ်တက်သာ ဆောင်ကုန်သည်၊ အပြည့်အစုံ မရေးသား မထားကြ ကုန်၊ နှုတ်တွင်သာထိန်းသိမ်းသဖြင့် အလွန်ငြိုငြင်ခဲခက်သောအမှုကိုပြု ကြသတည်း။

ပိဋကတော်ကို တပုဒ်တပါဒမျှ မယိုယွင်းရအောင် သင်ကြား ဆောင်ရွက်ကြသည့်အရာလည်း အလွန်ငြိုငြင်ခဲခက်လှပေ၏၊ သီဟိုဠ် ကျွန်းတွင် ပုနဗ္ဗသုမည်သောသူကြွယ်သားတိဿမထေရ်သည် စာပေ သင်စဉ်ကာလ သီဟိုဠ်ကျွန်းက ဇမ္ဗူဒိပ်သို့ကူး၍ ယောနကတိုင်း ဓမ္မ ရက္ခိတမထေရ်အထံ၌ ပိဋကကိုသင်၏၊ တတ်မြောက်ပြီအမှတ်နှင့် သီဟိုဠ်ကျွန်းသို့ပြန်ခဲ့သော် သဘော်ဆိပ်သို့ရောက်မှ တခုတည်းသော ပုဒ်၌ယုံမှားသက်ာဖြစ်ခဲ့၏၊ ထိုသဘော်ဆိပ်နှင့် ယောနကတိုင်းကား ယူဇနာတရာကွာဝေးသတည်း၊ ထိုသို့စင်လျက် တပုဒ်အတွက်ကြောင့် ယူဇနာတရာခရီးကိုပြန်၍ ဆရာ့အထံသို့ သွားလေသော် ခရီးအကြား၌ သူကြွယ်တဦးမေးသောပြဿနာကိုဖြေ၍ ကြည်ညိုသဖြင့်လှူသော တ သိန်းထိုက်သော ကမ္ဗလာတထည်ကို ဓမ္မရက္ခိတမထေရ်အားလှူလေ ၍ မထေရ်ကပြန်လာကြောင်းကိုမေးလျှင် တခုသောပုဒ်၌ယုံမှားသက်ာ ရှိ၍ ယူဇနာတရာခရီးကိုစင် ပြန်လျက် ဆရာမှမေးမြန်းလာသည်ဟု နောင်လာသူတို့ပြောပရစ်၍ အကျွန်ုပ်ကဲ့သို့ကျင့်ကြပါစေဟုနှလုံးထား လျက် ပြန်လာကြောင်းကိုလျှောက်ပြီးမှ ယုံမှားသက်ာကင်းအောင်ပြု ၍သီဟိုဠ်ကျွန်းသို့ပြန်မြဲပြန်လေ၏။

ဤသို့ ဝိဘင်းအဋ္ဌကထာ လာသည့်အတိုင်း ပိဋကတော်ကိုတပုဒ်တပါဒမျှ မယိုမယွင်းရအောင် သင်ကြားဆောင်ရွက်သည့်အရာလည်း အလွန်ငြိုငြင်ခဲခက်လှပေသတည်း၊ အများအဆောင်အရွက်မရှိ ပိဋကတော် ကျမ်းဂန်ကွယ်ပျောက်လုသည်ကို မကွယ်မပျောက်ရအောင် ထိန်းသိမ်းစောင့်ရှောက်သည့်အရာသည်ငြိုငြင်ခဲခက်စွာ၏၊ အရှင်သာရိပုတ္တရာဟောသော မဟာနိဒ္ဒေသကျမ်းကို အများဆောင်ရွက်မည့်သူမရှိကွယ်ပျောက်လုလျှင် သီဟိုဠ်ကျွန်းတွင် အလဇ္ဇီရဟန်းတဦးဆောင်ရွက်လေ့လာသည်ကို မဟာတိပိဋက မထေရ်သိ၍ မဟာရက္ခိတမထေရ်ကိုထိုရဟန်းထံ မဟာနိဒ္ဒေသကျမ်းကိုသင်ကြားပါ-ဆိုသည်ကို ထိုရဟန်းအလဇ္ဇီဖြစ်ဟန်ရှိသည်၊ မသင်ကြားလို-ငြင်းဆန်သဖြင့် အခြားသူများမဆောင်မရွက် အစွန်း၌တည်၍ ကွယ်ပျောက်လုသောကျမ်းဖြစ်သည်၊ ငါတို့လည်း စောင်မပါမည်-ဟုတိုက်တွန်း၍ သင်ကြားစေသည်၊ သင်၍ပြီးသည့်နေ့ပင် ညောင်စောင်းအောက်၌ အိပ်သောမာတုဂါမကို မြင်လေသည်-ဟူ၏၊ ဤသို့ ဝိနည်းအဋ္ဌကထာလာသည့်အတိုင်း အစွန်း၌တည်၍ ကွယ်ပျောက်လုသော ပိဋကတော်ကျမ်းဂန်မကွယ်မပျောက်ရအောင် သင်ကြားဆောင်ရွက်သည့် အရာသည် ငြိုငြင်ခဲခက်စွာသတည်း။

ပိဋကတော်ကို နှုတ်ဖြင့်သာဆောင်ကြပုံအကြောင်းပြီး၏။

---

## ၉-စတုတ္ထသင်္ဂါယနာတင်ရခြင်း၏ အကြောင်းအမြွက်စကား

ဘုရားလက်ထက်တော်ကစ၍ ကာလအရှည် ယခင်ဆိုခဲ့သောဆရာစဉ်ဆက်နှုတ်တက်ဆောင်၍ နှုတ်တွင်သာစောင့်ရှောက်ထိန်းသိမ်းကြကုန်သည်၊ သတိ,ပညာ,သမာဓိကြီးမြတ်ကုန်သဖြင့် မုခပါဠ်[၁] ဖြင့်သာဆောင်ရွက်နိုင်ကုန်သည်၊ ထိုသို့ဆောင်ရွက်လေသည်ကား ကာလအားဖြင့် ၄၉၅-နှစ်လျှင် ကြာမြင့်သတည်း၊ဘုရားပရိနိဗ္ဗာန်စံလွန်တော်မူသည့်နောက် မဟာဝင်စသောကျမ်း၌လာသော သာသနာနှစ် ၄၅၀ ရောက်သော အခါ သီဟိုဠ်မင်း ၁၀-ဆက်မြောက် သဒ္ဓါတိဿမင်း

၁။ မုခပါဠ်-(မုခပါဠ) နှုတ်ဖြင့်ရွတ်အပ်သည်။

သား ဝဋ္ဋဂါမဏိမင်းနန်းစံခြောက်နှစ်တွင် နောင်သောအခါသတ္တဝါတို့ သတိ,ပညာ,သမာဓိ ယုတ်လျော့ကြ၍ မုခပါဌ်ဖြင့် နှုတ်တက်မဆောင် မရွက်နိုင်လတံ့သည်ကို မြင်တော်မူကုန်၍ ယခင်ဆရာစဉ် ဆက်မှလာသော ရဟန္တာကြီးငါးရာတို့သည်ထိုမင်းအစောင့်အရှောက်ပြုသည်ဖြစ်၍ သီဟိုဠ်ကျွန်းအစိတ်မလယဇနပုဒ် အာလောကမည်သော လိုဏ်၌ အဋ္ဌကထာနှင့်တကွ ပိဋကသုံးပုံကို ပေထက်ရေးသား တင်ထားစေကုန်၏။

ထိုသို့ပေထက်ရေးသားတင်ထားခြင်းသည် ယခင်သင်္ဂါယနာကြီးသုံးတန်မှထောက်သဖြင့် လေးကြိမ်မြောက် စတုတ္ထသင်္ဂါယနာမည်သည်-ဟူ၍တေရသကဏ်ဍီကာ၌လာသည်၊ သီဟိုဠ်ကျွန်း ဝဋ္ဋဂါမဏိမင်းနှင့် ငါတို့မြန်မာတိုင်း သရေခေတ္တရာ ရသေ့ပြည်တွင်ဝယ် ကြက်ခေါင်းစား တေပါးနှင့် မင်းပြိုင်၏၊ သာသနာနှစ် ၄၅၀-ဟု သာရတ္ထသင်္ဂဟများတွင်ဆိုသည်၊ ဘိုးတော်ဘုရားလက်ထက် သီဟိုဠ်ရဟန်းတို့ကဆက်လိုက်သော သန္ဒေသကထာတွင်ကား ၄၃၃-နှစ်ဆိုသည်၊ "တေတ္တိံသာဓိက စတုဝဿသတ ပရိမာဏကာလံ"-ဟူ၏။

စတုတ္ထသင်္ဂါယနာတင်အမြွက်စကားပြီး၏။

---

## ၁၀-သီဟိုဠ်ကျွန်း၌အဆင့်ဆင့်ဂိုဏ်းကွဲပြားခြင်းအကြောင်း

### ဂိုဏ်းကြီး ၄-ဂိုဏ်း

သင်္ဂါယနာတင်သည်မှနောက် ဇမ္ဗူဒိပ်ကျွန်း, သီဟိုဠ်ကျွန်းများ၌ ဂိုဏ်းသီးဂိုဏ်းခြားများစွာ ကွဲပြားလေသည်၊ ဇမ္ဗူဒိပ်၌ ကွဲပြားကြောင်းကို အထက်မှာမှဆိုမည်၊ သီဟိုဠ်ကျွန်း၌ကွဲပြားကြောင်းကား—

၁။ သိဃိုဠ်[၁]ကျွန်း၌သာသနာတော်တည်ထွန်းသည့်နောက် ၂၁၀-နှစ်တွင် ဝဋ္ဋဂါမဏိမင်းဆောက်သော အဘယဂိရိကျောင်း ရဟန်းတို့သည် ဝိနည်းခန္ဓကပရိဝါကို ပါဌ်ထူး, အနက်ထူး ပြုလုပ်ပြီးလျှင် မဟာဝိဟာရဝါသီဂိုဏ်းမှ ခြားနား၍ ဂိုဏ်း

---

၁။ သီဟိုဠ်ကို သိံဃိုဠ်-ဟုလည်းခေါ်ကြသည်။

သီးထောင်သောကြောင့် အဘယဂိရိဝါသီ ဂိုဏ်းဟုကွဲပြား လေသည်၊ ထိုဂိုဏ်းကိုပင် ဓမ္မရုစိဂိုဏ်းလည်းခေါ်ဝေါ်သည်။

၂။ ထိုအဘယဂိရိဝါသီဂိုဏ်းကွဲပြားသည် မှနောက် ၃၄၂-နှစ်တွင် မဟာသေနမင်းဆောက်သောဇေတဝန်ကျောင်းရဟန်းတို့သည် ဥဘတောဝိဘင်းကို ပါဠိခြား,အနက်ခြားပြုလုပ်ပြီးလျှင် အဘယဂိရိဝါသီ ဂိုဏ်းမှ ခြားနားပြန်၍ ဂိုဏ်းသီးထောင်သောကြောင့် ဇေတဝနဝါသီဂိုဏ်းဟု ကွဲပြားလေသတည်း၊ထိုဂိုဏ်းကိုပင် သာဂလိယ ဂိုဏ်းလည်း ခေါ်ဝေါ်သည်။

၃။ ထိုဇေတဝနဝါသီဂိုဏ်းကွဲပြားသည်မှ နောက် ၃၅၁-နှစ်တွင် ကုရုန္ဒဝါသီ, ကောလမ္ဗဝါသီရဟန်းတို့သည် ဘာဂိနေယျဒါဌာပတိမင်းကို အမှီပြု၍ ဥဘတောဝိဘင်းခန္ဓက ပရိဝါကို ပါဠိကွဲ,အနက်ကွဲပြုလုပ်ပြီးလျှင် ယခင်နှစ်ဂိုဏ်းမှသီးခြား၍ မဟာဝိဟာရဝါသီ ဂိုဏ်းမြတ်ကို အတုပြုလျက် မဟာဝိဟာရဂိုဏ်းတု ခြားနားထောင်ထားလေသည်။

၄။ ဤသို့ သီဟိုဠ်ကျွန်း၌သာသနာပြုအရှင်မဟိန္ဒတို့ အဆက်အနွယ်မဟာဝိဟာရဝါသီဂိုဏ်းနှင့်သော် ဂိုဏ်း ၄-ပါးကွဲပြားသတည်း။

### ဓမ္မဝါဒီနှင့်အဓမ္မဝါဒီ

ထိုလေးပါးတို့တွင် မဟာဝိဟာရဝါသီဂိုဏ်းရင်းတပါးသာ ဓမ္မဝါဒီ[၁] မှန်၏၊ကြွင်းသော ဂိုဏ်း ၃-ပါးကား အဓမ္မဝါဒီ[၂] ချည်းတည်း၊ ထိုအဓမ္မဝါဒီ ၃-ဂိုဏ်းသားတို့သည် မှန်သောအနက်အဓိပ္ပါယ်ကို ဖျက်ဆီး၍ မမှန်သော အနက်အဓိပ္ပါယ်ဖြင့် တရားကိုအလေးမပြု ကျင့်ဆောင်ကြကြောင်းကို မဟာဝင်္ဂီကာ၌ဆိုသောကြောင့် သီဟိုဠ်ကျွန်း၌ အဓမ္မဝါဒီအလဇ္ဇီ ၃-ဂိုဏ်းသားတို့သည် ပရိမဏ္ဍလ,သုပ္ပဋိစ္ဆန္နအဝတ်အရုံကို အလေးအမြတ်မပြုမကျင့်မဆောင်၊တရားတော်နှင့်မညီမညွတ်

---

၁။ ဓမ္မဝါဒီ-တရားဘက်ကပြောလေ့ရှိသူ။

၂။ အဓမ္မဝါဒီ-မတရားဘက်ကပြောလေ့ရှိသူ။

အဝတ်အရုံဘောက်ပြန် ကျင့်ဆောင်ကြသည်၊ ဦးထုပ်ဆောင်း, ဒူးကုဋ် တင်လည်း ထိုအဓမ္မဝါဒီဂိုဏ်းသားတို့တွင် အထင်အရှား ဖြစ်သည်ဟု မှတ်လေ၊ ယခင်အဓမ္မဝါဒီဂိုဏ်း ၃-ပါးကွဲပြားသည့်နောက် သာသနာ ၅၂၇-နှစ်တွင်သိရီသင်္ဃဗောဓိမင်းသည်မဟာဝိဟာရသံဃာတို့အပင်း အသင်းပြု၍အဓမ္မဝါဒီ၃-ဂိုဏ်းသားကိုနှိပ်နင်းဖျက်ဆီးလျက်သာသနာ တော်မြတ်ကိုသုတ်သင်ပြုစု၏၊ ငါတို့မြန်မာတိုင်းပုဂံပြည်နော်ရထာမင်း စောနှင့်သိရီသင်္ဃဗောဓိမင်းပြိုင်သတည်း၊ နော်ရထာမင်းစောကသိင်္ဃိုဠ် မှာ စွယ်တော်တောင်းသည့်ကာလလည်း သိရီသင်္ဃဗောဓိမင်းပင် စွယ် တော်ပေးလိုက်ကြောင်းကိုပရိတ္တနိဒါန်းတွင် ဂါထာဆောင်၍ဆိုသည်။

### ဓမ္မဝါဒီအားကောင်းသောခေတ်

ထိုနောက် သီဟိုဠ်ကျွန်း ဝေါဟာရိကတိဿမင်း လက်ထက်လည်း ကပိလအမတ်နှင့် တိုင်ပင်ပြီးမှ မဟာဝိဟာရဝါသီ သံဃာတို့ကိုမှီ၍ အဓမ္မဝါဒီဂိုဏ်းသားတို့ကို နှိပ်နင်းလျက် သာသနာတော်မြတ်ကိုသုတ် သင်ပြုစု၏၊ ထိုနောက်ဂေါဌာဘယမင်း လက်ထက်လည်း အဘယဂိရိ ဂိုဏ်းသားတို့ကို သမုဒ္ဒရာတဘက်သို့ နှင်ထုတ်လိုက်၍ မဟာဝိဟာရ ဝါသီ သံဃာတော်တို့ကိုအမှီပြုလျက် သာသနာတော်မြတ်ကို သုတ်သင် ပြုစုပြန်၏။

### အဓမ္မဝါဒီအားကောင်းသောခေတ်

ထိုနောက် ဂေါဌာဘယမင်း၏သား မဟာသေနမင်းဖြစ်လျှင် အဘယ ဂိရိဂိုဏ်းသား သံဃမိတ္တမည်သော ရဟန်းသည်[မင်းဆရာဖြစ်၍ သာသ နာတည်ဦးက အရှင်မဟိန္ဒစသောရဟန္တာတို့နေရာမဟာဝိဟာရတိုက် ပျက်စီးအောင် မဟာသေနမင်းနှင့်တိုင်ပင်၍ ဖျက်ဆီး၏၊ကိုးနှစ်တိုင် အောင် မဟာဝိဟာရတိုက်မှာ သံဃာကင်းလေဆိတ်လေသတည်း။

ဇေတဝနဝါသီဂိုဏ်းသား တိဿမည်သော ရဟန်းသည် မဟာ သေနမင်းနှင့်တိုင်ပင်၍ မဟာဝိဟာရတိုက်သိမ်ကို ဖျက်ဆီး၏၊ သိမ် နုတ်ကံမမြောက်၍ မပျက်စီးလေ၊ ဤသို့အဓမ္မဝါဒီဂိုဏ်းသားတို့ အား ကြီးလတ်သော် ဓမ္မဝါဒီဂိုဏ်းသားတို့ အားနည်း၍ သာသနာတော် မြတ်ဆုတ်ယုတ်၏၊ဓမ္မဝါဒီတို့မထင်မရှားကွယ်ကွယ်ထောင့်ထောင့်သာ ကျင့်ဆောင်ကြရလေသတည်း။

## ပြည့်ရှင်မင်းတို့သာသနာပြုပုံ

သိဟိုဠ်ကျွန်း၌ သာသနာတော်တည်ထွန်းသည့်နောက် ၁၄၇၂-နှစ်တွင်နိဗ္ဗာန်လားတော်မူသည့်နောက် ၁၇၀၀-နှစ်ရောက်သောအခါသိရီသင်္ဃဗောဓိပရက္ကမဗာဟုမဟာရာဇာမည်သောမင်းသည်သိဟိုဠ်ကျွန်း၌မင်းဖြစ်၏၊ပုဂံပြည်၌နရပတိစည်သူမင်းနှင့် အခါပြိုင်သတည်း၊ဥဒုမ္ဗရဂိရိဝါသီမဟာကဿပမထေရ်အမှူးရှိသော မဟာဝိဟာရဝါသီသံဃာတို့လည်း ထိုမင်းကိုအမှီရ၍ သာသနာတော်မြတ်ကို သုတ်သင်ပြုစု၏၊ မဟာဝိဟာရဝါသီဂိုဏ်းမှကြွင်းသောအဘယဂိရိဂိုဏ်းသားတို့ကိုဥပ္ပဗ္ဗာဇန¹ပြု၍ သန့်ရှင်းစင်ကြယ်စေ၏၊ ထိုနောက်လည်း ဝိဇယဗာဟုမင်း, ပရက္ကမဗာဟုမင်းတို့ကိုအမှီပြု၍မဟာဝိဟာရဝါသီသံဃာတို့သာသနာတော်မြတ်ကိုသုတ်သင်ပြုစု၍ အဘယဂိရိဂိုဏ်းသားတို့ကို ဥပ္ပဗ္ဗာဇနပြုရသဖြင့်မဟာဝိဟာရဝါသီဂိုဏ်းတပါးသာကြွင်း၍ သန့်ရှင်းစင်ကြယ်စွာဖြစ်သတည်း။

သိရီသင်္ဃဗောဓိမင်း, ဝေါဟာရိကတိဿမင်း, ဂေါဌာဘယမင်းတို့လက်ထက် သုတ်သင်ပြုစုသော်လည်း အဘယဂိရိဂိုဏ်းကွဲ ဂိုဏ်းခြားမကင်း၍ အချင်းခပ်သိမ်း မသန့်ရှင်းမစင်ကြယ်လေ၊သိရီသင်္ဃဗောဓိပရက္ကမဗာဟုမဟာရာဇာမင်း, ဝိဇယဗာဟုမင်း, ပရက္ကမဗာဟုမင်းတို့လက်ထက်မူကား အဘယဂိရိဂိုဏ်းကွဲဂိုဏ်ခြားမရှိ ပျောက်ကင်း၍ အချင်းခပ်သိမ်းသန့်ရှင်းစင်ကြယ်လေ၏။

## မြန်မာယိုးဒယားသံဃာများကိုပင့်ဆောင်ရခြင်း

ထိုမှနောက် ကာလရှည်လျားလတ်သော် ဘရင်ဂျီ, အာရမဏီ, ဗသီ,အင်္ဂလိပ်,အော်လန္တေစသော မိစ္ဆာဒိဋ္ဌိလူမျိုးတို့ဘေးဖြင့် သိဟိုဠ်ကျွန်း၌ သာသနာတော်ယိုယွင်းပျက်စီး၍ဂိုဏ်းပြည့်ရုံ မျှရဟန်းသံဃာမရှိသောကြောင့် မဟာဝိဇယဗာဟုမင်းလက်ထက် ရာမညတိုင်းကသံဃာတို့ကိုပင့်ဆောင်ရသည်၊ ၎င်းနောက်ဝိမလဓမ္မသူရိယမင်း လက်ထက်ရခိုင်ပြည်ကသံဃာတို့ကိုပင့်ဆောင်ရသည်၊၎င်းနောက်ဝိမလမဟာရာဇာမင်း လက်ထက်လည်း ရခိုင်ပြည်ကသံဃာတို့ကိုပင် ပင့်ဆောင်ရ

---

၁။ ဥပ္ပဗ္ဗာဇန–လူဝတ်လဲစေခြင်း။

သည်၊ ၎င်းနောက်ကိတ္တိသူရိယရာဇသီဟမင်းလက်ထက် ယိုးဒယား ပြည်က သံဃာတို့ကိုပင့်ဆောင်ရသည်၊ ဤအကြောင်းအရာများကို သက္ကရာဇ် ၁၁၅၁-ခုနှစ် သီဟိုဠ်သံဃာတို့ ဆက်စာတွင်ပါသည်ကို ထောက်၍သိရသည်။

သီဟိုဠ်ကျွန်း၌ဂိုဏ်းကွဲပြားခြင်းအကြောင်းပြီး၏။

---

## ၁၁-အရှင်နာဂသိန်နှင့်မိလိန္ဒမင်းတို့အကြောင်း

### ဗျာဒိတ်ထားတော်မူခဲ့ခြင်း

ပေထက်တင်ပြီးနောက် သာသနာတော်နှစ်ငါးရာကျော်ရောက်သော အခါ ယောနကတိုင်း သာဂလပြည်၌မိလိန္ဒမင်းသည်ပိဋကအတတ်နှင့် တကွ အဌာရသ သိပ္ပတတ်ကျွမ်းစွာ၍ ပညာကြီးကျယ်၏၊ ဇမ္ဗူဒိပ်မြေ အပြင်ဝယ် ပြိုင်ဘက်, ပြောဟောဘက် မရှိသည်ဖြစ်၍ ဇမ္ဗူဒိပါကား အချည်းနှီးသာတကားဟု ဆိုလေ့ရှိ၏၊ ထိုအခါပုစ္ဆာမေးအံ့စိုး၍ အခြား ရဟန်း,ပုဏ္ဏား ပညာရှိများ သာဂလပြည်သို့ ၁၂-နှစ်ပတ်လုံး မချဉ်းမကပ်ဝံ့ကြကုန်၊ သာဂလပြည်၌သာသာနာတိတ်ဆိတ်သကဲ့သို့ရှိ လေ၏၊ ထိုသို့စဉ်တွင်ရဟန္တာကုဋေတရာတို့သည် ဘုရားဗျာဒိတ်တော် ထားခဲ့သည့်အတိုင်း တာဝတိံသာသို့တက်၍ သိကြားမင်းနှင့်တကွ မဟာသေနနတ်သားကို တောင်းပန်၍ လူ့ပြည်မှာဖြစ်လာစေ၏၊ ငါ နိဗ္ဗာန်ယူတော်မူသည့်နောက်အနှစ်ငါးရာကျော်တွင် မိလိန္ဒမင်းနှင့်နာဂ သိန်ရဟန်းသည် ငါဟောသောတရား၌အမြေးအယှက် အထုံးအဖွဲ့မရှိ ရအောင် ဖြေဘန်ခွဲခြမ်းရစ်လတံ့ဟု ရှင်မောဂ္ဂလိပုတ္တတိဿကိုကဲ့သို့ ဗျာဒိတ်ထားတော်မူခဲ့သတည်း။

### မိလိန္ဒမင်းရဟန္တာဖြစ်ခြင်း

အရှင်နာဂသိန်ပဉ္စင်းခံ၍ ခုနှစ်ဝါရလျှင် မိလိန္ဒမင်းနှင့်ပြိုင်ဆိုင်၍ ခုနစ်ဝါရသည်ဟူသော စကားကိုအစွဲပြုလျက် လက်ဦးစွာဖြေတင်ကြ သည့်ခုနစ်ဝါရသည်ဆိုသော်သင့်ကိုယ်တည်းခုနစ်လော, အရေအတွက် ဂဏန်းတည်း ခုနစ်လောဟု မေးသည်ကို အရေအတွက် ဂဏန်းသာ ခုနစ်ဖြစ်သည်၊ ငါကခုနစ်မဟုတ်၊ ထိုအရေအတွက်ဂဏန်းလည်း ငါ့

ကိုယ်ကိုပင်မှီ၍ဖြစ်သည်၊ ပမာကား-သင်၏အရိပ်သည်မင်းမဟုတ်၊သင့်ကိုယ်သာမင်းဟုတ်သည်၊ အရိပ်ကားသင့်ကိုယ်ကိုပင်မှီ၍ဖြစ်သည်၊ ထိုကဲ့သို့တည်းဟုပမည်းဆောင်၍ပြ၏၊ ဤသို့ခုနစ်ဝါဟူသော စကားကစလျက် များစွာဖြေတင်ကြ၍ ပိဋကတော်၌ အမြွေးအယှက်အထုံးအဖွဲ့မရှိရအောင် ဝေဘန်ခွဲခြမ်းပေသတည်း၊ မိလိန္ဒမင်းလည်း ထိုသို့ဖြေတင်သည့်အဆုံး၌ အရှင်သာရိပုတ္တရာကိုထား၍ တပါးသောရဟန်းသည်ပြဿနာဖြေခြင်းတင်ခြင်း၌ အရှင်နှင့် မတူနိုင်ဟု ချီးမွမ်းပြီးလျှင် အပြစ်ကိုကန်တော့၍ ဥပါသကာ အဖြစ်ကိုကြား၏၊ နောက်လည်း မိလိန္ဒဝိဟာရမည်သော ကျောင်းကိုဆောက်လှူ၍ကုဋေတသိန်းသော ရဟန်းတို့နှင့်တကွ အရှင်နာဂသေနအား ပစ္စည်းလေးပါးဖြင့် လုပ်ကျွေး၏၊နောက်ပြီးကား သားကြီးအား ပြည်ကိုဆောင်နှင်း၍ ရဟန်းပြုလေသော် ရဟန္တာဖြစ်လေသတည်း။

### အဋ္ဌကထာများကို မာဂဓဘာသာဖြင့်ရေးကူးချိန်

ငါတို့မြန်မာတိုင်းနိုင်ငံ သရေခေတ္တရာ ရသေ့ပြည်တွင် ပါဝိယံမင်းနှင့် မိလိန္ဒမင်းပြိုင်၏၊ မိလိန္ဒပဥှာကျမ်းကား အဋ္ဌကထာများက ခိုမှီးကိုးစားသော ခိုင်ခံ့လှစွာ ပမာဏမြောက်သော ကျမ်းပေတည်း၊ထိုမှနောက်သာသနာနှစ် ၈၆၀-ကျော်သောအခါဗုဒ္ဓဒါသမင်း လက်ထက်တရားဒေပစာဟောတတ်စွာသောဓမ္မကထိကမထေရ်တဦးသည်ဝိနည်း, အဘိဓမ္မာမှ တပါး သုတ္တန်ပိဋက-ဟူသမျှကို သိင်္ဃိုဠ်ဘာသာအရေးအသားဖြင့်ပြန်၍ထားလေသည်-ဟု စူဠဝင်ကျမ်း ဗုဒ္ဓဒါသမင်းအခဏ်းတွင်ဆိုသည်၊ ဗုဒ္ဓဒါသမင်း၏သားများကား ဘုရားတပည့်သားတော်အသီတိမဟာသာဝကတို့၏ အမည်နှင့် တူကုန်လျက် ၈၀-မျှလောက်ရှိသော-ဟူ၏၊ ထိုသားတော် ၈၀-တို့တွင်—

၁။ သာရိပုတ္တရာအရှင်အမည်နှင့် တူသော ဥပတိဿ မည်သော သားတော်အကြီးသည်ခမည်းတော်နောက် ၄၂-နှစ်မင်းမူ၏။

၂။ ထိုနောက်သားတော်အလတ် မဟာနာမမည်သော မင်းသားသည် ၂၂-နှစ်မင်းမူ၏။

ထိုမဟာနာမမင်းလက်ထက် သာသနာတော်နှစ်- ၉၃၀၊ သီဟိုဠ်မင်းခြောက်ဆဲ့ ခြောက်ဆက်စွေသောအခါလျှင် အရှင်ဗုဒ္ဓဃောသ သိဃ်ိုဠ်ကျွန်းသို့ကူး၍ သိဃ်ိုဠ်ဘာသာအရေးအသားဖြင့် ထားသော အဋ္ဌကထာကျမ်းများကို မာဂဓဘာသာဖြင့် ရေးကူးသတည်း။

### သီဟိုဠ်ကျွန်းသို့စွယ်တော်ရောက်ပုံ

ငါတို့မြန်မာတိုင်းပုဂံအဝင်အပါ သိရိပစ္စယာမြို့တည် သေဥ်လည် ကြောင်မင်းနှင့်မဟာနာမမင်းပြိုင်၏၊ ပရိတ္တနိဒါန်းတွင် ပြူမင်းခီးနှင့် ပြိုင်သောဟူသည်ကား အခြားစာပေမရှိ၊မသင့်လေ၊ ကိတ္တိသိရိမေဃ မင်း နန်းစံကိုးနှစ်၊သီဟိုဠ်မင်းခြောက်ဆဲ့နှစ်ဆက်၊သာသနာနှစ် ၇၃၀- စွေသောအခါ ဇမ္ဗူဒိပ်ကလိင်ရာဇ်ပြည်မှ ကုဟသိဝမင်း၏ သမီးနှင့် သမက်ဖြစ်သော ဟေမမာလာမည်သော မင်းသမီး, ဒန္တကုမ္မာမည် သော မင်းသား သမီးခင်ပွန်း နှစ်ယောက်တို့သည် သင်္ဘောဖြင့် ကူး၍ စွယ်တော်ကို ဆောင်ယူကြသောအားဖြင့် သိဃ်ိုဠ်ကျွန်းသို့ စွယ်တော် ရောက်လေသည်၊ ထိုသာသနာနှစ် ၇၃၀-တွင် ဇေဋ္ဌတိဿမင်းနန်းစံ ၉-နှစ်၊ ဗုဒ္ဓဒါသမင်းနန်းစံ ၂၉-နှစ်၊ ဥပတိဿမင်း နန်းစံ၄၂-နှစ်၊ မဟာနာမမင်းနန်းစံ ၂၂-နှစ် ကိုပေါင်းသော် သာသနာ၉၃၀-တွင် အရှင်ဗုဒ္ဓဃောသသိဃ်ိုဠ်ကျွန်းသို့ ရောက်သတည်း၊၉၃၂-နှစ်ရှိ၏၊ ထို တွင် ၂-နှစ်ကြွင်းနှင့် မဟာနာမမင်း လက်ထက် ဘိုးတော်ဘုရား လက်ထက်တော် သီဟိုဠ်ရဟန်းတို့က“ဆက်စာ-သန္ဒေသကထာ”တွင် ကား ၉၅၆-နှစ်ကျော်တွင် အရှင်ဗုဒ္ဓဃောသလာရောက်သည်-ဟုဆို သည်၊“ဆပညာသာဓိကနဝဝဿသတာတိက္ကန္တေသု”-ဟူ၏။

အရှင်နာဂသိန်နှင့်မိလိန္ဒမင်းတို့အကြောင်းပြီး၏။

---

## ၁၂-အရှင်ဗုဒ္ဓဃောသမထေရ်အကြောင်း

### သီဟိုဠ်သို့ပိဋကတော်ကူးရန်သွားခြင်း

အရှင်ဗုဒ္ဓဃောသအကြောင်းကား-ဗုဒ္ဓဃောသုပ္ပတ္တိ၌ လာသော အကြောင်း,စူဠဝင်၌လာသောအကြောင်းအားဖြင့်စကား ၂-ရပ်ထူး ခြားကွဲပြားလျက်ရှိသည်၊ ဗုဒ္ဓဃောသုပ္ပတ္တိ၌ လာသော အကျဉ်းအ

မြွက်ကား-သီဟိုဠ်ဘာသာအရေးအသားအားဖြင့် ပရိယတ္တိ သာသနာ ရှိလေသည်ကို မာဂဓဘာသာ အရေးအသားဖြင့် ဘယ်သူပြန်ပါအံ့ နည်း-ဟု ရဟန္တာကြီးတဦး ဆင်ခြင်ကြံစည်လျှင် တာဝတိံသာနတ် ပြည်ထွင် ဃောသနတ်သားကို မြင်၍ တက်ပြီးသော် သိကြားမင်းနှင့် တကွတောင်းပန်၍ မဟာဗောဓိပင်၏အနီး ဃောသရွာ ကေသိပုဏ္ဏား ၏မယား ကေသိနီပုဏ္ဏေးမ၌ သန္ဓေယူသဖြင့် လူဖြစ်လာစေ၏၊ ထိုအ ခိုက် "စားကြကုန်, သောက်ကြကုန်" အစရှိသဖြင့် ပုဏ္ဏားတို့ကြွေး ကြော်ကြဆဲတွင်ဖွားသောကြောင့် ဃောသကအမည်မှည့်၏၊ ခုနစ်နှစ် အရွယ်ရှိလျှင် ဗေဒင်သုံးပုံအပြီးတိုင်၏။

ထိုအခါရဟန္တာကြီးနှင့်ဗေဒင်စကားဖြေတင်ကြသော် ဗေဒင်သုံးပုံအ ပြီးတွင် "ကုသလာဓမ္မာ,အကုသလာဓမ္မာ, အဗျာကတာဓမ္မာ"အစရှိ သော ပရမတ်စကားဗုဒ္ဓမန္တန်ကို မဟာထေရ်ဟောပြောလျှင် အဘိုး အနဂ္ဃ[၁]ဖြစ်သော ဗုဒ္ဓမန္တန်ကိုသင်ကြားလိုရကား ထိုရဟန္တာကြီးထံ ၌ရှင်ရဟန်းပြုပြီးမှ နေ့တိုင်း ပိဋကကို ပုဒ်ခြောက်သောင်းဝါစုဂ္ဂတ[၂] ရအောင်သင်သည်၊ တလနှင့်ပင် ပိဋက ၃-ပုံအပြီးတိုင်၏၊ ထိုနောက် ဆိတ်ကွယ်ရာ၌ တယောက်ထည်းတည်းနေလျက် "ဘုရားဟော ပိဋက အရာ၌ ငါ့ပညာတည်း သာလွန်မည်လော၊ ငါ့ဥပဇ္ဈာယ်ဆရာ[၃]ပညာ တည်းသာလွန်မည်လော"ဟုကြံစည်၏၊ထိုအကြောင်းကိုဆရာရဟန္တာ ကြီးသိ၍ခေါ်ပြီးလျှင် ဤသို့သင်ကြံစည်သည်ကို ငါမနှစ်သက်ဟု ကဲ့ရဲ့ ပြစ်တင်ပြု၍ အလွန်ထိတ်လန့်ရကား အကျွန်ုပ်အပြစ်ကိုသည်းခံတော် မူပါဟုကန်တော့သည်တွင် သီဟိုဠ်ကျွန်းသို့ကူး၍ ပိဋကကိုသီဟိုဠ်ဘာ သာအရေးအသားမှ မာဂဓဘာသာအရေးအသားပြန်လျှင် ငါကန် တော့ခံမည်ဟုဆို၏။

အရှင်ဗုဒ္ဓဃောသလည်း အဘပုဏ္ဏားကို မိစ္ဆာဒိဋ္ဌိလွတ်အောင် ချွတ်ပြီးလျှင် ယခင်ဆရာဆိုချက်အတိုင်း ပိဋက ပြန်အံ့သောငှါ သီဟိုဠ်ကျွန်းသို့ကူးလေ၏။

---

၁။ အနဂ္ဃ-အဘိုးမဖြတ်နိုင်သောဝတ္ထု။
၂။ ဝါစုဂ္ဂတ-နှုတ်ရဆောင်ခြင်း။
၃။ ဥပဇ္ဈာယ်ဆရာ-အပြစ်ဟူသမျှကိုရှုတတ်သောဆရာ။

## ပိဋကတော်ကူးခွင့်ရခြင်း

ထိုအခါမဟာသမုဒ္ဒရာအပြင်ဝယ် သုံးရက်ကူးသင်္ဘောခရီးသို့ အရှင်ဗုဒ္ဓဃောသစီးသောသင်္ဘောလည်း သီဟိုဠ်သို့အသွားရောက်သည်၊ ထို့အတူအရှင်ဗုဒ္ဓဒတ်စီးသောသင်္ဘောလည်း သီဟိုဠ်ကအပြန်ရောက်သည်၊ သိကြားနတ်တို့အာနုဘော်ကြောင့် မထေရ် ၂-ပါးစီးသောသင်္ဘော ၂-စင်းဆိုင်မိကြလေသည်၊ ထိုသို့ဆိုင်မိလျှင် ကုန်သည်သင်္ဘောသားတို့ကြောက်လန့်၍ ငိုကြွေးကြကုန်သည်တွင် အချင်းချင်းမေးမြန်းသဖြင့်မထေရ် ၂-ပါးတို့အသွားအပြန်သင်္ဘောဆိုင်မိသောအကြောင်း, ပိဋကကူးလာသော အကြောင်းများကိုပြောဟောကြပြီးမှ အကျွန်ုပ်စီရင်သောဇိနာလင်္ကာရကျမ်းကို''စကားပေါ့ဖြစ်သည်၊ အဋ္ဌကထာ, ဋီကာစကားလေးမဟုတ်''ဟူ၍ ပိဋကကိုမပြန်ခဲ့,မကူးခဲ့ရ၊သင်မူကား ပိဋက ၃-ပုံအဘွင့် အဋ္ဌကထာ စကားလေးကိုပြုပါလေ-ဟု အရှင်ဗုဒ္ဓဃောသကို အရှင်ဗုဒ္ဓဒတ်ကမှာထား၍ မိမိအားသိကြားမင်းပေးသော ဖန်ခါးကြစုသီးနှင့် သံအရိုးတပ်သောကညစ်ကိုငင်း, သွေးကျောက်ကိုငင်း ပေးလိုက်၏၊ မထေရ်နှစ်ပါးစကားပြောဟောပြီးလျှင် သင်္ဘော ၂-စင်းလည်း အလိုလိုပင်ရွှဲ၍သွားကြလေ၏၊အရှင်ဗုဒ္ဓဃောသလည်း သီဟိုဠ်ကျွန်းသို့ရောက်၍ သင်္ဃပါလ မထေရ်ကိုဖူးတွေ့ပြီးမှ ပိဋကကို မာဂဓပြန်အံ့သောငှါလာကြောင်းကိုကြားလျှင်''သီလေပတိဋ္ဌာယ''စသောဂါထာကိုပေး၍ ဤဂါထာ၌ ပိဋက ၃-ပုံကိုယှဉ်လျက် အနက်အဓိပ္ပါယ်ပြုပါဟုတိုက်တွန်း၏၊ ထိုနေ့ညချမ်းကစ၍ ထိုဂါထာ၏အဖွင့် ဝိသုဒ္ဓိမဂ်ကျမ်းကို စီရင်သည်၊ တစောင်ပြီး၍အိပ်လျှင် ထိုအရှင်အစွမ်းကိုစုံစမ်းလို၍ သိကြားမင်းဝှက်ထားလေသဖြင့်အသစ်တစောင်ရေးပြန်ရသည်၊ ထို့အတူပင်ဝှက်ထားပြန်၍ နောက်တစောင်လည်းရေးပြန်ရလေသည်၊ သုံးစောင်စွေ့မှ ယခင် ၂-စောင်ကိုလည်း ဘော်ပြသည်၊ ၃-စောင်လုံးကို သင်္ဃပါလမဟာထေရ်အားပြလေ၏၊ မဟာထေရ်လည်း အားရနှစ်သက်စွာဖြစ်၍ပိဋကကိုမာဂဓပြန်စိမ့်သောငှါခွင့်ပြု၏။

ဝိသုဒ္ဓိမဂ်မှာသင်္ဃပါလမထေရ်တိုက်တွန်းသည်ဟုဆိုသည်၊ဗုဒ္ဓဃောသုပ္ပတ္တိမှာသင်္ဃရာဇာမထေရ်တောင်းပန်သည်ဟု-ဆိုသည်။

[ဤကားဗုဒ္ဓဃောသုပ္ပတ္တိ၌လာသောအကျဉ်းအမြွက်တည်း။]

စုဥ္စဝင်၌လာသော အကျဉ်းအမြွက်ကား—

မဟာဗောဓိပင်အနီး တခုသောပုဏ္ဏားရွာ၌ဖြစ်၍ ကြီးပွားသော တဦးသော ပုဏ္ဏားလုလင်သည် ဗေဒင်သုံးပုံ၏ ကမ်းတဘက်သို့လည်း ရောက်၏၊ ထိုထိုအယူဝါဒကိုလည်း ကောင်းစွာသိကျွမ်း၍ သူတပါးနှင့် အပြောအဟောအဖြေအတင် ဝါဒကိုလည်း အလိုကြူး၏၊ ဇမ္ဗူဒိပ်မြေ ပြင်အလုံးကို လှည့်ပတ်လတ်သော် တဆောင်သောကျောင်းသို့ရောက် ၍ တည်းခိုနေထိုင်လေ၏၊ ထိုကျောင်း၌နေသော ရေဝတမထေရ်အား ဗေဒင်သုံးပုံနှင့်စပ်သောပြဿနာကို ထိုပုဏ္ဏားလုလင်မေးလျှင် မေး တိုင်းမေးတိုင်း မထေရ်ဖြေနိုင်၏၊ မထေရ်ကမေးသော ပရမတ်နှင့်စပ် သောပြဿနာကို ပုဏ္ဏားလုလင်မဖြေနိုင်၍ အဘယ်အတတ်မန္တန်ပေ နည်း-ဟု လျှောက်လျှင် ဗုဒ္ဓမန္တန်မည်သည်ဟုဆိုသော် သင်ကြားလို ကြောင်းကိုလျှောက်သဖြင့် ရှင်ရဟန်းပြုမှ သင်ကြားသာမည်ဟုအမိန့် ရ၍ မန္တန်သင်ခြင်းငှာ ရှင်ရဟန်းပြုပြီးမှ ပိဋကသုံး-ပုံအကုန်သင်ပြီး လျှင် ဘုရားသခင်ကဲ့သို့ နက်နဲသော အကျော်အစော ရှိသောကြောင့် ''ဗုဒ္ဓဃောသ''ဟု ဆရာတို့မှည့်ခေါ်ကြ၏။

## သီဟိုဠ်သို့ပိဋကတော်ကူးရန်သွားခြင်း

ထိုအရှင်ဗုဒ္ဓဃောသသည် အရှင်ရေဝတ၏အထံ၌နေလျက်ဉာဏော ဒယကျမ်း, အဋ္ဌသာလိနီကျမ်းများကိုပြုပြီးမှ ပရိတ်အဋ္ဌကထာကိုပြု မည်အားထုတ်ဆဲတွင် ဆရာရေဝတမထေရ်က ဤဇမ္ဗူဒိပ၌ ပါဠိ တော်မျှသာရှိ၏၊အဋ္ဌကထာလည်းမရှိ၊အာစရိယဝါဒလည်း ကွဲကွဲပြား ပြားရှိ၏၊ ထို့ကြောင့် အရှင်မဟိန္ဒဆောင်ယူခဲ့သော သီဟိုဠ်၌ရှိသော အဋ္ဌကထာ,သင်္ဂါယနာသုံးတန်တင်သောပါဠိတော်,အရှင်သာရိပုတ္တရာ စသော ရဟန္တာတို့ဟောသော စကားအစဉ်များသည် သီဟိုဠ်ကျွန်း၌ ရှိသည်ကိုသင်သွား၍ မာဂဓဘာသာ ရေးသားပြန်ယူချေ၊ ထိုသို့ပြန်ယူ သော်သူခပ်သိမ်းတို့ စီးပွားများလတ့ံဟု ဥပဇ္ဈာယ်ဆရာက စေခိုင်းသ ဖြင့် အရှင်ဗုဒ္ဓဃောသသီဟိုဠ်သို့ကူး၍ အနုရာဓမြို့ မဟာဝိဟာရ ကျောင်းသို့ဝင်ပြီးလျှင် သဃ်ပါလမထေရ်အထံ သီဟိုဠ်အဋ္ဌကထာနှင့် ထေရဝါဒအလုံးစုံကိုကြားနာပြီးမှ အဋ္ဌကထာများကို ပြုအံ့သောငှာ ပန်ကြား၏၊သံဃာများက''သီလေပတိဋ္ဌာယ''စသောဂါထာကိုပေး၍

၍ဂါထာ၌ သင်၏အစွမ်းကိုပြပါဦး-ဟုဆိုသော် အဋ္ဌကထာနှင့်တကွ ပိဋက ၃-ပုံကို အကျဉ်းရုံး၍ ဂါထာ (၁၄၀၀၀၀) ပမာဏရှိသော ဝိသုဒ္ဓိမဂ်ကျမ်းကိုပြု၏၊ ယခင်ကနည်း တည့်တည်းတွင် သုံးစောင်တိုင်အောင်ပင် စီရင်လေသတည်း၊ သုံးစောင်လုံးကို သံဃာအား ပြသော် အားရနှစ်သက်ရှိ၍ အဋ္ဌကထာနှင့်တကွ ပိဋကတော်မူစာတို့ကိုဆောင်နှင်း၏။

## ညှိနှိုင်း၍ပြချက်

၍သို့လျှင် ကျမ်းနှစ်စောင်၌ လာသော အကြောင်းအရာ ၂-ပါး အားဖြင့် သီဟိုဠ်သို့ကူး၍အဋ္ဌကထာအလုံးစုံကို မာဂဓဘာသာအရေး အသားဖြင့်ရေးကူးပြီးမှ အရှင်ဗုဒ္ဓဃောသ ဇမ္ဗူဒိပါသို့ပြန်ခဲ့၏၊ ဗုဒ္ဓဃောသုပ္ပတ္တိတွင် စေရင်းဆရာဆီသို့ပင်ဝင်ပြီးမှ မိဘထံသွားကြောင်းကိုဆိုသည်၊ စူဠဝင်တွင် အဋ္ဌကထာများကို မာဂဓဘာသာပြန်ပြီးမှ ဇမ္ဗူဒိပ်သို့သွားကြောင်းကိုဆိုသည်၊ အရပ်အမည်,အကြောင်းအထူး မပါ၊ သုဝဏ္ဏဘုမ္မိတိုင်း သထုံပြည်သည် သီဟိုဠ်နှင့်သင်္ဘောလမ်းသင့်သည်-ဟူ၍ အင်္ဂုတ္တရအဋ္ဌကထာ၌ ဆိုသည်နှင့်အညီ ပြန်ခဲ့ပြီးသော ပိဋကနှင့်တကွ သထုံပြည်သို့ရောက်သည်-ဟုစကားစဉ်စာတမ်းရှိကြသည့် အရာသာသင့်မြတ်သည်။

[၍ကား အရှင်နာဂသိန်မိလိန္ဒမင်းတို့ပိဋကကိုသုတ်သင်ကြောင်း,ဓမ္မကထိက မထေရ်တဦး သုတ္တန်ပိဋကကို သီဟိုဠ်ဘာသာပြန်ထားကြောင်း, ထိုအဋ္ဌကထာများကို အရှင်ဗုဒ္ဓဃောသ မာဂဓဘာသာ တဖန်ပြန်ကြောင်း အမြွက်စကားတည်း။]

အရှင်ဗုဒ္ဓဃောသမထေရ်အကြောင်းပြီး၏။

---

## ၁၃-သီဟိုဠ်ကျွန်း၌သာသနာထွန်းလင်းကြောင်း အမြွက်စကား

### ရဟန္တာအဖြစ်များခြင်း

သီဟိုဠ်ဘာသာဖြင့် ရှိသောပိဋကကို မာဂဓဘာသာပြန်ပြီးနောက်လည်း သီဟိုဠ်ကျွန်း၌ ဆရာဆက်, တပည့်ဆက်, အာစရိယပရမ္ပရ

သိဿာနုသိဿအားဖြင့် သာသနာတော်မြတ် ပြန့်ပွားစည်ပင်စွာဖြစ်၏၊ ကုဋေအရာမကသော သောတာပန်, သကဒါဂါမ်, အနာဂါမ်, ရဟန္တာတို့ဖြင့် ပင်လုံးကျွတ်ပွင့်သော တာဝတိံသာနတ်ပင်လယ်ကသစ်ပင်ကဲ့သို့၎င်း၊ သတပတ် ပဒုမ္မာကြာမျိုးငါးပါးဖြင့် ဖုံးလွှမ်းသော ရေကန်ကြီးကဲ့သို့၎င်း ခိုင်ဖြိုးပွင့်လင်းစွာဖြစ်၏၊ ထင်ထင်ရှားရှားသွားလာရောက်ပေါက်ရာ လမ်းသေး,လမ်းမ, အိမ်ဈေး, အိမ်တံခါး,ရေဆိပ်ကမ်းနား,တော,တောင်, လိုဏ်ခေါင်း,အိမ်, ကျောင်း, စရပ်-ဟူသမျှတွင် တခုသော အရပ်မှလည်း မဂ်ဖိုလ်မရဘူး, အရိယာမဖြစ်ဘူးသော အရပ်မည်သည်မရှိ၊ အတန်ငံ့လင့်၍ ဆွမ်းရပ်စဉ်တွင် ပင်လည်း မဂ်ဖိုလ်ရသည်၊ အရိယာ ဖြစ်သည်ကားများပြားစွာသတည်း၊ မဂ်ဖိုလ်ရသော အရိယာသာများ၍ ပုထုဇဉ်ကို ပြလိုမြင်စေလိုလျှင် ဤသူကား ပုထုဇဉ်တည်း-ဟု လက်ညှိုးညွှန်၍ ပြရမြင်စေရ၏၊ ရံခါလည်း သီဟိုဠ်ကျွန်းတွင် ပုထုဇဉ်ရဟန်းပင်အလျင်းမရှိ၊ အရိယာချည်းသာရှိသတည်း၊ "ကေဝါရံ ပုထုဇ္ဇနဘိက္ခုနာမ နဟောတိ"-ဟု ဝိဘင်းအဋ္ဌကထာ၌လာ၏။

ဈာန်,အဘိညာဉ်တန်ခိုးရှိသော ရဟန်းမွန် ရဟန်းမြတ်တို့လူးလာခေါက်ပြန် ကောင်းကင် အပုံအသွားများသောကြောင့် အစဉ်တစိုက်နေရောင်နေရှိန်မရ၍ စပါးလှန်းသည်မှ မငွေ့တတ်ခဲ့ရကား-စပါးထောင်းမိန်းမတို့ အောင့်အဲကြရအောင်ပင် သာသနာတော် စည်ပင်ထွန်းလင်းသည်-ဟူ၍ နိဒါန်းတွင်ဆိုသည်၊လက်ျာညှပ်ရိုးတော်ဓာတ်ကို သုမနသာမဏေ တာဝတိံသာက သီဟိုဠ်ကျွန်းသို့ဆောင်ရောက်သည်တွင် ပြာဋိဟာပြ၍ ထွက်သော ရေပေါက်ဖြင့် ယူဇနာ သုံးရာရှိသော တကျွန်းလုံးနှံ့လေ၍ ဘုရားသုံးဆောင် တော်မူသော စေတီပြင်ကဲ့သို့ဖြစ်လေရကား-သင်္ဘောလှေကြောင်း သွားလာသသူတို့ သမုဒ္ဒရာ ရေပြင်က အုန်းသီးလုံးခန့်မျှ မြင်လျှင်ပင် တကျွန်းလုံးကို ပူဇော်ကြမြဲဖြစ်၍၎င်း, အရှင်မဟိန္ဒအထံ၌ အရှင်အရိဋ္ဌနှင့် စာသင်သားငါးရာတို့ သင်စ မူသဖြင့် ဝိနည်းကိုပြန်ဆိုရာဖြစ်၍၎င်း သာသနာတော်မြတ် တည်ထွန်းရာကျွန်းထူးကျွန်းမြတ်ဖြစ်သည်-ဟူ၍လည်း နိဒါန်းတွင်ဆိုသည်။

## ပိဋကတော်ကို စောင့်ရှောက်တော်မူကြခြင်း

သီဟိုဠ်ကျွန်း တွင်သာ ပိဋကသုံးပုံပါဠိတော်ကို ပေထက်တင်သည်၊ ထိုနောက်စောရနာဂမင်းပြုသည့်တွင်တကျွန်းလုံးမငြိမ်မဝပ် ငတ်မွတ်ကြ၍ ပိဋကကိုဆောင်ရွက်ကြသော ရဟန်းမြတ်တို့ ဇမ္ဗူဒိပ်သို့ကူးကြရသည်၊ သီဟိုဠ်တွင် ကျန်ရစ်သော ရဟန်းတို့လည်း ငတ်မွတ်သဖြင့် ဝမ်းရေကို စည်းဖွဲ့၍ရင်း, ဝမ်းထက်သဲစုကိုတင်ထား၍ရင်း ပိဋကကို ဆောင်ရွက်ကြသည်၊ ကူဋကဏ္ဏတိဿမင်းပြု၍ ငြိမ်ဝပ်သာယာမှ ဇမ္ဗူဒိပ်သို့ ကူးသော ရဟန်းတို့ပြန်လာ၍ ကျန်ရစ်သော ရဟန်းများ နှင့် မဟာဝိဟာရကျောင်းတွင် ပိဋကကို မယိုမယွင်းရအောင်ညီညွတ်ကြသည်၊ တပုဒ်တသဝေမျှ မတိမ်းမယိမ်း ညီညွတ်သည်-ဟူ၍ မဟာဝင်တွင် ဆိုသည့်အတိုင်း ပေထက်တင်ပြီး ပိဋကကိုလည်း သီဟိုဠ်တွင် ကောင်းစွာဆောင်ရွက်ကြသည်။

## ကျမ်းဂန်ပြုစုတော်မူကြခြင်း

ထိုကျွန်းတွင်ပင် အဋ္ဌကထာများကို ၊ အရှင်ဗုဒ္ဓဃောသ မာဂဓ ဘာသာပြန်၍ ရေးသားပြုစုသည့်နောက်လည်း များသောအားဖြင့် ထိုကျွန်းမှာပင် အဋ္ဌကထာ, ဋီကာ, အနု, မဓု, လက်သန်း, ဂဏ္ဌိ, ဂန္ထန္တရကျမ်းဂန်များကို ရေးသားပြုစုကြ၍ သာသနာတော်မြတ် စည်ပင် သန့်ရှင်းထွန်းလင်းသည်။

၁။ ဗုဒ္ဓဝင်အဋ္ဌကထာကို ရှင်ဗုဒ္ဓဒတ် ပြုသည်။

၂။ ဥဒါန်း,ဣတိဝုတ်, စရိယာပိဋက,ထေရ, ထေရီ,ဝိမာနဝတ္ထု, ပေတဝတ္ထု, နေတ္တိအဋ္ဌကထာများကို ဆရာဓမ္မပါလပြုသည်။

[ဆရာဓမ္မပါလကား-သီဟိုဠ်ကျွန်းအနီး ဗဒရတိတ္ထဆိပ်၌ နေ၍ သီဟိုဠ် စာရင်းဝင်ဖြစ်လေသတည်း။]

၃။ ပဋိသမ္ဘိဒါမဂ်အဋ္ဌကထာကိုရှင်မဟာနာမ ပြုသည်။

၄။ မဟာနိဒ္ဒေသအဋ္ဌကထာကို ရှင်ဥပသေန ပြုသည်။

၅။ အဘိဓမ္မာ ခုနစ်ကျမ်းဋီကာကို သီဟိုဠ် ရှင်အာနန္ဒာ ပြုသည်၊ ဋီကာတကာတို့၏ လက်ဦးအမြစ်အရင်းဖြစ်၍ မူလဋီကာဟု တွင်သတည်း။

၆။ ဝိသုဒ္ဓိမဂ် မဟာဋီကာ, ဒီဃနိကာယ် ၃-ကျမ်းဋီကာ,မဇ္ဈိမ နိကာယ် ၃-ကျမ်းဋီကာ,သံယုတ္တနိကာယ် ၅-ကျမ်း ဋီကာကို ဆရာဓမ္မပါလ ပြုသည်။

၇။ ဝိနည်း ၅-ကျမ်း ဋီကာ,အင်္ဂုတ္တရကျမ်းဋီကာကို ပရက္ကမဗာဟု မင်း တိုက်တွန်း၍ သီဟိုဠ်ရှင်သာရိပုတ္တရာပြုသည်။
[ဤဝိနည်းဋီကာဆရာရှင်သာရိပုတ္တရာနှင့်အဘိဓာန်ဆရာရှင်မောဂ္ဂလာန် ၂-ပါးကား ပရက္ကမဗာဟုမင်းဆရာ သီဟိုဠ်ရှင်ကဿပ တပည့်ချည်း တည်း၊ စာသင်တပည့်လက်သား ငါးရာစီရှိသော-ဟူ၏။]

၈။ အဘိဓမ္မာခုနစ်ကျမ်းအနုကို ဆရာဓမ္မပါလ ပြုသည်၊ဋီကာရင်း တွင်မထင်မလွယ်သည်ကို ထင်လွယ်အောင် တဖန်ဆင့်၍ဖွင့် သောကြောင့် အနုဋီကာတွင်သည်၊ ဤနည်းကိုမှီ၍ နောက် ဆရာတို့လည်း ဒွါရဒသကထာ, အနုဓာတုကထာစသည် များကိုပြုကုန်သည်။

၉။ ဝိသုဒ္ဓိမဂ် စူဠဋီကာ, အင်္ဂုတ္တရ စူဠဋီကာ, ကင်္ခါဝိတရဏီစူဠ ဋီကာ-စသောမဓုဒီပနီ ကျမ်းများကို အညတြဆရာတို့ပြုကုန် သည်၊ ဋီကာရင်းဖြင့် အနက်အဓိပ္ပါယ် မကုန်၍ ကြွင်းကျန် သည်ကိုဂုဏ်, မသိသာသည်ကိုဂုဏ် ကုန်စင်သိသာအောင် ဋီကာရင်းနှင့် ပေါင်း၍ပြုသောကျမ်းသည် သိသာ မြိန်မြတ်လှ သည်ဖြစ်၍ မဓုဒီပနီတွင်သည်။

၁၀။ မောဟဝိစ္ဆေဒနီ လက်သန်းကိုသီဟိုဠ်ရှင်ကဿပ ပြုသည်။

၁၁။ အဘိဓမ္မာဝတာရကို ရှင်ဗုဒ္ဓဒတ် ပြုသည်။

၁၂။ ဝိနယသင်္ဂဟကို သီဟိုဠ်ရှင်သာရိပုတ္တရာ ပြုသည်။

၁၃။ ခုဒ္ဒသိက္ခာကို ရှင်ဓမ္မသိရီပြုသည်။

၁၄။ ပရမတ္ထဝိနိစ္ဆယ, နာမရူပပရိစ္ဆေဒ, အဘိဓမ္မတ္ထသင်္ဂဟကျမ်း များကို သီဟိုဠ်ရှင်အနုရုဒ္ဓါပြုသည်၊ လက်မ လက်သန်း ဟူသ ကဲ့သို့ အကျဉ်းအမြွက်မျှဆိုသော ကျမ်းငယ်ဖြစ်၍ လက်သန်း တွင်သည်၊ အကျင်းအမြွက်မျှ မှတ်သောကျမ်းငယ် ဖြစ်၍ လက်ချွန် ဟူအပ်လျက် ကာလလျားသဖြင့် လက်သန်းတွင် သည်ဟုလည်းဆိုကုန်၏။

၁၅။ ဝဇိရဗုဒ္ဓိမည်သော ဝိနည်းငါးကျမ်းဂဏ္ဌိ¹ကို ဝဇိရဗုဒ္ဓိဆရာ ပြုသည်။

၁၆။ စူဠဂဏ္ဌိ, မဇ္ဈိမဂဏ္ဌိ, မဟာဂဏ္ဌိ ၃-ကျမ်းကို သီဟိုဠ်ဆရာတို့ ပြုသည်၊ ဋီကာ, အနု, မဓု ဒီပနီ ကျမ်းများကဲ့သို့ ပုဒ်စဉ်ပါဠိ လျှောက်မသွင့်ဘဲ ခက်ခဲစနိုးသော အဆစ်အဖုတွင်သာ ဘွင့်သောကျမ်းသည် ဉာဏ်အထူး၏တည်ရာဖြစ်၍ ဂဏ္ဌိတွင်သည်။

၁၇။ အဘိဓာန်ကိုသီဟိုဠ်ရှင်မောဂ္ဂလာန် ပြုသည်။

၁၈။ အတ္ထဗျက္ချာန်ကို ရှင်စူဠဗုဒ္ဓ ပြုသည်။

၁၉။ ဆန်း, အလင်္ကာကို ရှင်သံဃရက္ခိတ ပြုသည်။

၂၀။ ဗျာကရိုဏ်းကို သီဟိုဠ် ရှင်မောဂ္ဂလာန် ပြုသည်။

၂၁။ မဟာဝင်, စူဠဝင်, ဒီပဝင်, ထူပဝင်, ဗောဓိဝင်, ဓာတုဝင်များကို သီဟိုဠ်ဆရာတို့ပြုသည်။

၂၂။ ဓာဌာဓာတုဝင်ကျမ်းကို သီဟိုဠ်သေနာပတိတောင်းပန်၍ ရှင်ဓမ္မကိတ္တိပြုသည်။

သို့၍သောကျမ်းထူး ကျမ်းပြားများသည် ပါဠိတော်, အဋ္ဌကထာစသောကျမ်းဂန်များမှ အလွတ်အထူး အခြားဖြစ်၍ ဂန္ထန္တရတွင်သည်၊ ဤသို့လျှင်ယခင်က အမြွက်မျှသာ ပြခဲ့သော အဋ္ဌကထာ, ဋီကာ, အနု, မဓု, လက်သန်း, ဂဏ္ဌိ, ဂန္ထန္တရဟူ၍ ကျမ်းမျိုး ၇-ပါး၊ ထိုထိုဒေသအားလျော်စွာ အနက်ပြန်ရာသည်ကို ဆိုသော ယောဇနာနှင့်သော် ကျမ်းမျိုး ၈-ပါး၊ ဤအလုံးစုံကိုသီဟိုဠ်ကျွန်းတွင်သာလက်မွှန်ရှေးဦး အများစီရင်ကြသည်ဖြစ်၍ ရှင်ဗုဒ္ဓဃောသ, ရှင်ဗုဒ္ဓဒတ်, ရှင်ဓမ္မပါလ, ရှင်မဟာနာမ, ရှင်ဥပသေန, ရှင်အာနန္ဒာ, ရှင်သာရိပုတ္တရာ, ရှင်မောဂ္ဂလာန်, ရှင်ကဿပ, ရှင်ဓမ္မသိရီ, ရှင်အနုရုဒ္ဓါ, ရှင်ဝဇိရဗုဒ္ဓိ, ရှင်စူဠဗုဒ္ဓ, ရှင်သံဃရက္ခိတ, ရှင်ဓမ္မကိတ္တိ-အစရှိသော များလှစွာသော ကျမ်းပြု ဆရာတို့ဖြင့်လည်း

---

၁။ ဂဏ္ဌိ—ဉာဏ်အထူး၏တည်ရာ။

သီဟိုဠ်ကျွန်း၌ ကြာမြင့်စွာ သာသနာတော် စည်ပင်ပွင့်လင်းသည်။

[ဤကား ပေထက်တင်ပြီးနောက် သီဟိုဠ်ကျွန်း၌သာသနာတော်မြတ် ကာလမြင့်ရှည် စည်ပင်သန့်ရှင်း ထွန်းလင်းသောအမြွက်စကားတည်း။]

သီဟိုဠ်ကျွန်းသာသနာထွန်းကြောင်းအမြွက်စကားပြီး၏။

---

## ၁၄-ဆရာစဉ်တပည့်ဆက်အကြောင်း

ယခုကား-သင်္ဂါယနာသုံးတန်ကစ၍ ပေထက်တင်သော စတုတ္ထ သင်္ဂါယနာတိုင်အောင်ငှင်း, ထိုနောက်သီဟိုဠ်ကျွန်း၌ သာသနာတော် စည်ပင်ထွန်းလင်းသည့်တိုင်အောင်ငှင်း ဆရာဆက်,တပည့်ဆက် အာစရိယပရမ္ပရ သိဿာနုသိဿ အစဉ်မပြတ်ပုတီးလုံးကိုသီသကဲ့သို့ဆက်လက်ကြောင်းကိုဆိုပေအံ့။

### လဇ္ဇီများသာ သာသနာစောင့်ရှောက်ခြင်း

လက်မွန်လက်ဦးကစ၍ဆိုခဲ့သမျှ စကားအပေါင်းကိုအစဉ်အဆက်ကိုပြလို၍သာ ဆိုခဲ့သည်၊ဆရာတပည့်အစဉ်အဆက်ကိုသာ ပြလိုရင်းဟု မှတ်လေ၊ထိုသို့ပြသော ဆရာစဉ်ဆက်၌လည်း လဇ္ဇီ[၁]ရဟန်းမွန် ရဟန်းကောင်းတို့သာပါဝင်သည်၊အလဇ္ဇီ[၂]ရဟန်းယုတ်ရဟန်းဆိုးတို့ မဝင်မပါ မဆီမဆိုင်။

အဘယ့်ကြောင့်နည်းဟူမူကား-အလဇ္ဇီသည် ဗဟုဿုတပင်ပြည့်စုံသော်လည်းလာဘဂရု,လောကဂရုစသည်ဖြင့်တရားစဉ်ဆက်ကိုချွတ်ယွင်းစေလျက် ဝိနည်းတရားကိုဖျက်ဆီး၍ သာသနာတော်မြတ်၌ ဘေးရန်ကြီးစွာ ဖြစ်စေတတ်သောကြောင့်ငှင်း, သာသနာကို စောင့်ရှောက်ခြင်းသည် အလဇ္ဇီတို့ အရာမဟုတ်၊ လဇ္ဇီတို့၏ အရာသာ ဖြစ်သောကြောင့်ငှင်း ဆရာစဉ်ဆက်၌ အလဇ္ဇီတို့မဝင်မပါလေ၊မဆီမဆိုင်လေသတည်း။

---

၁။ လဇ္ဇီ—မကောင်းမှုမှ ရှက်ခြင်းရှိသူ။

၂။ အလဇ္ဇီ—မကောင်းမှုမှ ရှက်ခြင်းမရှိသူ။

ထိုသို့သောအကြောင်းကိုမြင်၍ ရှေးမထေရ်ကြီးတို့သည် သာသနာတော်ကိုခင်မွတ်ကုန်သဖြင့် နောင်သောအခါ သာသနာကို အဘယ်သူစောင့်ရှောက်ပါလိမ့်မည်နည်း-ဟု ဆင်ခြင်ကုန်ပြီးလျှင်—

"နောင်သောအခါ သာသနာကို လဇ္ဇီများစောင့်ရှောက်လတံ့၊ လဇ္ဇီများစောင့်ရှောက်လတံ့၊ လဇ္ဇီများစောင့်ရှောက်လတံ့"

ဟု ၃-ကြိမ်တိုင်အောင်မြွက်ဆိုတော်မူခဲ့ကုန်သည်။

တထာ ဟိ ပုဗ္ဗေ မဟာထေရာ တိက္ခတ္တုံ ဝါစံ နိစ္ဆာရေသုံ "အနာဂတေ လဇ္ဇီ ရက္ခိဿတိ လဇ္ဇီ ရက္ခိဿတိ လဇ္ဇီ ရက္ခိဿတိ"တိ-ဟု ဝိနည်းအဋ္ဌကထာတို့၌လာ၏။

### အလဇ္ဇီများသာသနာဖျက်ခြင်း

ထိုသို့ ဆရာစဉ်ဆက်၌ မဝင်မပါသင့်သော အလဇ္ဇီတို့ မဇ္ဈိမတိုက်သောဥဿနကိုရ်၌ ရှိကြောင်းကား ဘုရားပရိနိဗ္ဗာန် စံယူတော်မူသည့်နောက်အနှစ်တရာရောက်လျှင်လက်ဦးကဆိုခဲ့သောအတိုင်းအဓမ္မဝတ္ထု ၁၀-ပါးကိုပြကုန်၍ သင်္ဂါယနာဆရာတို့ နှင်ထုတ်လိုက်သော ဝဇ္ဇီတိုင်းသား ရဟန်းတသောင်းတို့သည် မိမိတို့သဘောတူ ဝိသဘာဂအပင်းအသင်းကိုရှာ၍ မဟာသင်္ဂီတိအမည်ဖြင့် ရဟန္တာအရှင်မြတ်တို့အတူ သင်္ဂါယနာတင်ဟန်ပြု၍ ဂိုဏ်းသီးထောင်ကုန်၏၊ ပဌမ, ဒုတိယသင်္ဂါယနာတင်သည်နှင့် ဆန့်ကျင်အောင်ဖျက်ဆီးလျက် တပါး၌သင်္ဂါယနာတင်ကောင်းသော သုတ်, အဘိဓမ္မာ, ဝိနည်းကို တခြား၌သင်္ဂါယနာတင်လေကုန်၏၊ဟုတ်မှန်သောသဒ္ဒါအနက်ကို ဖျက်ဆီးလေကုန်၏၊ဥပစာ,မုချ,နီတတ်, နေယျတ်, သန္ဓာယဘာသိတ အနက်ပါဠိကိုမသိဘဲသဒ္ဒါရိပ်မျှဖြင့် အနက်အဓိပ္ပါယ်ကို ဖျက်ဆီးလေကုန်၏၊သုတ်,ဝိနည်း, အဘိဓမ္မာ,ပဋိသမ္ဘိဒါ,နိဒ္ဒေသ, ဇာတ်တချို့ကိုစွန့်ပစ်၍ တချို့ကိုသာထားလေကုန်၏၊ထိုသို့ထားခြင်းကား မိမိတို့ဂိုဏ်းတွင်သာတည်း၊သင်္ဂါယနာဆရာတို့ ထေရဝါဒဂိုဏ်းတိုင်အောင် မထားနိုင်လေကုန်၊ရဟန်းတို့အသွင်အပြင် အမူအရာ အနေအသွားများကိုလည်း တရားတော်

ရှိတိုင်း ပကတိသဘောကိုစွန့်၍ တပါးတခြားကျင့်လိုတိုင်းကျင့် ကြိုက်သမျှကျင့်ကြလေကုန်၏။

[ဤကား ဒုတိယ သင်္ဂါယနာတင်သော ရဟန္တာအရှင်မြတ်တို့နှင့် ထုတ်၍ ဂိုဏ်းသီးထောင်သော မဟာသင်္ဂီတိမည်သော အဓမ္မဝါဒီဂိုဏ်းတည်း။]

**အသီးသီးဂိုဏ်းကွဲပြားခြင်း**

ထိုမှနောက် ကာလရှည်လတ်သော်—

၁။ မဟာသင်္ဂီတိဂိုဏ်းကပင် အချင်းချင်းဝါဒကွဲပြားကြ၍—

၂။ ဂေါကူလိကဂိုဏ်း,

၃။ ဧကဗျောဟာရဂိုဏ်းဟု ၂-ဂိုဏ်းကွဲပြားလေ၏။

ထိုမှနောက်လည်း ဂေါကူလိကဂိုဏ်းကပင်အချင်းချင်း မညီမညွတ်ပြန်ကြ၍-

၄။ ဗဟုဿုတိကဂိုဏ်း,

၅။ ပညတ္တိဝါဒဂိုဏ်းဟု ၂-ဂိုဏ်းကွဲပြန်လေ၏။

၆။ တဘန်လည်းစေတိယဝါဒဂိုဏ်းတဂိုဏ်း ခြားနားပြန်၏။

ထိုနောက်ကာလရှည်လတ်သော်ထေရဝါဒဂိုဏ်းမှ ဝိသဘာဂဂိုဏ်းသို့ထွက်ပြန်၍—

၇။ မဟိံသာသကဂိုဏ်း,

၈။ ဝဇ္ဇီပုတ္တကဂိုဏ်းဟု ၂-ဂိုဏ်းကွဲပြန်လေ၏။

ထိုနောက်လည်း ဝဇ္ဇီပုတ္တကဂိုဏ်းကပင် အချင်းချင်း မသင့် မတင့်ပြန်ကြ၍—

၉။ ဓမ္မုတ္တရိကဂိုဏ်း,

၁၀။ ဘဒ္ဒယာနိကဂိုဏ်း,

၁၁။ အနာဂါရိကဂိုဏ်း,

၁၂။ သမုတိဂိုဏ်းဟု ၄-ဂိုဏ်းကွဲပြန်လေ၏။

တဘန်လည်း မဟိံသာသကဂိုဏ်းက အချင်းချင်း မညီမညွတ်ပြန်ကြ၍—

၁၃။ သဗ္ဗတ္ထိဝါဒဂိုဏ်း,

၁၄။ ဓမ္မဂုတ္တိကဂိုဏ်း,

၁၅။ ကဿပိယဂိုဏ်း,
၁၆။ သင်္ကန္တိကဂိုဏ်း,
၁၇။ သုတ္တဝါဒဂိုဏ်းဟု ၅-ဂိုဏ်းကွဲပြန်လေ၏။

ဒုတိယသင်္ဂါယနာတင်သောရဟန္တာအရှင်မြတ်တို့အန္ဓယ်အဆက် ဓမ္မဝါဒီဖြစ်သော ထေရဝါဒဂိုဏ်း မြတ်မှကွဲပြား ခြားနားလေသော မဇ္ဈိမတိုက်၌ ဆိုခဲ့သမျှ အဓမ္မဝါဒီဂိုဏ်းအပေါင်းကား တဆဲ့ခုနစ် ဂိုဏ်းတည်း၊ ထိုအဓမ္မဝါဒီတဆဲ့ခုနစ်ဂိုဏ်းတို့သည်ယခင်ကဆိုခဲ့ပြီးသည့် အတိုင်း သာသနာပြု ဆရာအစဉ်အဆက်၌ မဝင်မပါ၊ မဆီမဆိုင် ကွာဝေးစင်လွင့်လေသတည်း။

### ပဌမသင်္ဂါယနာ ဆရာစဉ်ဆက်

ပဌမသင်္ဂါယနာဆရာစဉ်ဆက်ကား—အရှင်မဟာ ကဿပ, အရှင် အာနန္ဒာ,အရှင်ဥပါလိစသော ဘုရားမျက်မှောက်တော် ရဟန္တာကြီး ငါးရာပင်ဖြစ်၍ အထူးမစဉ်မဆက်သည်၊ ထိုရဟန္တာကြီး ငါးရာမှ ပွားများ လေသော ဆရာတပည့် အဆက်ဆက်ကား သိန်းသန်း မက များပြားလှသတည်း။

### ဒုတိယသင်္ဂါယနာဆရာစဉ်ဆက်

ဒုတိယ သင်္ဂါယနာ ဆရာစဉ်ဆက်ကား-ဘုရား တပည့်တော်ရင်း အရှင်ဥပါလိ,အရှင်ဒါသက, အရှင်သောဏက, အရှင်သိဂ္ဂဝ, အရှင် မောဂ္ဂလိပုတ္တတိဿ၊ ဤရဟန္တာကြီး ငါးပါးဖြင့် ပဌမသင်္ဂါယနာက သည် ဒုတိယသင်္ဂါယနာတိုင်အောင် သာသနာနှစ် တရာပတ်လုံးဆရာ စဉ် ဆက်လက်မိကြောင်းကို “ဥပါလိဒါသကောစေဝ” အစရှိသော ဂါထာဖြင့် ပါရာဇိကဏ် အဋ္ဌကထာ, ပရိဝါ ပါဠိတော်များ၌ ပြ၏၊ ဤဆရာစဉ်ဆက်တွင် ရှေ့ရှေ့ကိုဆရာ, နောက်နောက်ကိုတပည့်-ဟု အဋ္ဌကထာကပင် ဆိုသည်။

ဤဆရာစဉ်၌ ဝိနည်းအရာတွင် ဧတဒဂ်ရသောရဟန္တာကြီးအရှင် ဥပါလိ-ဟူသော အကြောင်းကောင်းမြတ်သည်ကို ထောက်၍ အရှင် မောဂ္ဂလိပုတ္တတိဿတိုင်အောင်သော အကျိုးတို့ ကောင်းမြတ်လှသော အဆက်အန္ဓယ်မှန်ကြောင်းကိုသိရသည်ကား အညာ၌ မိုယ်းရွာသည်

ကိုထောက်၍ အကြေ၌ ရေကြီးမည်ကိုရသိသကဲ့သို့ ကာရဏာနုမာန နည်းတည်း၊ အရှင်မောဂ္ဂလိပုတ္တတိဿ တိုင်အောင်သော အကျိုးတို့ ကောင်းမြတ်သည်ကို ထောက်၍ အရှင်ဥပါလိ-ဟူသော အကြောင်း ကောင်းမြတ်လှသော အဆက်အနွယ် မှန်ကြောင်းကိုသိရသည်ကား- အထက်၌အခိုးအလျှံကိုမြင်၍ အောက်၌ မီးရှိကြောင်းကို သိရသကဲ့သို့ ဖလာနုမာနနည်းတည်း၊အရှင်ဥပါလိ-ဟူသော အစ, အရှင်မောဂ္ဂလိ ပုတ္တတိဿ-ဟူသော အဆုံးတို့ကောင်းမြတ်သည်ကို ထောက်၍ အ လယ်၌ မထင်မရှား အရှင်ဒါသက,အရှင်သောဏက, အရှင်သိဂ္ဂဝတို့ ကောင်းမြတ်သော အဆက်အနွယ်မှန်ကြောင်းကို သိရသည်ကား- ကျောက်ဖျာ အစ,အဆုံး၌ သားခြေရာကို မြင်၍ ကျောက်ဖျာအ လယ်၌ မထင်မရှားသွားလေသော သားခြေရာကို သိရသကဲ့သို့ မိဂပဒ ဝလဉ္ဇနနည်း¹တည်း။

[ဤသို့သောနည်းသုံးပါးဖြင့် ဓမ္မဝါဒီ လဇ္ဇီပေသလ ကောင်းမြတ်လှ သောဆရာစဉ်ဆက်မှန်ကြောင်းကို သိလေ၊နောက်နောက်၌လည်း ဤနည်း နှင့်နှင့်တည်း၊ ထို့ကြောင့်လက်မှန်ရွေး၍ ကျမ်းစကျမ်းရင်းကပင် ဤနည်း သုံးပါးကိုပြထားခဲ့သည်မဟုတ်တုံလော။]

**တတိယသင်္ဂါယနာဆရာစဉ်ဆက်**

တတိယသင်္ဂါယနာဆရာစဉ်ဆက်ကား—

အရှင်မောဂ္ဂလိပုတ္တတိဿ၏ ဥပဇ္ဈာယ်ယူ တပည့်ရင်းဖြစ် သောသိရိဓမ္မာသောကမင်းကြီးသားတော်အရှင်မဟိန္ဒ,အရှင် ဣဋ္ဋိယ, အရှင်ဥတ္တိယ, အရှင်သမ္ဗလ, အရှင်ဘဒ္ဒသာလက စ၍ အရှင်အရိဋ္ဌ,အရှင်တိဿဒတ္တ, အရှင်ကာလသုမန,အရှင် ဒီဃသုမန,တဘန်ငင်းအရှင်ကာလသုမန, အရှင်နာဂ, အရှင် ဗုဒ္ဓရက္ခိတ, အရှင်တိဿ, အရှင်ရေဝ, တဘန်ငင်းအရှင် သုမန,အရှင်စူဠနာဂ, ရောဟဏတိုင်း-အရှင်ဓမ္မပါလိတ, အ ရှင်ခေမ, အရှင်ဥပတိဿ,အရှင်ဖုဿဒေဝ, တဘန်ငင်းအရှင် သုမန,.အရှင်မဟာပဒုမ,အရှင်မဟာသိဝ, တဘန်ငင်းအရှင်

---

၁။ မိဂပဒဝလဉ္ဇနနည်း-အစနှင့် အဆုံးကို သိသဖြင့် အလယ်ကို လည်းသိရ သောနည်း။

ဥပါလိ, အရှင်မဟာနာဂ, အရှင်အဘယ, တဘန်ငင်းအရှင်တိဿ, တဘန်ငင်းအရှင်သုမန,အရှင်စူဠာဘယ, တဘန်ငင်းအရှင်တိဿ, အရှင်စူဠဒေဝ,အရှင်သိဝ—

ဤသို့စသော ဆရာစဉ်ဆက်ဖြင့် ဒုတိယသင်္ဂါယနာတင်ပြီးနောက် ပေထက်တင်သော စတုတ္ထသင်္ဂါယနာတိုင်အောင် သာသနာတော်နှစ် ၃၅၀-ပတ်လုံး ဆရာစဉ် ဆက်လက်မိကြောင်းကို ''တတောမဟိန္ဒောဣဋ္ဋိယော''အစရှိသော ဂါထာဖြင့် ပါရာဇိကကဏ် အဋ္ဌကထာ, ပရိဝါပါဠိတော်များ၌ပြ၏။

[ဤဆရာစဉ်ဆက်တွင် အကြောင်းအကျိုး,အစအဆုံးများကို ထောက်၍ ယခင်သက်ဦးကနည်းသုံးပါးဖြင့် ဓမ္မဝါဒီသဇ္ဇီပေသလ ကောင်းမြတ်လှသော ဆရာစဉ်ဆက် မှန်ကြောင်းကိုသိလေ။]

**သီဟိုဠ်ကျွန်း ကျမ်းပြုဆရာစဉ်ဆက်**

ပေထက်တင်သော စတုတ္ထသင်္ဂါယနာတင်ပြီးနောက် သီဟိုဠ်ကျွန်း၌ ဆရာစဉ်ဆက်ကား အဋ္ဌကထာ,ဋီကာ,အနု,မဓု,လက်သန်း,ဂဏ္ဌိ,ဂန္ထန္တရ,ယောဇနာ၊ ကျမ်းမျိုး ၇-ပါး, ဂ-ပါးကိုစီရင်ပြုစုသောကျမ်းပြုဆရာအစဉ်အဆက်ဖြင့်ငင်း၊အတိုင်းမသိသောရဟန္တာအရိယာ ပွားများသဖြင့်ငင်း ဆရာစဉ်ဆက် ကာလအရှည် တည်ထွန်းကြောင်းကို အောက်ကပြခဲ့ပြီ၊ ကျမ်းပြုဆရာစဉ်ဆက် အမြွက်ကား—

ရှင်ဗုဒ္ဓဃောသ,ရှင်ဗုဒ္ဓဒတ်,ရှင်ဓမ္မပါလ, ရှင်မဟာနာမ, ရှင်ဥပသေန,ရှင်အာနန္ဒာ,ရှင်သာရိပုတ္တရာ, ရှင်မောဂ္ဂလာန်, ရှင်ကဿပ, ရှင်ဓမ္မသိရီ, ရှင်အနုရုဒ္ဓါ, ရှင်ဝဇိရဗုဒ္ဓိ, ရှင်စူဠဗုဒ္ဓ,ရှင်သံဃရက္ခိတ,ရှင်ဓမ္မကိတ္တိ,

ဤသို့ အစရှိသော ကျမ်းပြုဆရာများကား ယခင်နည်း ၃-ပါးဖြင့် ဆက်လက်၍ သီဟိုဠ်ကျွန်း၌ ဆရာစဉ်ဆက်ကိုယူမှတ်လေ။

[ဤကား-သင်္ဂါယနာသုံးတန်ကစ၍ ပေထက်တင်သော စတုတ္ထသင်္ဂါယနာတိုင်အောင်ငင်း,ထိုနောက် သီဟိုဠ်ကျွန်း၌ သာသနာစည်ထွန်းသည့်တိုင်အောင်ငင်း ဆရာဆက်, တပည့်ဆက် အာစရိယပရမ္ပရ သိဿာနုသိဿ အစဉ်မပျက် ပုတီးလုံးကိုသီသကဲ့သို့ နည်း ၃-ပါးဖြင့် ဆက်လက်မိကြောင်း အမြွက်စကားတည်း။]

ဆရာစဉ်တပည့်ဆက်အကြောင်းပြီး၏။

---

# ၁၅—ရာမညတိုင်း၌သာသနာတော် သက်ဆင်းပုံအကြောင်း

### လက်ဦးစွာသာသနာတော်ဆက်

ယခုကား ငါတို့မြန်မာနိုင်ငံ၌ သာသနာဝင်ဆရာစဉ်ဆက်ကို ပြဆိုခွင့်ရောက်ပြီ၊ ထိုသို့ပြဆိုရာ၌လည်း အရာမကသော ခရိုင်ဇနပုဒ်တို့ဖြင့် မှတ်သားပိုင်းခြားအပ်သော ရာမညတိုင်း,ယောနကတိုင်း, သုနာပရန်တမ္ဗဒီပတိုင်းဟူသော ဤမြန်မာတိုင်းနိုင်ငံတွင် ရာမညတိုင်းမွန် ၃-ရပ်သည် အရှင်ဗုဒ္ဓဃောသ သိင်္ဂိုဠ်က ပြန်လာသည့်ကာလ ပိဋကကို သထုံပြည်သို့ ဆောင်ယူခဲ့သောစကားနှင့် အစပ်အလျှင်းသင့်သည်ဖြစ်၍ ရာမညတိုင်းသာသနာဝင် ဆရာဆက်ကို လက်မွန်ရွေးဦးပြပေအံ့။

၁။ သထုံ,မုတ္တမ-စသော ရာမညတိုင်းအစိတ်-သုဝဏ္ဏဘူမိ,

၂။ တိဂုံ,ဒလစသော ရာမညတိုင်းအစိတ်-ဥက္ကလာပ,

၃။ ပုသိမ်,မြောင်းမြစသော ရာမညတိုင်းအစိတ်-ကုသိမရဋ္ဌ-

ဟူ၍ မွန် ၃-ရပ်ပညတ်နာမ အထူးဖြင့် စာပေကျမ်းဂန်ရှိသည်၊ "ကုသိမမဏ္ဍလ ဟံသာဝတီမဏ္ဍလ မုတ္တမမဏ္ဍလ သင်္ခါတေသု တီသု ရာမညမဏ္ဍလေသု"ဟု ကလျာဏီကျောက်စာတွင်ဆိုသည်လည်း အရအတူပင်ဖြစ်သည်၊ မွန်တိ, မွန်စ, မွန်ည ဟူသော တလိုင်းသုံးရပ်ဟူ၍ အာစရိယဝံသ စာတမ်းများရှိသည်လည်း အရတချက်တည်းပင်ဖြစ်သည်၊ ထို ၃-ရပ်တွင်ဥက္ကလာပဇနပဒ မည်သော ရာမညတိုင်းသား လက်ဦးစွာဒွေဝါစိကသရဏဂုံယူ၍ လက်ဦးစွာပျားဆုပ်မုံ့,ကြွက်ကျစ်မုံ့အာဟာရလှူဒါန်းရသော တပုဿ, ဘလ္လိက ကုန်သည်ညီနောင်တို့ကအရင်းစ၍ ဘုရားဖြစ်တော်မူဦး သတ္တဌာနအလွန် ၇-ရက် ၇-ကြိမ်၊ ၄၉-ရက်၊ဝါဆိုလဆန်း ၄-ရက်၅-ရက်ကပင် ရာမညတိုင်း၌ သာသနာတော်မြတ် သက်ဆင်းစဖြစ်သည်။

[ဤကား ရာမညတိုင်း၌ လက်ဦးစွာ သာသနာတော်ဆက်တည်း။]

### ၂-ကြိမ်မြောက်သာသနာတော်ဆက်

ဘုရားပွင့်တော်မမူမီ ကာလအရှည်ကပင် ကရဏ္ဍကတိုင်း သုဘိန္နမြို့ တိဿမင်းလက်ထက် အမတ်ကြီးသားတိဿကုမ္မာနှင့် ညီ-ဇယကုမ္မာ

တို့ လူ့အဖြစ်၌သံဝေဂရ၍ သမုဒ္ဒရာအနီး ဂဇ္ဇဂိရိကျောက်တောင်ဝယ် ရသေ့ပြုနေကြသည်၊ ထိုအခါနဂါးမနှင့် ဝိဇ္ဇာဓိုရ်ဆက်ဆံကြ၍ ဥနှစ်လုံး ဘွားပြီးလျှင် နဂါးမစွန့်သွားသည်ကိုနောင်တော်ရသေ့ရ၍ ညီတော် ရသေ့နှင့်တလုံးစီ သိုမှီးသိမ်းထားကြသော် လူ့သားယောက်နှစ်ယောက် ပေါက်လေသည်၊ ဆယ်နှစ်ရွယ်ရှိမှညီတော်ရသေ့တွင် သူငယ်သေလွန် ၍ မဇ္ဈိမတိုက်မိဓိလာပြည်မှာ ဂဝံပတိသတို့သား ဖြစ်ပြန်လေသည်၊ ခုနစ်နှစ်ရွယ်ရှိလျှင်ဘုရားရှင်ထံအပ်၍ရဟန်းပြုသဖြင့် ရဟန္တာဖြစ်လေ သည်၊နောင်တော်ရသေ့တွင်သူငယ်တဆယ့်ခုနစ်နှစ်ရွယ် ရှိလျှင် သိကြား မင်းမြို့နန်းဘန်ဆင်းပေး၍ "သီဟရာဇာ" နာမံခံလျက် မင်းဖြစ်လေ သည်။

[မော်ဓော ကျောက်စာတွင် မင်းမည်ကို သိရိမာသောက၊ မြို့မည်ကို သုဓမ္မပုရ-သထုံဟုဆိုသည်။ ]

**အရှင်ဂဝံပတိသာသနာပြုတော်မူခြင်း**

ရဟန္တာအရှင်ဂဝံပတိလည်း မိခင်ကိုတွေ့ချင်၍ မိဓိလာပြည်သို့ ဘုရားအထံတော်ကကြွသွားမည်ရှိစဉ် အမိသေလွန်ကြောင်းကို သိ၍ အဘယ်မှာဖြစ်လေသနည်း-ဟုဆင်ခြင်သော် မုဆိုးတံငါတို့ အလေ့အ ကျက်သာများသော ရာမညတိုင်းပြည်မှာ ဖြစ်လေသည်၊ ငါသွား၍ မဆုံးမသော် ငါ့အမိအပါယ်လားမည်ဟုကြံပြီးလျှင် ဘုရားရှင်အား ပန်ကြား၍ရာမညတိုင်းသို့ ကောင်းကင်ခရီးဖြင့်ပျံသွားလေ၏၊ ရာမည တိုင်းသထုံပြည်သို့ရောက်၍ အထက်က ညီနောင်ဖြစ်ဘူးသောသီဟ ရာဇာမင်းနှင့်တကွ ပြည်သူပြည်သားတို့အား တရားဟော၍ ပဉ္စသီ သီတင်းဆောက်တည်စေ၏။

ထိုရောအခါသီဟရာဇာမင်းက သခင်ကား လူတွင်အထွတ်အဖျား ဖြစ်တော့သည်ဟု လျှောက်သည်ကို ငါကား လူတွင်အထွက်အဖျား မဟုတ်ပေ၊ ၃၁-ဘုံတွင် လူ,နတ်,ဗြဟ္မာ သတ္တဝါတို့၏ အထွတ်အဖျား မကိုင်ရှသရဖူ ဖြစ်တော်မူသော ငါ့ဆရာမြတ်စွာဘုရားသည် မဇ္ဈိမတိုက် ရာဇဂြိုဟ်ပြည်မှာ ယခုရှိသည်ဟုမိန့်ဆိုလျှင် ထိုဘုရားသခင်ကို ကျွန်ုပ်တို့ ဖူးမြင်ရအောင် ပင့်ဆောင်တော်မူပါဟု သီဟရာဇာမင်းကလျှောက် သည်ကို အရှင်ဂဝံပတိဝန်ခံတော်မူ၍ဘုရားရှင်အား ပင့်ဘိတ်တောင်း

ပန်သော် ရှစ်ဝါမြောက်တွင် သံဃာတော်နှစ်သောင်းနှင့်တကွ ရာမည တိုင်း သထုံမြို့သို့ ကောင်းကင်ခရီးဖြင့်ကြွတော်မူလာ၏။

[ရာဇဝင်တွင် သံဃာတော်ငါးရာ၊ မော်မောကျောက်စာတွင် သံဃာ တော်နှစ်သောင်းဆိုသည်။]

ရောက်တော်မူလျှင် ရတနာမဏ္ဍပ်တွင် နေတော်မူ၍ မင်းနှင့် တ ကွပြည်သူပြည်သားတို့အား တရားအမြိုက် တိုက်ကျွေးတော်မူ၏၊သရ ဏဂုံ,သီလတည်စေတော်မူ၏၊ ထိုရောအခါ ဖူးမျှော်လာသော ရသေ့ ခြောက်ဦးတို့အား ဆံတော်ဓာတ်ခြောက်ဆူလည်းပေးတော်မူခဲ့၏၊ ထို နောက် ၃၇-ဝါစေ့၍ ပရိနိဗ္ဗာန်စံတော်မူသောအခါလည်း အဓိဋ္ဌာန် တော်မူရင်းရှိသည့်အတိုင်း သကြိဳဟ်ရာလောင်တိုက်တော်က သုံးဆယ့် သုံးချောင်းသော သွားတော်ဓာတ်ကို အရှင်ဂဝံပတိထုတ်ယူ၍ သထုံ ပြည်သို့ ဆောင်ပြီးလျှင် သီဟရာဇာမင်းအား ပေးအပ်တော်မူ၍ ကျောက်စေတီ ၃၃-ဆူတည်ထားကိုးကွယ်တော်မူလေ၏၊ ဤသို့လျှင် ဘုရားဖြစ်တော်မူပြီးနောက် ရှစ်ဝါမြောက်ကပင် ရဟန္တာအရှင်ဂဝံ ပတိပြုစု၍ ရာမညတိုင်း သထုံပြည်မှာ သာသနာတည်ထွန်း၏။

[ဤကား ရာမညတိုင်း၌ နှစ်ကြိမ်မြောက်သာသနာတော်ဆက်တည်း။]

## ၃-ကြိမ်မြောက် သာသနာတော်ဆက်

ပရိနိဗ္ဗာန်စံယူတော်မူပြီးနောက်သာသနာ၂၃၅-ခုနှစ်ရောက်လတ် သော် ရာမညတိုင်းအစိတ် သုဝဏ္ဏဘုမ္မိသို့ အရှင်သောဏ, အရှင်ဥတ္တ ရမထေရ် ၂-ပါးကို အရှင်မောဂ္ဂလိပုတ္တတိဿက ရဟန်းပြုကံ မြောက် လောက်အောင် သံဃာငါးပါးနှင့် သာသနာပြု စေလွှတ်တော်မူ၏၊ ထိုအရှင်မြတ်တို့ကား- အရှင် မောဂ္ဂလိပုတ္တတိဿ၏ တပည့်ရင်း-ဟူ၍ အဋ္ဌကထာ၌ ဆိုသည်။

တပုဿ,ဘလ္လိကညီနောင် ၂-ဦးနှင့်အသီတိမဟာသာဝက[၁]အဝင်အ ရှင်ဂဝံပတိတို့က အရင်းစ၍ ရာမညတိုင်းသို့ သာသနာ သက်ဆင်းပြီး လျှင် သာသနာပြုတဘန် စေလွှတ်ပြန်သည်ကား-ယင်းသို့ သက်ဆင်း ခြင်းသည်မဖြစ်လျှင်ဖြစ်အောင်ပြုစု၍သက်ဆင်းသည့်အရာမဟုတ်၊သဒ္ဒါ

၁။ အသီတိမဟာသာဝက-ရှစ်ဆယ်သော သာဝကကြီး။

ကြည်ညိုသူတို့ သဒ္ဓါကြည်ညိုသမျှဖြင့် အလိုအလျောက် သက်ဆင်းခြင်း သာတည်း၊ သာသနာပြု စေလွှတ်သည်မှာကား-မသဒ္ဓါသူတို့ကို သဒ္ဓါ အောင်, မကြည်ညိုသူတို့ကို ကြည်ညိုအောင် ဟောပြောဆုံးမစိမ့်မည် ဟု အာဏတ္တိနှင့် စပ်၍ စေခိုင်းခြင်းဖြစ်၏၊ထို့ကြောင့် ''တုံ့ တေံ ရဋ္ဌံ ဂန္တွာ ဧတ္ထ သာသနံ ပတိဋ္ဌာပေဟိ'' ဟူ၍ အဋ္ဌကထာ၌ ကာရိတ် ပစ္စည်း,ပဉ္စမီဝိဘတ်, အာဏတ္တိ အနက်ဖြင့် ပြသတည်း။

## အရှင်သောဏ,အရှင်ဥတ္တရတို့သာသနာပြုတော်မူခြင်း

ထိုရောအခါ သုဝဏ္ဏဘူမိတိုင်း သထုံပြည်ဝယ် သိရီမာသောကမင်း ပြု၏၊ သထုံပြည်ကား- ကေလာသတောင်ထိပ်စေတီ အနောက်တောင် တွင် အရှေ့တဝက်တောင်ထိပ်, အနောက်တဝက်မြေညီ၌တည်၏၊ထိုမြို့ ကိုတင်လဲချက်သော လူတို့အိမ်ကဲ့သို့ အိမ်အများ ရှိလေသောကြောင့် ဂေါဠမတ္တိကမြို့လည်း ခေါ်ဝေါ်သည်၊ တိုက်ကုလားမြို့ဟု အမှာပါ၏၊ ထိုမြို့သည်သမုဒ္ဒရာနှင့်နီးသောကြောင့်ရေစောင့်ဘီလူးမသည်မင်းအိမ်၌ သားဘွားတိုင်းစားလေ၏၊သာသနာပြုမထေရ်တို့ရောက်သောနေ့လည်း မင်းအိမ်၌ သားဘွားခိုက်ကြိမ်၍ ဘီလူးမ-စားမည်ဟု အရံငါးရာနှင့် လာသည်ကို လူတို့မြင်၍ ကြောက်လန့်ကြွေးကြော်ကြ၏၊ ထိုသို့စဉ်တွင် မထေရ်တို့လည်း ကြောက်မက်ဘွယ်ရှိသောခြင်္သေ့နှင့်တူသော ခေါင်း တလုံး,ကိုယ် ၂-ခုရှိသော မနုသီဟသဏ္ဌာန်နှင့် အရေအတွက် နှစ်ဆ တက်သာအောင် ဘန်ဆင်းပြီးမှ ဘီလူးမတို့ကိုလိုက်၍ပိတ်ဆီးကုန်လျှင် ဘီလူးမတို့ပြေးသွားလေကုန်၏။

မထေရ်တို့လည်း တဘန်ဘီလူးမတို့မလာစိမ့်သောငှါ ပရိတ်အရံ အတားကိုပြုပေ၏၊ထိုကာလစည်းဝေးလာသော သူတို့အားဗြဟ္မဇာလ သုတ်ကို ဟောတော်မူသော်ခြောက်သောင်းသောလူတို့ အကျွတ်တတန် သောတာပန်စသော အရိယာဖြစ်လေကုန်၏၊ သုံးထောင့် ငါးရာသော ယောကျ်ားတို့သည် ရဟန်းပြုကုန်၏၊ ရဟန်းပြုသော မင်းသားချည်းပင် တထောင့်ငါးရာနှင့်ရှိသတည်း၊ ကြွင်းသောလူတို့ကိုလည်း သရဏဂုံ တည်စေ၏၊ ထိုကာလမှစ၍ ယနေ့ဘွားစမင်းသားငယ်တို့အား သော ဏုတ္တရ-ဟူ၍ ငယ်မည်မှည့်လင့်ကုန်သတည်း။

သူငယ်ခပ်သိမ်းတို့အားလည်း ဘီလူးဘေးကိုဆီးတားခြင်းငှါ ထန်းရွက်,သလူရွက်များတွင် မထေရ်တို့ဘန်ဆင်းသော မနုသီဟရုပ်ကိုရေး၍ ခေါင်းထက်တင်ထားကုန်၏၊ ထိုအရုပ်ကို သထုံမြို့၏ အရှေ့မြောက်ထောင့်တောင်ထိပ်ထက်ကျောက်ရုပ်ထု၍ ယခုထက်တိုင် ထင်ရှားရှိသတည်း၊ ဤသို့လျှင် ဘုရားပရိနိဗ္ဗာန် စံတော်မူသည့်နောက် ၂၃၅-နှစ်ရောက်လတ်သောအခါ အရှင်သောဏ, အရှင်ဥတ္တရနှင့် သာသနာပြုမထေရ်ငါးပါးတို့ပြုစု၍ ရာမညတိုင်း မွန် ၃-ရပ်၌ သာသနာတော်မြတ်တည်ထွန်း၏။

[ဤကား ရာမညတိုင်း၌သုံးကြိမ်မြောက်သာသနာတော်ဆက်တည်း။]

## ၄-ကြိမ်မြောက်သာသနာတော်ဆက်

ထို့နောင်သာသနာနှစ် ၁၆၀၀-ရောက်သောအခါ ယခင်ဆိုခဲ့ပြီးသောအကြောင်း ၃-ပါးဖြင့် သာသနာတော်မြတ် စည်ပင်ထွန်းလင်းစွာသော ရာမညတိုင်းကြီးသည် ပြည်ရွာကိုလုယက်သောသူပုန်ဘေး, မြွေဆိပ်ရောဂါနှင့်တူသော ယင်အနာဘေး,တော်မွတ်ခြင်းဘေး, သာသနာကို ယုတ်နွမ်းစေတတ်သောရန်သူစစ်သည်ဘေးတို့ဖြင့် နှိပ်စက်လေရကား အားနည်းစွာဖြစ်ခဲ့၏၊ နေ့တိုင်းနေ့တိုင်း ရဟန်းများလည်း ပရိယတ်,ပဋိပတ်ကို မဖြည့်နိုင်ခဲ့ကုန်၊ သူရိယကုမ္မာငယ်မည်ရှိသော မနော်ဟရီမည်သော သထုံပြည် မနူဟာမင်း လက်ထက်ကားစင်စစ်လျှင်အားနည်းစွာဖြစ်လေ၏။

ထိုရောအခါ သာသနာနှစ် ၁၆၀၁-နှစ်၊ သက္ကရာဇ် ၄၁၉-နှစ်၌ အရိမဒ္ဒန¹နော်ရထာမင်းစောတိုက်၍ ပိဋကနှင့်တကွ ရဟန်းသံဃာကို ပုဂံသို့ဆောင်လေသတည်း၊ ထို့နောင်သာသနာ ၁၇၀၀-နှစ်၊ သက္ကရာဇ် ၅၂၆- နှစ်ရောက်သောအခါ သီဟိုဠ်၌ သိရီသင်္ဃဗောဓိပရက္ကမဗာဟုမဟာရာဇာမင်း သာသနာကိုသုတ်သင်၏၊ထိုနောက်ခြောက်နှစ်မြောက်သက္ကရာဇ် ၅၃၂-နှစ်ရှိသောအခါ ပုဂံနရပတိစည်သူမင်းကြီးဆရာဥတ္တရာဇီဝမထေရ် ရဟန်းသံဃာများစွာနှင့် ပုသိမ်ဆိပ်ကသင်္ဘောစီး၍သီဟိုဠ်ကျွန်းသို့ စေတီပုထိုးရှိခိုးအံ့သောငှါသွားလေ၏။

---

၁။ အရိမဒ္ဒန-ရန်သူကိုနှိပ်နင်းနိုင်သောမင်း။

## အရှင်ဥတ္တရာဇီဝနှင့်အရှင်ဆပ္ပဒ

ဥတ္တရာဇီဝမထေရ်ဟူသည် အဘယ်သူနည်း၊ အဘယ်ကအဆက်အနွယ်နည်းဟူမူကား—ဥတ္တရာဇီဝမထေရ်သည် ရာမညတိုင်းသားအရိယဝံသမထေရ်၏တပည့်၊ အရိယဝံသမထေရ်ကား ကပ္ပုင်္ဂမြို့နေမဟာကာလမထေရ်၏ တပည့်၊ မဟာကာလမထေရ်ကား သထုံမြို့နေ ပြာဏဒဿီမထေရ်၏ တပည့်တည်း၊ထိုပြာဏဒဿီမထေရ်သည်လောကီဈာန်,အဘိညာဉ်ကိုရ၍ နေ့တိုင်းမပြတ်နံနက်စောစောကမဂဓရာဇ်တိုင်း ဥရုဝေဠုနိဂုံး မဟာဗောဓိသို့ကြွ၍ မဟာဗောဓိပြင်ကို တံမြက်လှည်းပြီးမှ တဘန်ပြန်၍သထုံမြို့မှာ ဆွမ်းခံဝင်မြဲတည်း၊ ထိုအကြောင်းကို သထုံမြို့က မဂဓရာဇ်တိုင်းသို့သွား၍ ဥရုဝေဠုနိဂုံး၌ ကုန်သွယ်ရောင်းသော ကုန်သည်တို့မြင်ခဲ့သဖြင့် သထုံသားတို့အားပြောကြားသောကြောင့် လောကီဈာန်, အဘိညာဉ်ရပေသူ-ဟူ၍ အများသိကြသတည်း။

ထိုအခါအသက် ၂၀-ရှိသော ဆပ္ပဒသာမဏေလည်း ထိုမထေရ်နှင့်အတူ သီဟိုဠ်သို့လိုက်လေ၏၊ ဆပ္ပဒသာမဏေဟူသည် အဘယ်သူနည်း၊ အဘယ့်ကြောင့် ဆပ္ပဒသာမဏေခေါ်ဝေါ်သနည်း ဟူမူကား- ထိုသာမဏေသည် ပုသိမ်မြို့သူကြီး၏ သားဥတ္တရာဇီဝမထေရ်၏တပည့်ရင်းတည်း၊ ပုသိမ်ကျေးဆပ္ပဒရွာသားဖြစ်သောကြောင့် ဆပ္ပဒသာမဏေဟုခေါ်ဝေါ်သတည်း။

ဥတ္တရာဇီဝမထေရ်သည် သီဟိုဠ်သို့ရောက်လျှင် သီဟိုဠ်သားမထေရ်များနှင့် တရေးစကားနှီးနှော၁ပြောဟော၍ခင်မင်စွာရှိကြ၏၊ ငါတို့လည်း သီဟိုဠ်၌ သာသနာပြုအရှင်မဟိန္ဒအဆက်အနွယ်၊ သင်တို့လည်းသထုံသာသနာပြု အရှင်သောဏ, အရှင်ဥတ္တရတို့အဆက်အနွယ်ဖြစ်သည်၊ ထို့ကြောင့် ငါတို့တချက်တလက်တည်း သံဃကံကို ပြုကုန်အံ့-ဟုဆပ္ပဒသာမဏေကိုအတူတကွ ပဉ္စင်းခံကြ၏၊ထို့နောင်စေတီပုထိုးရှိခိုးခြင်းစသော သီဟိုဠ်၌ကိစ္စကိုပြီးစေ၍ ပုဂံသို့ရဟန်းသံဃာနှင့်တကွ ဥတ္တရာဇီဝမထေရ်ပြန်လေ၏။

### အရှင်ဆပ္ပဒပုဂံသို့ပြန်ကြွခြင်း

ထိုရောအခါ အရှင်ဆပ္ပဒအားဤသို့အကြံဖြစ်၏။

''ငါ့ဆရာနှင့်ငါအတူပြန်သွားသော် ပုဂံ၌ဆွေမျိုး၏ ကြောင့်ကြပလိဗောဓဖြင့် ပါဠိ,အဋ္ဌကထာစာပေကျမ်းဂန် ကောင်းစွာမသင်ကြားရလတံ့၊ သီဟိုဠ်ကျွန်းတွင်နေရစ်၍ သင်ကြားပြီးမှ ပြန်သွားရသော် ကောင်း၏-ဟုကြံပြီးလျှင် ဆရာအားပန်ကြား၍ သီဟိုဠ်၌ နေရစ်၏၊ ထို့နောင် ဆယ်ဝါမြောက်၍ ထေရသမုတိရသည့်တိုင်အောင်သင်ကြားပြီးမှ ပုဂံသို့ပြန်ရလိုကား ဤသို့ကြံပြန်၏။

> ''ငါတပါးတည်းသာပြန်သွားသော် ငါ့ဆရာမရှိနှင့်၍ ပုဂံသားသံဃာများနှင့်အတူကံမပြုလိုလျှင် ပဉ္စဝဂ်သံဃာမပြည့်ချေက အသီးအခြား ကံမပြုသာရှိခဲ့ရာ၏၊ ထို့ကြောင့် ပိဋကကိုဆောင်သောမထေရ် ၄-ပါးတို့နှင့်အတူ ပြန်သွားရမူသင့်၏''

ဟုကြံပြီးသော် တာမလိတ္ထိရွာသား သီဝလိထေရ်, ကမ္ဘောဇမင်းသား တာမလိန္ဒထေရ်, ကိဉ္စိပုရမြို့သား အာနန္ဒထေရ်, သီဟိုဠ်ကျွန်းသားရာဟုလထေရ်၊ ဤမထေရ် ၄-ပါးတို့နှင့်တကွ ပဉ္စဝဂ်ပြည့်အောင်သင်္ဘောစီး၍ပြန်လာခဲ့၏၊ထိုမထေရ်ငါးပါးတို့သည် ပိဋက ၃-ပုံဆောင်ကုန်သည်၊ လိမ်မာကုန်သည်၊အရည်ရှိကုန်သည်ချည်းတည်း၊ ရာဟုလထေရ်ပင် သာလွန်၍အစွမ်းအရည်ရှိသည်ဟူ၏၊ပုသိမ်ဆိပ်သို့ သင်္ဘောဆိုက်လျှင် ဝါဆိုလနီးရကား ပုဂံသို့မရောက်နိုင်၍ ပုသိမ်မြို့တွင်ပင်ဝါဆိုရကုန်၏၊ မထေရ်တို့ဝါဆိုသောကျောင်းရာအာရာမ်တံတိုင်းသည် ပုသိမ်မြို့တောင်စူးစူးအရပ်တွင် ယခုထက်တိုင် ထင်ရှားရှိသေး၏။

> [ပုသိမ်ကား မြန်မာဘာသာ၊ ကုသိမ်ကား မွန်ဘာသာ၊ ထို့ကြောင့် ကုသိမရဋ္ဌ, ကုသိမနဂရ-ဟု ကလျာဏီကျောက်စာ၌ ပါဠိစီလေသည်။]

### ပုဂံရဟန်းတို့နှင့်ခွဲ၍ကံပြုခြင်း

ထို့နောင် ဝါလကျွတ်၍ပဝါရဏာပြုပြီးလျှင် မထေရ်ငါးပါးတို့ပုဂံသို့ကြွရောက်တော်မူကုန်၏၊ဥတ္တရာဇီဝထေရ်လည်းရှင်ဆပ္ပဒတို့မရောက်မီ ၂-ရက် ၃-ရက်ကပင် သေလွန်နှင့်၏၊ ရှင်ဆပ္ပဒလည်း ဆရာကိုသင်္ဂြိုဟ်ရာသို့သွား၍ ရှိခိုးခြင်း ကန်တော့ခြင်းများကိုပြုပြီးမှ မထေရ်

လေးပါးတို့နှင့် ဤသို့တိုင်ပင်၏၊ငါတို့ဆရာ ဥတ္တရာဇီဝမထေရ်နှင့်သီဟိုဠ်ဆရာတို့အတူတကွသံဃကံကိုပြုကြသကဲ့သို့ ငါတို့လည်းအရှင်သောဏ, အရှင်ဥတ္တရတို့အဆက်အနွယ် ပုဂံရဟန်းတို့နှင့်အတူတကွသံဃကံကိုပြုသင့်ပေ၏၊ သို့ရာတွင် အထက်ကငါတို့ဆရာ အစိုးရသည်၊ ယခုကား မြန်မာရဟန်းတို့အစိုးရလေသည်၊ထို့ကြောင့် ထိုရဟန်းတို့နှင့် အတူတကွ သံဃကံကိုမပြုလိုပြီဟု တိုင်ပင်ပြီးသော် မာန၏အစွမ်းအားဖြင့် ပုဂံရဟန်းတို့မှ သီးခြား၍ သံဃကံကိုပြုလေ၏။

### ဒလ၌အရှင်ဓမ္မဝိလာသ သာသနာပြုခြင်း

ထိုရောအခါ ဒလမြို့ကျေး ပဒိပ္ပဇေယျရွာသား သာရိပုတ္တရာမည်သော သာမဏေကြီးတဦးသည် ပုဂံသို့သွား၍ အာနန္ဒာမထေရ်အထံ ပဥ္စင်းခံပြီးလျှင် စာပေကျမ်းဂန်သင်ကြား၏၊ အကြားအမြင်များသည်၊ လိမ်မာသည်၊စွမ်းရည်ရှိသည်-ဟု ထင်ရှားကျော်စော၏၊ထိုအကြောင်းကိုနရပတိစည်သူ မင်းကြီးကြား၍ အင်္ဂါကြီးငယ်ပြည့်စုံလျှင် ဆရာပြု၍ ဆည်းကပ်မည်ဟု စုံစမ်းစေသော် ခြေမဖျားပြတ်ကြောင်းကို ကြားသဖြင့် အင်္ဂါကြီးငယ်မပြည့်စုံလေဟုအမှတ်ရှိ၍ ဆရာရင်းမပြုလေ၊ ပူဇော်သက္ကာရမျှသာပြုပြီးလျှင်“ဓမ္မဝိလာသ”ဟူသောအမည်ကိုလှူ၍ရာမညတိုင်းမှာ သာသနာကိုထွန်းလင်းအောင်ပြုပါဟုဆို၍ ရာမညတိုင်းသို့စေလိုက်၏၊ဓမ္မဝိလာသမထေရ်လည်း ရာမညတိုင်းသို့သွား၍ ဒလမြို့၌များစွာသောရဟန်းတို့ကို ဓမ္မဝိနယကျမ်းဂန်စာပေသင်ကြားပေ၏၊ ထိုဓမ္မဝိလာသမထေရ်၏အဝင်အပါ သံဃာကို သီဟိုဠ်အပင်းအသင်းသံဃာဟူ၍ မွန်တို့ခေါ်ဝေါ်ကုန်သည်၊ ဤသို့လျှင် သီဟိုဠ်ဆရာ ရှင်အာနန္ဒာတပည့်ရှင်ဓမ္မဝိလာသကိုစွဲ၍လည်း ရာမညတိုင်းသို့ သီဟိုဠ်သာသနာသက်ဆင်းသည်။

[ဤကား ရာမညတိုင်း၌ လေးကြိမ်မြောက် သာသနာတော်ဆက်တည်း။]

### ၅–ကြိမ်မြောက် သာသနာတော်ဆက်

ထိုရောအခါ သိရီရတနာပုရ မည်သော မုတ္တမမြို့၌ မိဖုရားကြီးဆရာ ဖြစ်သော ဗုဒ္ဓဝံသ မထေရ်,မဟာနာဂ မထေရ်တို့သည် သီဟိုဠ်

ကျွန်းသို့ကူး၍ မဟာဝိဟာရဝါသီ အဆက်အနွယ်သံဃာတို့ထံသိက္ခာအသစ်တင်ပြီးမှ မုတ္တမမြို့သို့ပြန်လာ၍၊ရှိရင်းသံဃာနှင့် မနှော မယှက် အသီးအခြား သံဃကံကိုဆောင်လျက် ဂိုဏ်းသီးထောင်၍ သာသနာ ပြုကြ၏၊ ထိုဆရာတို့ကိုစွဲ၍ ရာမညတိုင်းသို့ သီဟိုဠ်သာသနာသက်ဆင်း လာပြန်သတည်း။

[ဤကား ရာမညတိုင်း၌ ငါးကြိမ်မြောက်သာသနာတော်ဆက်တည်း။]

### ၆–ကြိမ်မြောက်သာသနာတော်ဆက်

ထိုမှ နောက်၌လည်း မုတ္တမမြို့၌ ဆင်ဖြူရှင် မင်းကြီး မယ်တော် ဆရာဖြစ်သော မေဓင်္ကရမထေရ်သည် သီဟိုဠ်သို့ကူး၍ သီဟိုဠ်ကျွန်း ၌ တောကျောင်းနေသော ချီးမွမ်းအပ်သော မထေရ်ကြီးတို့အထံ သိက္ခာအသစ်တင်၍ ကျမ်းဂန်သင်ပြီးမှ မုတ္တမမြို့သို့ပြန်လာ၍၊ ရွှေငွေ မွမ်းမံသော သလွဲဖြူမိုးသော ဆင်ဖြူရှင်မယ်တော်ကျောင်းတွင် နေ၍ သာသနာပြု၏၊ လောကဒီပကသာရကျမ်းကိုလည်းစီရင်၏၊ထိုမှတပါး လည်း မုတ္တမမြို့၌ပင် သုဝဏ္ဏသောဘဏ မထေရ်သည် သီဟိုဠ်သို့ကူး၍ မဟာဝိဟာရဝါသီ အဆက်အနွယ်ဆရာတို့ထံ အသစ်ပဉ္စင်းခံပြီးမှ မုတ္တမမြို့သို့ပြန်လာ၏၊ ထိုမထေရ်ကား တော၌ သာနေလေ့ရှိ၏၊ ဓုတင် ကျင့်တတ်၏၊ အလိုနည်း၏၊ ရောင့်ရဲလွယ်၏၊ မကောင်းမှုမှ ရှက်တတ် ၏၊ အပ်,မအပ် အလို့လို့ရှိတတ်၏၊ ဝိနည်းသိက္ခာပုဒ်ကို အလိုရှိ၏၊ လိမ်မာ၏၊ စွမ်းရည်ရှိ၏၊ သီဟိုဠ်ကျွန်း၌ ကလမ္ဗုမည်သော ဇာတဿ ရအိုင်တွင် စီရင်သော ရေသိမ်၌ ပဉ္စင်းထက် သာလွန်သော ဂိုဏ်း သံဃာထံ ဝနရတနမည်သော ဆရာတော်သင်္ဃရာဇာကို ဥပဇ္ဈာယ်ပြု လျက် ရာဟုလဘဒ္ဒမည်သော ဝိဇယဗာဟုမင်း ဆရာတော်ကို ကမ္မဝါ ဆရာပြု၍ သီဟိုဠ်ကျွန်းက ပဉ္စင်းအသစ်ခံခဲ့သတည်း၊ ထိုမဟာထေရ် လည်း မုတ္တမမြို့တွင်နေလျက် ဂိုဏ်းသံဃာကို ပွားများစေ၍ သာသနာ ပြု၏၊ ဤမထေရ် နှစ်ပါးကိုစွဲ၍လည်း ရာမညတိုင်းသို့ သီဟိုဠ် သာသနာ သက်ဆင်းလာ၏။

[ဤကား ရာမညတိုင်း၌ခြောက်ကြိမ်မြောက် သာသနာတော်ဆက်တည်း။]

### ၇—ကြိမ်မြောက်သာသနာတော်ဆက်

ထို့နောင်သာသနာ ၂၀၀၂-နှစ်၊သက္ကရာဇ် ၁၂၀-နှစ်ရောက်သော အခါ ဟံသာဝတီပြည်ကြီးဝယ် ဓမ္မစေတီ-ဟု ယခုထက်တိုင်ကျော်စော သော "သိရီပရမမဟာဓမ္မရာဇာဓိရာဇာ" နာမံတံဆိပ်ရှိသော ရာမာ ဓိပတိ¹မင်းသည် ကုသိမမဏ္ဍလ, ဟံသာဝတီမဏ္ဍလ, မုတ္တမမဏ္ဍလ-ဟူသောမွန်တိုင်း ၃-ရပ်၌လူအပေါင်းအားရင်ဝယ်သားကဲ့သို့ သနားကြင်နာသဖြင့် စောင့်ရှောက်လုံခြုံစေလျက် တရားနှင့်အညီ မင်းပြု၏။

[ယခင်အောက်က ပြခဲ့သည့် မွန်တိုင်း ၃-ရပ်တွင် ပုသိမ်တိုက်ကို ကုသိမမဏ္ဍလ, ဥက္ကလာပဇနပုဒ်ကို ဟံသာဝတီမဏ္ဍလ, သထုံတိုက်ကို မုတ္တမမဏ္ဍလဆိုသတည်း။]

### ရာမာဓိပတိမင်းသာသနာ့အရေးဆွေးနွေးခြင်း

ထိုရာမာဓိပတိမင်းကား-ပိဋကသုံးပုံ, ဗေဒင် ၄-ပုံ အင်္ဂါပါဠိ, ဝိတက်ကျမ်း, ဗျာကရိုဏ်းကျမ်း, ဆန်းကျမ်း, အလင်္ကာကျမ်း,ဟူးရားကျမ်း, ဂဏန်းကျမ်း,ဆေးကျမ်းအားဖြင့် ဗဟုသုတများစွာရှိ၏၊အဒုတ်ဗိသုကာ,သစ်ဗိသုကာအတတ်စသောအားဖြင့်များစွာသော အတတ်တို့လည်းရှိ၏၊ အထူးထူးသောအရပ်ဘာသာတို့၌လည်း လေ့လာကျွမ်းကျင်၏၊သဒ္ဓါ,သီလစသောများစွာသော ကျေးဇူးဂုဏ်နှင့်လည်းပြည့်စုံ၏၊ကုမုဒ္ဒရာကြာဖြူ,သင်းခွေပန်း,သရဒအခါလရောင်နှင့်တူသော ဆင်ဖြူရှင်လည်းဖြစ်၏၊ "ကုမုဒကုန္ဒသရဒစန္ဒိကာသမာန သေတဂဇပတိဘူတော ရာမာဓိပတိနာမ သိရီပရမ မဟာဓမ္မရာဇာဓိရာဇာ" ဟူ၍ ကျော်စော၍ ဆိုသည်၊ ထိုရာမာဓိပတိမင်းသည် သာသနာတော် မြတ်၌ အလွန်တရာကြည်ညိုစွာရကား ဤသို့ကြံ၏။

"ဘုရားသာသနာတော်သည် ရှင်အဖြစ်, ပဉ္စင်းအဖြစ်နှင့် စပ်၏၊ ပဉ္စင်းအဖြစ်သည်လည်း သိမ်,ပရိသတ်,ပဉ္စင်းလောင်း, ဉတ်,ကမ္မဝါစာ၊ ဤအင်္ဂါငါးပြည့်စုံမှမြောက်၏၊ထိုငါးပါးတွင် သိမ်, ပရိသတ်ပြည့်စုံခဲ၏၊အဘယ်သို့မှပြည့်စုံရာသနည်း"-

ဟုကြံပြီးသော် ဝိနည်းပါဠိတော်, ဝိနည်းအဋ္ဌကထာ,ဝိနည်းဋီကာကြီး သုံးစောင်၊ ကင်္ခါဝိတရဏီအဋ္ဌကထာ, ၎င်းဋီကာ၊ဝိနယဝိနိစ္ဆယ

---

၁။ ရာမာဓိပတိ-ရာမညတိုင်းကိုအစိုးရသူ။

စာကိုယ်, ၎င်းဋီကာ၊ ဝိနယသင်္ဂဟစာကိုယ်, ၎င်းဋီကာ၊ သိမာလင်္ကာရ, သိမာသင်္ဂဟကျမ်းများကို သဒ္ဒါအနက်အားဖြင့် ဆင်ခြင်၍ပါဠိတော်နှင့်အဋ္ဌကထာ၊ အဋ္ဌကထာနှင့်ဋီကာ ကျမ်းနှင့်ကျမ်းချင်း အထက်နှင့်အောက် ရှေ့နှင့်နောက် နှီးနှောတိုက်ဆိုင်၍—

၁။ ဘုရားအလိုတော်အဓိပ္ပါယ်ကားအဘယ်သို့နည်း။

၂။ ကျမ်းပြုဆရာတို့ အလိုတော် အဓိပ္ပါယ်ကား အဘယ်သို့နည်း-

ဟူ၍ သိမ်အရာ၌ အဘန်တလဲလဲကောင်းစွာကြည့်ရှုဆင်ခြင်လတ်သော် ရာမညတိုင်း၌ ဗဒ္ဓသိမ်၊မြစ်,သမုဒ္ဒရာ,ဇာတဿရ, ဂါမခေတ်ဟူသော အဗဒ္ဓသိမ်များလည်းမြောက်နိုင်ခဲမည်၊ သိမ်မမြောက်လျှင် သိမ်နှင့်ပရိသတ်ပြည့်စုံခဲမည်ဟု မိမိဉာဏ်အားထင်မြင်လေ၍ ရာမညတိုင်းတွင် ကျမ်းဂန်တတ်ကျွမ်းသော တိပိဋကဓရ ဗျတ္တ ပဋိဗလဆရာတို့နှင့် နှီးနှောဆွေးနွေးလျှင် ရာမာဓိပတိမင်း၏ ဉာဏ်အထင်အမြင်အတိုင်း သိမ်နှင့်ပရိသတ်ပြည့်စုံခဲမည်ဟု ဆုံးဖြတ်ကြကုန်၏။

### မထေရ် ၂၂-ပါးကိုသီဟိုဠ်သို့လွှတ်ခြင်း

ထိုရောအခါ ရာမာဓိပတိမင်း[၁]သည် ဤသို့မသက်မသာရှိ၏၊ ဩော်အံ့ဘွယ်ရှိစွတကား၊ ဘုရားသာသနာနှစ်ငါးထောင်တိုင်အောင် တည်ထွန်းမည်ဟုကျမ်းဂန်ရှိပါလျက် ဘုရားဖြစ်တော်မူသည်မှ နှစ်ထောင့်ခြောက်ဆယ့်လေးနှစ်ကာလခန့်မျှ ယခုကပင် သာသနာအညစ် အကြေးဆူးငြောင့်ဘေးရန်ရှိ၍ ရဟန်း ပဗ္ဗဇ္ဇင်းအဖြစ်၌ ယုံမှားဘွယ်ဖြစ်ဘိ၏၊အဘယ်သို့လျှင် အနှစ်ငါးထောင်တိုင်အောင် သာသနာတည်ထွန်းခြင်းငှါ ဖြစ်ကောင်းပါအံ့နည်းဟုမသက်မသာကြီးစွာရှိပြီးမှ ဤသို့တဘန်ကြံပြန်၏။

''ယင်းသို့လောကစင် သာသနာအညစ်အကြေးဆူးငြောင့်ဘေးရန်ရှိသည်ကိုမြင်လျက်, ရဟန်း ပဗ္ဗဇ္ဇင်းအဖြစ်၌ ယုံမှားဘွယ်ရှိသည်ကိုလည်းသိလျက် သန့်ရှင်းစင်ကြယ်အောင်မပြုချေဘဲကြောင့်ကြမဲ့လျစ်လျူသာနေချေသော် မြတ်စွာဘုရား၌ကြည်ညိုမြတ်နိုးရိုသေကျိုး နွံစုံမက်ချစ်ခင်သည်မဖြစ်ရာခဲ့၊ ထို့ကြောင့်

---

၁။ ရာမာဓိပတိမင်း-ဓမ္မစေတီမင်း (အတူတူ)။

သာသနာကို သန့်ရှင်းစင်ကြယ်အောင်ပြုစုအံ့၊ အဘယ်အရပ်မှသာသနာကိုဆောင်၍ သန့်ရှင်းစင်ကြယ်အောင် ပြုစုပါရအံ့နည်း"-

ဟုကြံစည်သော် ဘုရားပရိနိဗ္ဗာန်စံယူတော်မူသည့်နောက် ၂၃၆-နှစ်ရောက်သောအခါ အရှင်မောဂ္ဂလိပုတ္တတိဿက အရှင်မဟာမဟိန္ဒကို စေ၍ သီဟိုဠ်ကျွန်း၌ သာသနာကို တည်စေ၏၊ ထိုရောအခါဒေဝါနံပိယတိဿမင်းသည် မဟာဝိဟာရကျောင်းကို ဆောက်လုပ်လှူဒါန်းသည်မှ သာသနာ ၂၁၀-နှစ်ကျော်အောင် သန့်ရှင်းစင်ကြယ်၍မဟာဝိဟာရဝါသီ တဂိုဏ်းတည်းသာ ဖြစ်၏၊ ထိုနောက် အဘယဂိရိဝါသီတဂိုဏ်း,ဇေတဝနဝါသီတဂိုဏ်းကွဲပြားပြန်သည်ကို သာသနာ ၁၇၀၀-နှစ်ရှိသောအခါ သိရိသင်္ဃဗောဓိပရက္ကမဗာဟုမဟာရာဇာ မင်းသည် ဥဒုမ္ဗရဂိရိဝါသီ မဟာကဿပ အမှူးရှိသော မဟာဝိဟာရဝါသီ ဂိုဏ်းသံဃာကို ချီးမြှင့်၍ ယခင်ဂိုဏ်းနှစ်ပါးကို သုတ်သင်လျက် မဟာဝိဟာရဝါသီဂိုဏ်းတပါးကိုသာထားသဖြင့် သာသနာကို သန့်ရှင်းစင်ကြယ်စေ၏၊ ထိုနောက်ဝိဇယဗာဟု,ပရက္ကမဗာဟုမင်း နှစ်ဆက်လည်း သာသနာကိုသန့်ရှင်းစင်ကြယ်စေ၏။

ထိုသို့ဖြစ်၍ သီဟိုဠ်ကျွန်း၌ ယခုအခိုက်သာသနာ သန့်ရှင်းစင်ကြယ်စွာ၏၊ ထို့ကြောင့်ရကား ဗျတ္တပဋိဗလ ရဟန်းတို့ကိုတောင်းပန်တိုက်တွန်း၍ သီဟိုဠ်ကျွန်းမှာ ရဟန်းပဉ္စင်းအသစ်ခံစေအံ့၊ ထိုရဟန်းတို့မှ ဆက်လက်ပွားများသဖြင့် ရာမညတိုင်း၌ သာသနာသန့်ရှင်းစင်ကြယ်စွာဖြစ်လတံ့-ဟုကြံပြီးသော် မောဂ္ဂလာန်မထေရ်စသော မထေရ် ၂၂-ပါးတို့ကို သီဟိုဠ်ကျွန်းသို့ကူးစိမ့်သောငှာတောင်းပန်၏၊ မထေရ်တို့သည် သာသနာရေးကို နှလုံးထား၍ ဝန်ခံကြ၏။

### သီဟိုဠ်ဆရာတော်များက သိက္ခာအသစ်တင်ပေးခြင်း

ရာမာဓိပတိမင်းလည်း စွယ်တော်ဓာတ်ကို ပူဇော်ရန်, ရဟန်းသံဃာတို့ကိုပူဇော်ရန်, ဘုဝနေကဗာဟု သီဟိုဠ်မင်းအား ဆက်သရန် ဒေယျဓမ္မပဏ္ဏာကာရ[၁]များကို စီရင်ပြီးလျှင် စိတြဒူတ,ရာမဒူတအမတ်

၁။ ဒေယျဓမ္မပဏ္ဏာကာရ—လှူဘွယ်ဝတ္ထုနှင့်လက်ဆောင်ပဏ္ဏာ။

နှစ်ယောက်တို့ကို သင်္ဘောနှစ်စင်းနှင့်ခန့်ထား၍ သက္ကရာဇ် ၈၃၇-ခု၊ တပို့တွဲလပြည့်ကျော် ၁၁-ရက် တနင်္ဂနွေနေ့ စိတြဒူတသင်္ဘောကိုလွှင့်လေ၏၊တပေါင်းလပြည့်ကျော် ၈-ရက်နေ့ပင်သီဟိုဠ်ကျွန်းကလမ္ဗုဆိပ်သို့ရောက်လေ၏၊ထိုသက္ကရာဇ် တပို့တွဲလပြည့်ကျော် ၁၂-ရက် တနင်္လာနေ့ ရာမဒူတသင်္ဘောကိုလွှင့်စေ၏၊ မုသုံလေမသင့်သောကြောင့် တန်ခူးလဆန်း ၉-ရက်နေ့မှ သီဟိုဠ်ကျွန်း ဝလ္လိဂါမသို့ရောက်လေ၏၊ထိုနောက် အမတ်နှစ်ယောက်လည်း သင်္ဘောနှစ်စင်းတွင်ပါသော လှူဘွယ်ဝတ္ထုပဏ္ဏာကာရ, လျှောက်စာဆက်စာများကို ဘုဝနေကဗာဟုမင်းနှင့် သံဃာတော်များအား လှူဒါန်းဆက်သလျှောက်ထားကြ၏။

ရှေ့ပေစာတွင် ဤရဟန်းများကို ကလျာဏီမြစ် ရေသိမ်မှာပဉ္စင်းအသစ်ခံပါစေဟုပါသည့်အတိုင်း ၎င်းမြစ်ရေသိမ်တွင် ပဉ္စင်းအသစ်ခံစေ၏၊ပဉ္စင်းအသစ်ခံလိုသည့်, သိက္ခာအသစ်တင်လိုသည့် ရဟန်းတို့ကို လူထွက်စေ၍ သာမဏေအဖြစ်၌တည်စေပြီးမှ ပဉ္စင်းသစ်ခံမြဲ,သိက္ခာသစ်တင်မြဲဟု သီဟိုဠ်ဆရာတို့ ဆိုတိုင်းတင်ရသတည်း။

### ဘုဝနေကဗာဟုမင်းက ဘွဲ့တံဆိပ်ချီးမြှင့်ခြင်း

သိက္ခာအသစ်တင်ပြီးလျှင် ဘုဝနေကဗာဟုသီဟိုဠ်မင်းက အထူးထူးအပြားပြား ရဟန်းအသုံးအဆောင် ပရိက္ခရာတို့ကိုလှူပြီးမှ ဤပစ္စည်း အလှူကား တသက်လျာမျှသာ၊ အကြောင်းရှိလျှင် ပျက်စီးလတံ့၊မပျက်စီးနိုင်သောနာမံပညတ်ကိုလှူဒါန်းပါရစေဟု တောင်းပန်၍ အမည်နာမံလှူ၏။

ရာမဒူတသင်္ဘော၌စီးသောဆရာ ၁၁-ပါးတို့အားအစဉ်အတိုင်း—

၁။ သိရီသင်္ဃဗောဓိသာမိ,
၂။ ကိတ္တိသိရီမေဃသာမိ,
၃။ ပရက္ကမဗာဟုသာမိ,
၄။ ဗုဒ္ဓဃောသသာမိ,
၅။ သီဟဠဒီပဝိသုဒ္ဓသာမိ,
၆။ ဂုဏရတနဓရသာမိ,
၇။ ဇိနာလင်္ကာရသာမိ,

၈။ ရတနမာလိသာမိ,
၉။ သဒ္ဓမ္မတေဇသာမိ,
၁၀။ ဓမ္မရာမသာမိ,
၁၁။ ဘုဝနေကဗာဟုသာမိ-
ဟူသောအမည်နာမံကို လှူသတည်း။

စိတြဒူတ သင်္ဘော၌ စီးသောဆရာ ၁၁-ပါးတို့အားလည်း အစဉ်အတိုင်း—

၁။ ဓမ္မကိတ္တိလောကဂရုသာမိ,
၂။ သိရီဝနရတနသာမိ,
၃။ မင်္ဂလတ္ထေရသာမိ,
၄။ ကလျာဏတိဿသာမိ,
၅။ စန္ဒနဂိရိသာမိ,
၆။ သိရီဒန္တဓာတုသာမိ,
၇။ ဝနဝါသီတိဿသာမိ,
၈။ ရတနာလင်္ကာရသာမိ,
၉။ မဟာဒေဝသာမိ,
၁၀။ ဥဒုမ္ဗရဂိရိသာမိ,
၁၁။ စူဠာဘယတိဿသာမိ-
ဟူသောအမည်နာမံကိုလှူသတည်း။

ခေါင်းတည်ဆရာ ၂၂-ပါးတို့အားသာအမည်နာမံလှူသည်၊နောက်ပါတပည့်ရဟန်း ၂၂-ပါးတို့အား အမည်နာမံမလှူ၊သိက္ခာအသစ်တင်ရာမှာ နောက်ပါရဟန်းများနှင့်တကွ ၄၄-ပါးလုံးပင် တင်သတည်း။

**အပြန်တွင်သင်္ဘောပျက်၍ ကုန်းကြောင်းပြန်ရခြင်း**

ထိုသို့သိက္ခာတင်ပြီးနောက် စေတီပုထိုးပူဇော်ခြင်း ကိစ္စများကို ပြီးစေပြီးမှ ပြန်လာကြ၏၊စိတြဒူတသင်္ဘောကား ရာမာဓိပတိ မင်းအား ဆက်လိုက်သော ပဏ္ဏာကာရစွယ်တော်တုများနှင့် သံဘက်လိုက်ပါမည်-ငံ့လင့်ပါဦးဟု ဘုဝနေကဗာဟုမင်းကတား၍ငံ့လင့်ရသောကြောင့် မုသုံ အချိန်မသင့်ဘဲလွှင့်ခဲ့ရ၍ ဟုတ်တွန်းလေပြင်း တိုက်ခတ်သဖြင့်

သမုဒ္ဒရာမှာနစ်လေ၏၊ ထို့ကြောင့် သီဟိုဠ်မင်းက ဘက်လိုက်သော သံသင်္ဘောမှာစီး၍ လိုက်ပြန်ကြသည်၊ ၃-ရက်ခရီးလွန်လျှင် ဟတ်တွန်း လေပြင်းတိုက်ခတ်ပြန်၍ သမုဒ္ဒရာပြင် ရေတိမ်ကျောက်တွင် ငြိသဖြင့် မထွက်နိုင်ရကား ဘောင်ဘွဲကူး၍ ခြေလျင်ကုန်းကြောင်း လာကြရလေသည်၊ သံဘက်လိုက်သော သီဟိုဠ်ကျွန်းအမတ်လည်း ပဏ္ဏာကာရ ပျက်စီးသည်နှင့် ပြန်သွားလေ၏။

ကုန်းကြောင်း လာရာ နာဂပဋ္ဋန် ဆိပ်တွင် နေတ္တိအဋ္ဌကထာ-စသော များစွာသော ကျမ်းပြုဆရာ အရှင် ဓမ္မပါလ နေရာ သိရိဓမ္မာသောကမင်းကြီး ကောင်းမှုတော်ကျောင်း ၈၄၀၀၀-အဝင်အပါ ဗဒရတိတ္ထဆိပ်တောဆိပ်ကျောင်းရာကို ဖူးမျှော်ကြရ၏၊ ကလိင်္ဂရာဇ်ပြည်က ဟေမမာလာ မင်းသမီး, ဒန္တကုမ္မာမင်းသားတို့ စွယ်တော်ကိုသီဟိုဠ် ကျွန်းသို့ ဆောင်ခဲ့သည့်ကာလ စွယ်တော် ထားရာတွင် စိနပဋ္ဋန် မင်းတည်သော ဂူကြီး၌ ဘုရားဆင်းတုကိုလည်း ရှိခိုးပူဇော်ကြရ၏၊ ထိုသို့ပြီး ခြင်စွာ လာ၍ သင်္ဘောနှစ်စင်းတွင် စီးသောဆရာတို့ ဟံသာဝတီသို့ရောက်လာကုန်၏၊ ထိုအခါသီဟိုဠ်ကူးရဟန်း ၄၄-ပါးအနက် ဆရာခြောက်ပါး, တပည့်ရဟန်း ၄-ပါးတို့ ခရီးအကြားကပင် သေလွန်ခဲ့လေသည်၊ (အဟော အနိစ္စာဝတ သင်္ခါရာ။)

### သီဟိုဠ်ပြန်ဆရာတော်များ သာသနာပြုကြခြင်း

ရာမာဓိပတိမင်းလည်း သီဟိုဠ်ကျွန်းက သိက္ခာအသစ် တင်ခဲ့သော မဟာဝိဟာရဝါသီ အဆက်အနွယ် သံဃာတို့ အရောက် ညီလျှင် ဟံသာဝတီပြည်ကြီးအနောက်နရသူရအမတ်စားသော ဂါမခေတ်တွင် ကျမ်းကြီး, ကျမ်းငယ်, ကျမ်းရင့်, ကျမ်းနု ကြည့်ရှုဆင်ခြင် စီရင်နှိုးဆော်၍ သိမ်နုတ်ခြင်း, သမုတ်ခြင်းကို ပြုစေ၏၊ သီဟိုဠ်ကျွန်း၌ ဘုရားရှင် ရေသပ္ပါယ်တော်မူဘူးသော ကလျာဏီမြစ်တွင် ရေသိမ်စီရင်၍ မဟာဝိဟာရဝါသီ အဆက်အနွယ် သံဃာတို့ ပဉ္စင်းအသစ်ခံလိုက်သော ရဟန်းတို့သမုတ်သည့်သိမ်ဖြစ်၍ "ကလျာဏီသိမ်" ဟူသော အမည်ကိုလည်း တွင်စေ၏။

ဤသို့လျှင် ရာမာဓိပတိ မင်းသည် သာသနာတော်မြတ် တည်ကြောင်းမကြံစည်နိုင်ကောင်းသော အကြံကောင်းကိုကြံမိ၍ သီဟိုဠ်မှာ

သိက္ခာထပ်သူရဟန်း၃၀-ကျော်ကို မဟာဝိဟာရဝါသီသံဃာအဆက်အနွယ်အခြေအမြစ်ပြု၍ သာသနာတော်ကို သန့်ရှင်းစင်ကြယ်စွာ သုတ်သင်ပြုစုတော်မူ၏၊သက္ကရာဇ်၈၃၈-ခုနှစ်ကစ၍၈၄၁-ခုနှစ်တိုင်အောင် ၂-နှစ်၃-နှစ်အတွင်းတွင်ပင် ဂိုဏ်းဆရာပေါင်း-၈၀၀၊ တပည့်ရဟန်းပေါင်း-၁၄၂၆၅၊နှစ်စုရဟန်းပေါင်း ၁၅၀၆၅-တိုင်အောင် မဟာဝိဟာရဝါသီ အဆက်အနွယ် သံဃာပွားများသတည်း။

[ဤကား ရာမညတိုင်း၌ ရာမာဓိပတိမင်း ပြုစုသော ခုနှစ်ကြိမ်မြောက် သာသနာတော်ဆက်တည်း။]

## မြန်မာတိုင်းပြည်တိုင်အောင်သာသနာဆက်စပ်မိခြင်း

ပုဂံ နေ်ရထာမင်းစော တိုက်သိမ်း၍ သထုံပြည်ကြီး ပျက်စီးတိမ်းယိမ်းသည့်နောက် မွန်တိုင်း ၃-ရပ်တွင် သုဝဏ္ဏဘုမ္မိတိုင်း သိရီရတနာပုရမည်သော မုတ္တမမြို့သည် သောက္ကတဲဆင်ဖြူရှင် ဝါရိရူမင်းတို့ကစ၍ ဘုန်းကြီးသောမင်းတို့နေရာဖြစ်ရကား စည်ပင်ထင်ရှားစွာ၏၊ ထိုမုတ္တမမြို့၌—

၁။ သထုံပြည်သာသနာပြု သောဏုတ္တရမထေရ်တို့အဆက်အနွယ် ကမ္ဗောဇဂိုဏ်းသံဃာ,

၂။ သီဟိုဠ်ရောက် သီဝလိမထေရ် အဆက်အနွယ် ဂိုဏ်းသံဃာ,

၃။ တာမလိန္ဒမထေရ်အဆက်အနွယ်ဂိုဏ်းသံဃာ,

၄။ အာနန္ဒာမထေရ် အဆက်အနွယ် ဂိုဏ်းသံဃာ,

၅။ သီဟိုဠ်သို့ကူး၍ သိက္ခာသစ်တင်ခဲ့သော မုတ္တမမြို့ မိဖုရားဆရာ ဗုဒ္ဓဝံသမထေရ်အဆက်အနွယ် ဂိုဏ်းသံဃာ,

၆။ သီဟိုဠ်သို့ဂုင်းကူး၍ သိက္ခာသစ်တင်ခဲ့သောမဟာနာမမထေရ် အဆက်အနွယ်ဂိုဏ်းသံဃာ,

ဤသို့ဂိုဏ်းသံဃာ ၆-ပါးကွဲပြား၏၊ ထို ၆-ဂိုဏ်း သားတို့သည် သံဃကံကို အတူတကွမပြုကြ၊ အသီးအခြားသာပြုကြသောကြောင့် အပေါင်းအဘော်မတူ နာနာသံဝါသက၊ အစုအရုံးအသီးအခြား နာနာနိကာယ ဖြစ်ကြလေသည်၊ရာမာဓိပတိမင်းသာသနာကိုသုတ်သင်ပြုစုသည်ကား ကလျာဏီသိမ်မှာသာ သိက္ခာသစ်တင်၍ ပဋ္ဌင်းသစ်ခံကုန်

သဖြင့် အပေါင်းအဘော်တူသောကြောင့် သံဃကံ မသီးမခြား သမာနသံဝါသက၊အစုံအရုံးမကွဲမပြား ဧကနိကာယ ဖြစ်ကြလေသည်။

မွန်တိုင်း ၃-ရပ်သည် သုနာပရန် တမ္ဗဒိပ်-ဟူသော မြန်မာတိုင်းနှင့် အနီးအစပ်ဖြစ်၍ငင်း, မြန်မာ့ဦးစွန်းမင်း အဆက်ဆက်လက်နက်နိုင်ငံဖြစ်၍ငင်း, မြန်မာပြည်က သွားလာ ရောက်ပေါက်ကြသောလဇ္ဇီပေသလ သိက္ခာကာမ ရဟန်းများလည်း လလျာဏီသိမ်၌ သိက္ခာသစ် ထပ်တင်ကြ၍ငင်း, ရာမာဓိပတိမင်း သုတ်သင်ပြုစုသော သီဟိုဠ်သာသနာသည် မြန်မာတိုင်းပြည်တိုင်အောင် ပုံ့နှံ့ဆက်လက်မိသည်ဟုမှတ်လေ၊ ရာမညတိုင်း၌အရှင်သောဏုတ္တရတို့သာသနာပြုသည်ကစ၍ သထုံပြည်တွင် မနူဟာမင်းလက်ထက်တိုင်အောင် ရဟန္တာအရိယာရှိကြောင်းကိုနိဒါန်းတွင်ဆိုသည်။

ထိုနောက်ရှင်ဥတ္တရာဇီဝဆရာရှင်အရိယဝံသ, ၎င်းဆရာ ရှင်မဟာကာလ, ၎င်းဆရာ-ရှင်ပြာဏဒဿီ၊ ထိုဆရာကား လောကီချာန်, အဘိညာဉ်ရသည်ဟူ၍ကလျာဏီကျောက်စာနှင့်နိဒါန်းတွင်ဆိုသည်၊ ယခုကားမွန်တိုင်း ၃-ရပ်မှာ ရာမာဓိပတိမင်းပြုစုသောသီဟိုဠ်မဟာဝိဟာရဝါသီ သံဃာအဆက်အနွယ်သာတည်း၊ ဤစကား သုံးရပ်တွင် အကြောင်းအကျိုး,အစအဆုံးအဆက်အနွယ်ကိုပညာဖြင့်ဆင်ခြင်၍ ယခင်လက်ဦးပြခဲ့သောနည်း ၃-ပါးဖြင့် ပုတီးလုံးကို သီသကဲ့သို့ အဆက်အလက် မပြတ်အောင်ယူလေ။

[သာသနာဆက်စကားတွင် ရဟန်းသံဃာဆိုသမျှသည် ယခင်ရှေးကပြခဲ့သော ဝိနည်း အဋ္ဌကထာနှင့်အညီ အလဇ္ဇီနှင့်မဆိုင်၊ လဇ္ဇီပေသလ သိက္ခာကာမသာ မှတ်လေ။]

### ရာမညတိုင်းကျမ်းပြုဆရာတော်များ

ယခင်ဆရာစဉ်ဆက်တွင်—

၁။ လောကဒီပကသာရကျမ်းကို သီဟိုဠ်ရောက် မုတ္တမ ရှင်မေဓင်္ကရ ပြုသည်။

၂။ မဓုသာရတ္ထဒီပနီကို ဟံသာဝတီ ရှင်မဟာနန္ဒ ပြုသည်။

၃။ ဆန်းဋီကာ ကဝိသာရကိုဟံသာဝတီ သံတွဲမင်းဆရာ ရှင်ဓမ္မဗုဒ္ဓ ပြုသည်။

၄။ ပဉ္စာနုသာရဒီပနီကိုဟံသာဝတီသေနံကျောင်းဆရာရှင်သဒ္ဓမ္မာလင်္ကာရ ပြုသည်။

ဤသို့အစရှိသော ကျမ်းပြုဆရာများဖြင့်လည်း ရာမညတိုင်း၌ ကြာမြင့်စွာ သာသနာတော်စည်ပင် ထွန်းလင်းသည်။

[သာသနာ ၂၃၅–နှစ်ရှိသောအခါရာမညတိုင်း၌အရှင်သောဏုတ္တရတို့ သာသနာပြုသည်ကစ၍ ယခုထက်တိုင် သာသနာတော်ကာလ မြင့်ရှည်စွာ စည်ပင်သန့်ရှင်း ထွန်းလင်းသော စကားအမြွက်တည်း။]

ရာမညတိုင်း၌သာသနာတော်သက်ဆင်းပုံအကြောင်းပြီး၏။

---

## ၁၆–ယောနကတိုင်း၌ သာသနာတော် သက်ဆင်းပုံအကြောင်း

### လက်ဦးစွာသာသနာတော်ဆက်

ယခုကား ယခင်စကားစဉ်အတိုင်း ယောနကတိုင်း သာသနာဝင် ဆရာစဉ်ဆက်ကိုပြပေအံ့၊ ဝေနေယျတို့ စီးပွားချမ်းသာကို အရှည်ဆောင်ရွက်တော်မူတတ်သော သဗ္ဗညုဘုရားသည် ယောနကတိုင်း၌ သာသနာတော် အရှည်တည်ထွန်းမည်ကိုမြင်တော်မူ၍ သံဃာတော်အများနှင့် ကိုယ်တိုင်တော်ဒေသစာရီ ကြွတော်မူလတ်သော် လပုံးမြို့သို့ ရောက်တော်မူ၏၊ ထိုအခါမုဆိုးတဦး ကြစုသီးလှူသည်ကို ဘုဉ်းပေးတော်မူပြီးလျှင် ကြစုစေ့ကိုပစ်လိုက်သော် မြေသို့မကျ ကောင်းကင်ဝယ် တည်နေသောကြောင့် ပြုံးတော်မူသည့်အကြောင်းကို ရှင်အာနန္ဒာ လျှောက်မေးလျှင် နောင်အခါ ဤအရပ်တွင် ငါ၏ဓာတ်တော်ကိုစေတီ တည်လတ္တံ့၊ သာသနာတော်လည်းထွန်းလင်းစည်ပင်လတ္တံ့ဟု ဗျာဒိတ်ထားတော်မူ၏။

[ကြစုသီး ဘုဉ်းပေးတော်မူရာဖြစ်၍ ကြစုံကိုဟောသောဟရိသဒ္ဒါ၊ ဘုဉ်းပေးခြင်းကိုဟောသောဘုဥ္စသဒ္ဒါဖြင့်ဟရိဘုဥ္စတိုင်းဟုတွင်သည်၊ရသေ့နှစ်ဦးတို့ ပင်လယ်ခရုဘေးကိုတည်ထား၍ သားနားလျှင် သားနားခြင်း မြေမှပေါ်ထွက်သောမြို့ဖြစ်၍ ရှမ်းယွန်းဘာသာဖြင့် ''လပုံးမြို့'' ဟုခေါ်ဝေါ်သည်။]

ထိုအခါ မဲပိန်းချောင်းနားတွင်နေသော လဝကြီးသည် ခုနစ်နှစ်အရွယ်သားသူငယ်ကို ဘုရားရှင်ထံအပ်၍ သာမဏေပြုစေလျှင် ကမ္မဋ္ဌာန်းဘာဝနာစီးဖြန်းသဖြင့်မရှည်မကြာ ရဟန္တာဖြစ်လေ၏၊ခုနစ်နှစ်အရွယ်သာမဏေငယ်ရဟန္တာဖြစ်သည်ကိုအကြောင်းပြု၍ရှမ်းယွန်းဘာသာဖြင့် ''စစ်မယ်အရပ်''ဟုတွင်သည်ကိုကာလရှည်လျားသဖြင့်''ဇင်းမယ်''ဟု အက္ခရာအသတ်လွဲ၍ခေါ်ဝေါ်လေသည်၊ ထိုရဟန္တာ သာမဏေငယ်ကစ၍ ထိုအရပ်သို့သာသနာတော်မြတ်သက်ဆင်းစ ဖြစ်၏။

[ဤကား ရဟန္တာသာမဏေငယ်ကိုစွဲ၍ ယောနကတိုင်း၌ လက်ဦးစွာသာသနာတော်ဆက်တည်း။]

## ၂-ကြိမ်မြောက် သာသနာတော်ဆက်

သာသနာ ၂၃၅-ခု နှစ်တွင် ကိုးတိုင်း ကိုးဌာနသို့ သာသနာပြုစေသည့်ကာလ မဟာရက္ခိတမထေရ်ကို ယောနကတိုင်းသို့ သာသနာပြုစေကြောင်းကို ပါရာဇိကဏ် အဋ္ဌကထာလာသည်နှင့်အညီ မဟာရက္ခိတမထေရ်နှင့်ရဟန္တာသံဃာတော်ငါးပါး ယောနကတိုင်း၌ သာသနာပြုစု၏၊ အဋ္ဌကထာတွင် ''မဟာရက္ခိတတ္ထေရံ ယောနကရဋ္ဌံ'' မဆိုမူ၍ ယောနကလောကံ-ဆိုလေသည်ကား ဆိုခြင်းအကြောင်း အထူးရှိဘွယ်ထင်၏၊ အကြောင်းအထူးကား—

၁။ သီပေါ၊ညောင်ရွှေ၊မိုးနဲအစရှိသောပြည်ကြီးတို့၏တည်ရာဖြစ်သော ကမ္ဗောဇတိုင်း၊

၂။ ဗန်းမော်၊ ခွေးလုံ၊ စန္ဒာအစရှိသော ပြည်ကြီးတို့၏တည်ရာဖြစ်သော စိန္နတိုင်း၊

၃။ ကျိုင်းတုံ၊ ကျိုင်းချိုင် အစရှိသော ပြည်ကြီးတို့၏ တည်ရာဖြစ်သော ခေမာဝရတိုင်း၊

၄။ ဇင်းမယ်၊ ကျိုင်းသေဉ် အစရှိသော ပြည်ကြီးတို့၏ တည်ရာဖြစ်သော ဟရိဘုဉ္ဇတိုင်း၊

၅။ ကျိုင်းရုံး၊ မိုင်းဆည် အစရှိသော ပြည်ကြီးတို့၏ တည်ရာဖြစ်သော မဟာနဂရတိုင်း၊

ဤသို့ပညာရှိအဆက်ဆက် လက်စွဲမှတ်သားကြသော အစဉ်စာပေရှိသည့်အတိုင်း သံလွင်မြစ်အနောက်ဘက်စောလိုရှမ်း ကိုးပြည်ထောင် အရှေ့ဘက် ယွန်းကိုးပြည်ထောင် များသည် ယောနကတိုင်း ကြီး၏ အတွင်း တိုင်းစိတ်, ခရိုင်စိတ်မျှသာဖြစ်၍ ယောနကတိုင်း အဝင်အပါဖြစ်ရကား တိုင်းစိတ်,ခရိုင်စိတ်အားလုံးပါစေလိုသောကြောင့်''ယောနကလောကံ''ဟု လောကသဒ္ဒါနှင့်ဆိုလေသည်။

[ဤအရာ၌ လောကသဒ္ဒါကား အရပ်အများကိုနှံ့၍ဖြစ်သောဩကာသလောကဟော၊ရဋ္ဌသဒ္ဒါကား ဆိုင်ရာအစိတ်တွင်သာဖြစ်သောတိုင်းခရိုင်ဇနပုဒ်ဟော၊လောကကားသာမည,ရဋ္ဌကားဝိသေသမှတ်လေ၊ထို့ကြောင့် ယခင်တိုင်းခရိုင်,ဇနပုဒ်အစိတ်နှင့်တကွသော ယောနကတိုင်းကြီး၌ အရှင်မဟာရက္ခိတမထေရ် သာသနာပြုစုသည်ကိုဆိုသည်၊အဋ္ဌကထာတွင်''မဏ္ဍလံဒေသဘာဂံဒိပံ''ဟု အထူးဆိုရာများ၌လည်း ဤနည်းနှင်နှင် အဓိပ္ပါယ်အထူးယူလေ။]

မဟာရက္ခိတမထေရ်လည်းသံဃာတော်ငါးပါးနှင့်တကွ ပါဋလိပုတ်ပြည်က ကောင်းကင်ခရီးဖြင့် ယောနကတိုင်းသို့လာ၍ရောက်လျှင် ကာလကာရာမသုတ္တန်ကိုဟောသဖြင့် တိုင်းသူတိုင်းသားတို့ကို သာသနာ၌ကြည်ညိုစေ၍ တသိန်း,ခုနစ်သောင်းသော တိုင်းသူတိုင်းသား သတ္တဝါများကို မဂ်လေးတန်, ဖိုလ်လေးတန် တန်ဆာမွန်ဖြင့် ဆင်ယင်လေ၏၊ တသောင်းသော အမျိုးသားတို့သည် ရဟန်းပြုကြ၏၊အရာတိုင်းမှာပင်ကျမ်းရင်းရှိတိုင်းသာရေးသည်၊ဆန်းပြား၍မရေး-ဟု မှတ်ပါ။

ယောနရဋ္ဌံ တဒါ ဂန္တွာ၊သော မဟာရက္ခိတော ဣသိ။
ကာလကာရာမသုတ္တေန၊ တေ ပသာဒေသိ ယောနကေ။ ။

**အနက်ကား။** တဒါ၊ထိုရောအခါ၌။မဟာရက္ခိတော၊မဟာရက္ခိတမည်တော်မူသော။ သောဣသိ၊ ထိုရဟန္တာအရှင်မြတ်သည်။ ယောနရဋ္ဌံ၊ရှမ်းယွန်းတို့တိုင်းသို့။ဂန္တွာ၊ကြွတော်မူ၍။ ကာလကာရာမသုတ္တေန၊ကာလကာရာမသုတ္တန်ဖြင့်။တေယောနကေ၊ထိုရှမ်းယွန်းတို့ကို။ ပသာဒေသိ၊သာသနာတော်၌ ကြည်ညိုစေပြီ။

ဤသို့တိုင်းစိတ်, ခရိုင်စိတ်, ဇနပုဒ်အစိတ်နှင့်တကွသော ယောနကတိုင်းကြီး၌ ရဟန္တာကြီးငါးပါးသာသနာပြုစု၍ တသိန်း,ခုနစ်သောင်း

သောလူတို့ကို မင်္ဂ,ဖိုလ်တန်ဆာဖြင့် ဆင်ယင်စေ၏၊ တသောင်းသော လူတို့ကိုလည်း ရဟန်းပြုစေ၏၊ ထိုရဟန်းတို့က ဆက်လက်ပွားများသော ဆရာဆက်,တပည့်ဆက်ကား သိန်းသန်းမက များပြားလှသည်ဟုမှတ်လေ။

[ဤကား ယောနကတိုင်း၌ သာသနာပြု ရဟန္တာတို့ပြုစုသောနှစ်ကြိမ်မြောက် သာသနာတော်ဆက်တည်း။]

## ၃-ကြိမ်မြောက် သာသနာတော်ဆက်

လက္ခန်းမြို့တွင် ရှေးကအစဉ်ရှိသော မြဆင်းတုအကြောင်းကို ရာဇဝင်၌ ဤသို့ဆိုသည်၊ သာသနာနှစ် ၅၀၀-ရှိသောအခါ မြဆင်းတုကို ဝိသကြုံနတ်သားထုလုပ်၍ အရှင်မဟာနာဂသိန်အားပေးအပ်၏၊ အရှင်မဟာနာဂသိန်လည်း ဤမြဆင်းတုတွင် ဓာတ်တော်အစစ် ကိန်းဝပ်လာပါစေ-ဟု ဓိဋ္ဌာန်ပြုသည်၊ ဓိဋ္ဌာန်ချက်အတိုင်း ဓာတ်တော်စစ်ခုနစ်ဆူ ကိန်းဝပ်လာ၍ တန်ခိုးပြာဋိဟာထင်ရှားပြသည်-ဟူ၍ဆိုသည်။

၁။ ရာဇဝင်စကားတွင် သာသနာနှစ် ၅ါးရာဆိုသည်နှင့်—

"မမ ပရိနိဗ္ဗာနတော ပဉ္စဝဿသတေ အတိက္ကန္တေ ဧတေ ဥပ္ပဇ္ဇိဿန္တိ"

ဟု-မိလိန္ဒပဉှာတွင် လာသည့်စကားညီညွတ်သည်၊ မမပရိနိဗ္ဗာနတော၊ ငါဘုရားပရိနိဗ္ဗာန်လားတော်မူသည်မှ။ ပဉ္စဝဿသတေ၊ နှစ်၅ါးရာသည်။အတိက္ကန္တေ၊ ကျော်လွန်သည်ရှိသော်။ ဧတေ၊ ထိုနာဂသိန်နှင့် မိလိန္ဒမင်းတို့သည်။ ဥပ္ပဇ္ဇိဿန္တိ၊ ဖြစ်ရစ်ကုန်လတ့ံ။ဤသို့ဗျာဒိတ်ထားတော်မူသောစကားနှင့်ညီညွတ်သောကြောင့်ရင်း,

၂။ နာဂသိန်နှင့် မိလိန္ဒမင်း အဖြေအတင်စကား ပြောဟောပြီးသည့်အဆုံး၌ ရှင်သာရိပုတ္တရာကိုထား၍ တပါးသောရဟန်းသည် အမေးပြဿနာ ဖြေတင်ရာ၌ အရှင်နှင့် မတူနိုင်-ဟု ချီးမွမ်းကန်တော့ပြီးမှသရဏဂုံတည်သောဥပါသကာအဖြစ်ကိုကြား၍ မိလိန္ဒဝိဟာရမည်သော ကျောင်းကိုမိလိန္ဒမင်းဆောက်လုပ်ပြီးလျှင် အရှင်နာဂသိန်ကိုတင်လှူသည်၊ကုဋေတသိန်းသော ရဟန်းသံဃာနှင့်တကွ ပစ္စည်းလေးပါးဖြင့် လုပ်ကျွေးသည်၊

နောက်ပြီးတဘန် သားကြီးအား ပြည်ကိုဆောင်နှင်း၍ ရဟန်းပြုလျှင် ရဟန္တာဖြစ်လေသည်-ဟု မိလိန္ဒပဥှာတွင် လာသည်နှင့် လက္ခန်းမြို့တွင်ရှိသော မြဆင်းတုကို ဝိသကြုံနတ်သားထုလုပ်၍ အရှင်မဟာနာဂသိန်အား ပေးအပ်သည်-ဟူ၍ ထိုအရပ်ဝယ် အရှင်နာဂသိန်ရှိနေသော စကားကျဖြင့် ရာဇဝင်တွင်ဆိုသော အရာညီညွတ်သောကြောင့်ရင်း,

၃။ ယောနက-ဟူသောမဂဓ ပုဒ်၏ အနက်အရကို ရှမ်းယွန်း-ဟူ၍ ဆရာစဉ်ဆက် ယူမှတ်ကြသည်နှင့် "ယောနကာနံသာဂလံ နာမနဂရံ-ဟု မိလိန္ဒပဉှာတွင် ရှမ်းယွန်းတို့၏ မြို့ပြည်ဖြစ်ကြောင်းကို ဆိုသောအရာညီညွတ်သောကြောင့်ရင်း,

၄။ ရာဇဂ်လရွာ ဝတ္တနိယကျောင်းက ပါဋလိပုတ်ပြည် အသောကာရုံကျောင်း ယူဇနာတရာ ကွာသည်-ဟု မိလိန္ဒပဥှာတွင်ဆိုသောစကား၊ သီဟိုဠ်ကျွန်းကူးသင်္ဘောဆိပ်က ယောနကတိုင်း ယူဇနာတရာကွာသည်"ဟုသမ္မောဟဝိနောဒနီ အဋ္ဌကထာတွင် ဆိုသော စကားများကို ထောက်လျှင် ယောနကတိုင်း နေရပ်နေရာအဆီအလျော် သင့်သောကြောင့်ရင်း,

၅။ မဇ္ဈိမတိုက် သောဋသနဂိုရ်တွင် ယောနကတိုင်း-ဟူ၍ မပါ၊ ယခုစွဲမှတ် ခေါ်ဝေါ်ကြသော ရှမ်းယွန်းတို့တိုင်းပြည်မှ တပါး အခြားယောနကတိုင်း-ဟူ၍ ပြရန်မရှိသောကြောင့်ရင်း,

ဤသို့သောအကြောင်းများကိုထောက်၍ အရှင်နာဂသိန်,မိလိန္ဒမင်းတို့နေရပ်နေရာဖြစ်သည်ဟုယူမှတ်သင့်သည့်အတိုင်းမှန်လျှင် သာသနာနှစ် ၅၀၀-ကျော်စကပင်အရှင်နာဂသိန်ကိုစွဲ၍လည်း ယောနကတိုင်း၌ သာသနာတော်စည်ပင် ထွန်းလင်းသည်၊ယောနကတိုင်းသို့ မိလိန္ဒမင်းနှင့် ပြောဟောမည်ဟု အရှင်နာဂသိန်ကြွလာသည့်ကာလ ရဟန္တာကုဋေတရာခြီရံလျက်ပါသည်၊ နောက်လည်း မိလိန္ဒဝိဟာရကျောင်း၌ နေ၍ ယောနက တိုင်းကြီးအတွင်း ရဟန်းကုဋေ တသိန်းနှင့် သာသနာကိုပြုစုသည်။

[ဤကား ယောနကတိုင်း၌ အရှင်နာဂသိန်ကိုစွဲ၍ ၃-ကြိမ်မြောက် သာသနာတော်ဆက်တည်း။]

## ၄–ကြိမ်မြောက် သာသနာတော်ဆက်

သက္ကရာဇ် ၆၅၁-ခု၊ လပုံးမြို့က ရွှေ့ပြောင်း၍ ကျိုင်းရဲမြို့ကို တည်ထောင်သော ဗညားစောမင်းရဲလက်ထက် မဇ္ဈိမဒေသက အရှင်ကဿပနှင့်မထေရ်ငါးပါးတို့ ကြွရောက်လာကြသည်၊ ဗညားစောမင်းရဲသည်လည်း ကျောင်းဆောက်၍ တင်လှူသည်၊ သီဟိုဠ်ကျွန်းက ဓာတ်တော်ကိုဆောင်ယူ၍ မထေရ်တပါးလည်းရောက်လာသည်၊ ဓာတ်တော်ကထွက်သောအရောင်အဝါ တန်ခိုးပြာဋိဟာကိုမြင်လျှင် ကြည်ညိုစွာဖြစ်၍ လပုံးစေတီတွင် ဌာပနာသည်၊ ထိုသို့ကြွရောက်လာသော မထေရ်များကိုစွဲ၍လည်း ယောနကတိုင်း၌ သာသနာတော်မြတ် သက်ဆင်းသည်။

[ဤကား ယောနကတိုင်း၌ ၄–ကြိမ်မြောက်သာသနာတော်ဆက်တည်း။]

## ၅–ကြိမ်မြောက်သာသနာတော်ဆက်

သက္ကရာဇ် ၇၉၂-ခု၊ တရုပ်ဥတည်ပွားက ထိပါးလာ၍ ရှမ်းပြည်၊ ယွန်းပြည်မငြိမ်မဝပ်ရှိသည်တွင် ဇင်းမယ်က မဟာဓမ္မဂမ္ဘီရ၊ မဟာမေဓင်္ကရပုဂ္ဂိုလ်နှစ်ပါးသည် သံဃာအများနှင့် သီဟိုဠ်ကျွန်းသို့ ကူးသွားသည်၊ ထိုအခါ သီဟိုဠ်ကျွန်းတွင်လည်း ဒုဗ္ဘိက္ခ န္တရကပ်ရောက်ဆဲကြိမ်၍ ယိုးဒယားပြည် သောက္ကတဲမြို့သို့ ပြန်ခဲ့ကြသည့်နောက် လကွန်းမြို့သို့ ရောက်၍ သာသနာတော်ကိုပြုစုသည်၊ ရဟန်းတို့ကိုဆေးမေး၍ သိက္ခာအသစ်တင်သည်၊ ရှမ်းပြည်၊ ယွန်းပြည် အရပ်ရပ်စေ့နှံ့အောင် သာသနာကိုသုတ်သင်ပြုစုသည်။

[ဤကား ယောနကတိုင်း၌ သီဟိုဠ်ကူးဆရာနှစ်ပါးကိုစွဲ၍ ငါးကြိမ်မြောက်သာသနာတော်ဆက်တည်း။]

## ၆–ကြိမ်မြောက် သာသနာတော်ဆက်

သက္ကရာဇ် ၈၂၅-ခုနှစ်တွင် "သိရိသဒ္ဓမ္မ လောကပတိ စက္ကဝတီရာဇာ" နာမံခံသော ဗညားကြမ်းလက်ထက် လပုံးစေတီကိုမျို၍တည်ပြီးလျှင် စေတီတော်ဝန်းကျင် ကျောင်းလေးဆောင် ဆောက်လုပ်၍ မဟာမေဓင်္ကရ၊ သာရိပုတ္တရာ မထေရ်နှစ်ပါးကိုတင်လှူသည်၊ ထိုအခါ

ထိုဆရာနှစ်ပါးလည်း သာသနာတော်ကို သုသင်ပြုစု၏-ဟု ရာဇဝင်ရှိသည်။

[ဤကား ယောနကတိုင်း၌နောက်ကာလမထေရ်နှစ်ပါးကိုစွဲ၍ခြောက်ကြိမ်မြောက်သာသနာတော်ဆက်တည်း။]

### ၇—ကြိမ်မြောက် သာသနာတော်ဆက်

သက္ကရာဇ် ၉၄၃-ခုနှစ်တွင်ဟံသာဝတီဆင်ဖြူများရှင်မင်းတရားကြီးသားတော် နော်ရထာမင်းစောကို ၅၇-ခရိုင်သောတိုင်းစိတ်ဇနပုဒ်ဖြင့်သမိုက်အပ်သောဇင်းမယ်ပြည်ကြီးကိုပေးတော်မူသည်၊ သေည်လုံ,သံလံဘယား,ဒေါဗညား မှူးကြီးမတ်ရာ အလုံးအရင်းနှင့်တကွ ဘုရင်ခံမင်းပြု၏၊ဆရာတော်ရှင်သဒ္ဓမ္မ စက္ကသာမိလည်း သာသနာပြုလိုက်နေရ၏၊ မင်္ဂလဒီပနီစသော ကျမ်းဂန်များကို ပြုစုစီရင်၍ သင်ကြား ပို့သဆုံးမဩဝါဒပေးလျက် သာသနာတော်ကို သုတ်သင်ပြုစုပေသတည်း။

[ဤကား ယောနကတိုင်း၌ ဇင်းမယ်ဘုရင် နော်ရထာမင်းစော ဆရာကိုစွဲ၍ ခုနစ်ကြိမ်မြောက် သာသနာတော်ဆက်တည်း။]

ဆင်ဖြူများရှင်လက်ထက် ဇင်းမယ်ကိုအောင်မြင်သည့်ကာလ သာသနာတည်ဦးမြို့ဖြစ်၍ လက်ရသုံ့ပန်းမယူရ-ဟု ရာဇဝင်၌ဆိုသည်။

### ယောနကတိုင်းအဘိညာဉ်ရပုဂ္ဂိုလ်များ

ယခင်ဆရာစဉ်ဆက်တွင် လက္ခန်းမြို့၌ အရညဝါသီပုဂ္ဂိုလ်တဦးသည် ထိုအရပ်မှာ လူတို့သေတိုင်းသေတိုင်းသိ၍ ပြောဆိုဘန်များသဖြင့် အဘိညာဉ်ရသသူ-ဟူ၍ ထင်ရှားသည်၊ ၎င်းမြို့ဝယ် မဟာမင်္ဂလရေမထေရ်လည်း ဟံသာဝတီဆင်ဖြူများရှင် မင်းတရားကြီး ဇင်းမယ်သို့ချီလာသောအခါ ငါ့ကို မင်းတရားကြီးက ပင့်လာလိမ့်မည်၊ မင်းဆွေ-ဟူသောသူကို စေလိုက်လိမ့်မည်-ဟု မပင့်မီကပင်ဆိုနှင့်သည်၊ ဆိုတိုင်းမှန်သောကြောင့် အဘိညာဉ်ရသည်-ဟု ဆိုကြသည်။

### ယောနကတိုင်းကျမ်းပြုဆရာတော်များ

ယခင်ဆရာစဉ်ဆက်တွင်ပင်—

၁။ သဉ္ဇာပကာသကစာကိုယ်ကိုဇင်းမယ်ရှင်ဉာဏဝိလာသပြုသည်။

၂။ သဉ္ဇာပကာသက ဋီကာကို သီဟိုဠ်ရောက် ကျောင်းတိုက်နေသိရီမင်္ဂလဆရာ ပြုသည်။

၃။ ဝိသုဒ္ဓိမဂ္ဂဒီပနီကို ဇင်းမယ်သံညွတ်တောကျောင်း နေ ရှင်ဥတ္တမရာဇပြုသည်။
၄။ မင်္ဂလဒီပနီကို သိရီမင်္ဂလဆရာ ပြုသည်။
၅။ ဥပ္ပါတသန္တိကို ဇင်းမယ်ဆရာတို့ ပြုသည်၊ ၎င်းစာကိုရွတ်သရဇ္ဈာယ်၍ တရုပ်စစ်အရံပျက်ဘူးသည်-ဟု စကားစဉ်ရှိသည်။

ဤသို့အစရှိသော ဗျာန်အဘိညာဥ်ရဆရာ, ကျမ်းပြုဆရာများဖြင့်လည်း ယောနကတိုင်း၌ သာသနာတော်မြတ် အရှည်စည်ပင် ထွန်းလင်းသည့် အကြောင်းအကျိုး, အစ-အဆုံးကိုထောက်၍ ယခင်လက်ဦးနည်းသုံးပါးဖြင့် ပုတီးလုံးကို သီသကဲ့သို့ ဆရာစဉ်ဆက် မပျက်အောင် ဆင်ခြင်ယူမှတ်လေ။

[ယောနကတိုင်း၌ ဘုရားသခင်လက်ထက်တော် လပုံးမြို့ ရဟန္တာအရှင်သာမဏေနှင့် သာသနာ ၂၃၅–နှစ်ရှိသောအခါ သာသနာပြု အရှင်မဟာရက္ခိတတို့ကစ၍ ယခုထက်တိုင် သာသနာတော်မြတ်ကာလမြင့်ရှည် စည်ပင်သန့်ရှင်းထွန်းလင်းသော စကားအမြွက်တည်း။]

ယောနကတိုင်း၌ သာသနာတော်သက်ဆင်းပုံအကြောင်းပြီး၏။

---

## ၁၇–မြန်မာနိုင်ငံတော်၌သာသနာတော် သက်ဆင်းပုံအကြောင်း

### လက်ဦးစွာသာသနာတော်ဆက်

ယခုကား အာဒိစ္စဝံသ မြန်မာ့ဦးစွန်းမင်းအဆက်ဆက် လက်နက်နိုင်ငံဖြစ်သော များစွာသော တိုင်းစိတ်, ခရိုင်ဇနပုဒ်တို့ဖြင့် မရမ္မမဏ္ဍလ-ဟု သမုတ်အပ်သော သုနာပရန် တမ္ဗဒိပ်စသော မြန်မာတိုင်းနိုင်ငံ၌ သာသနာဝင်ဆရာစဉ်ဆက်ကိုပြဆိုပေအံ့။

ငါတို့မြန်မာတိုင်းနိုင်ငံ၌ သုပ္ပါဒကဆိပ် ဝါဏိဇ္ဇဂါမ[၁]ရွာသားစူဠပုဏ်, မဟာပုဏ်ညီနောင်နှစ်ပါးကိုစွဲ၍ ဘုရားသခင်ထင်ရှား ရှိတော်မူစဉ် ဝါတော်နှစ်ဆယ်ကျော်ကပင် သာသနာတော် မြတ်သက်ဆင်းစမူ၏၊ အမြဲအစွဲအပျံ့အနှံ့ကား မတည်မထွန်းလေ၊ထိုသို့အမြဲအစွဲအပျံ့

---

၁။ ဝါဏိဇ္ဇဂါမ-ကုန်သည်ရွာ။

အနှံ့မတည်မထွန်းသောကြောင့်နောက်ပြီးတဘန်သာသနာပြုစေလွှတ်ပြန်ရသတည်း၊ စကားအကျယ်ကို ကိုး႘ာနသို့ သာသနာပြု စေလွှတ်သော စကားအမြွက်ကဆိုခဲ့ပြီ။

လက်လေးသစ်ခန့်မျှပင် အဘိုးတသိန်းထိုက်သော စန္ဒကူးနီတန်ဆောင်းကျောင်းတော်ကိုအလှူခံ၍ခုနစ်ရက်ပတ်လုံးသီတင်းသုံးတော်မူသောအခိုက် စည်းဝေးလာသော လူနတ်ဗြဟ္မာတို့အား တရားအမြွက်တိုက်ကျွေးတော်မူသည်၊ ခုနစ်ရက်တွင် တရက်တရက်၌ ၈၄၀၀၀-စီသော သတ္တဝါတို့ အကျွတ်တတန် သောတာပန်စသော အရိယာဖြစ်ကြ၏၊ ပြာသာဒ်ညင်သာ ယာဉ်ငါးရာဖြင့် ကြွလာတော်မူသော ခရီးအကြားတွင် သစ္စဗန္ဓတောင်၌ နေသော သစ္စဗန်ရသေ့ကိုလည်းချွေချွတ်တော်မူ၍ ဆဠာဘိည ရဟန္တာအဖြစ်သို့ ရောက်စေတော်မူ၏၊ ဝါဏိဇ္ဇဂါမရွာ ဣသိဒိန္န သူဌေးသားစသော ထင်ရှားသသူတို့ကိုလည်း တရားအမြိုက်ရည်တိုက်ကျွေးတော်မူ၏၊ ဤသို့လျှင်သစ္စဗန္ဓ, ဣသိဒိန္န, မဟာပုဏ္ဏအစရှိသော ၇-ရက်အတွင်း အကျွတ်ရလေသော အရိယာအပေါင်းကိုစွဲ၍ ငါတို့မရမ္မမဏ္ဍလအတွင်း သာသနာတော်မြတ်သက်ဆင်းစ မူသည်။

[ဤကားမြန်မာတိုင်းနိုင်ငံ၌ ပုဏ္ဏ,သစ္စဗန်သူမွန်တို့ကအရင်းစ၍ သက်ဆင်းသော လက်ဦးစွာသာသနာတော်ဆက်တည်း။]

## ၂-ကြိမ်မြောက်သာသနာတော်ဆက်

ဘုရား ပရိနိဗ္ဗာန် စံတော်မူသည့်နောက် ၂၃၅-နှစ်ရောက်သော အခါ တတိယသင်္ဂါယနာ တင်ပြီးသည့် အဆုံးတွင် အရှင်မောဂ္ဂလိပုတ္တတိဿက တပည့်ရင်း ယောနက ဓမ္မရက္ခိတမထေရ်ကို နောက်ပါသံဃာတော်လေးပါးနှင့်တကွ ပဉ္စဝဂ်သံဃာမြောက်၍ ဥပသမ္ပဒကံဆောင်လောက်အောင် အပရန္တတိုင်း¹သို့ သာသနာပြုစေတော်မူ၏၊ အပရန္တတိုင်းဟူသည်ကား တိုင်းစိတ် ခရိုင်ဇနပုဒ်နှင့်တကွသော ငါတို့သုနာပရန္တမြန်မာတိုင်းပင်တည်း။

[ထိုအကြောင်းကို ကိုး႘ာနသို့သာသနာပြုစေသော စကားအမြွက်၌ အကျယ်ပြခဲ့ပြီ။]

---

၁။ အပရန္တတိုင်း—သုနာပရန္တတိုင်း(အတူတူ)ငါတို့မြန်မာတိုင်းပင်။

## အင်္ဂုတ္တရနိကာယ်ဦးပမသုတ်ဖြင့်ကြည်ညိုစေခြင်း

အရှင်ယောနက ဓမ္မရက္ခိတမထေရ်တို့လည်း အပရန္တတိုင်းသို့ကြွ၍ အဂ္ဂိက္ခန္ဓောပမသုတ္တန်ဒေသနာဖြင့် ထိုတိုင်းသူတိုင်းသားတို့ကို သာသနာတော်၌ ကြည်ညိုစေတော်မူ၏၊ ခုနစ်သောင်းမျှ လောက်သော သူတို့ကို အကျွတ်တရား အမြိုက်တိုက်ကျွေးတော်မူ၏၊ ထိုတိုင်းသူတိုင်းသားတို့လည်း များစွာရဟန်းပြုကြကုန်၏၊ မင်းမျိုးကပင် တထောင်မျှလောက် ရဟန်းပြုသတည်း၊ ခြောက်ထောင်ကျော်လောက်သော မိန်းမတို့လည်း ရဟန်းမ ပြုကြ၏။

''သမဓိကာနိစ ဆ ဣတ္ထိသဟဿာနိ'' ဟူ၍ မိန်းမခြောက်ထောင်ကျော်ရဟန်းပြုသည်ဆိုရကား အဂ္ဂိက္ခန္ဓောပမသုတ်ကိုဟော၍ သာသနာပြုသည်တွင် ပြုခြင်းပင်ရဟန်းပြုသူတို့ကို ရေတွက်သည်မဟုတ်၊ သာသနာပြုသည်ကစ၍ နောက်ကာလမြင့်အောင် ရဟန်းပြုသူတို့ကို ရေတွက်သည်ဟု သိရမည်၊ အဘယ့်ကြောင့်နည်းဟူမူကား-မိန်းမတို့ကို ရဟန်းမိန်းမရှိမှသာရဟန်းပြုရသောကြောင့်၎င်း,သာသနာပြုမထေရ်တို့နှင့်အတူရဟန်းမိန်းမ မပါသောကြောင့်၎င်း နောက်ကာလမြင့်မှ ရဟန်းမိန်းမတို့လာရောက်၍ ရဟန်းပြုသသူတို့နှင့်တကွ ရေတွက်သည်ဟုသိရသတည်း။

[သီဟိုဠ်ကျွန်းမှာ အနုဠာမိဖုရားရဟန်းပြုလိုသည်တွင် အရှင်မဟိန္ဒကအရှင်မသင်္ဃမိတ္တာထေရီကိုခေါ်၍ရောက်မှရဟန်းပြုသကဲ့သို့မှတ်လေ။]

အပရန္တံ ဝိဂါဟိတွာ၊
ယောနကော ဓမ္မရက္ခိတော။
အဂ္ဂိက္ခန္ဓောပမေနေတ္ထ၊
ပသာဒေသိ ဇနေ ဗဟူ။ ။

**အနက်ကား။** ယောနကော၊ ရှမ်းယွန်းမျိုးဖြစ်သော။ ဓမ္မရက္ခိတော၊ အရှင်ဓမ္မရက္ခိတသည်။ အပရန္တံ၊ အပရန္တတိုင်းသို့။ ဝိဂါဟိတွာ၊ သက်ဝင်တော်မူ၍။ ဧတ္ထ၊ ဤအပရန္တတိုင်း၌။ ဗဟူဇနေ၊ လူအများတို့ကို။ အဂ္ဂိက္ခန္ဓောပမေန၊ အဂ္ဂိက္ခန္ဓောပမသုတ္တန်ဖြင့်။ ပသာဒေသိ၊ သာသနာ၌ကြည်ညိုစေတော်မူ၏။

အင်္ဂုတ္တရနိကာယ် ခန္ဓောပမသုတ် [၁] ကိုဟောတော်မူသည်ဟူသော အဋ္ဌကထာစကားဖြင့် အဓိပ္ပါယ်အထူးယူဘွယ်ထင်၏၊ အဓိပ္ပါယ် အထူးကား–အဂ္ဂိက္ခန္ဓောပမသုတ်သည် ရဟန်းတို့၏ အမူအကျင့် ကောင်းသည်, မကောင်းသည်၌ အကျိုးအပြစ်ကို ဟောတော်မူသော သုတ်ဖြစ်သည်၊ ရဟန်းတို့အားသာ ထိုသုတ်ကိုဟောသင့်သည်၊ ထိုသို့လျက်လူတို့အား ဟောတော်မူသည့်အလိုကား-ပုဏ္ဏ,သစ္စဗန် သူမွန်တို့က အရင်းစ၍ သဗ္ဗညုဘုရားဝါတော်နှစ်ဆယ်ကျော်ကပင် အပရန္တတိုင်း၌ သာသနာသက်ဆင်း နှင့်ရင်းဖြစ်၍ရဟန်းများလည်း ကြိုးကြားရှိရာသောကြောင့် ထိုသို့ရှိနှင့်သောရဟန်းတို့ကို ထိပါးလို၍၎င်း, ယခုလာဆဲသံဃာတော်၏သန့်ရှင်းစင်ကြယ်သောအဖြစ်ကိုသိစေလို၍၎င်း အဂ္ဂိက္ခန္ဓောပမသုတ်ကိုဟောတော်မူသည်။

[ဤသို့အဓိပ္ပါယ်အထူးယူလေ၊ ထိုသို့ယူမှလည်း ပုဂံမှာရဟန်းယောင်အရည်းတို့ ရှိကြောင်းကို ဆိုလတ့ံသည်နှင့် ညီညွတ်မည်၊ မယူလိုသော် အဓိပ္ပါယ်အထူးကိုမသိ၊ ယူလိုသော်လည်း အပြစ်မရှိဟုမှတ်လေ။]

ဤသို့အောက်က ဆိုခဲ့ပြီးသော အပရန္တတိုင်း, သုဝဏ္ဏဘုမ္မိတိုင်း, ယောနကတိုင်းသုံးရပ်သည် အာဒိစ္စဝံသ မြန်မာ့ဦးစွန်း မင်းအဆက်ဆက်လက်နက်နိုင်ငံဖြစ်၏၊ထို့ကြောင့် သာသနာတော် ၂၃၅-ခုနှစ်က သိရီဓမ္မာသောကမင်းလက်ထက်အရှင်မောဂ္ဂလိပုတ္တတိဿ မထေရ်စေ၍ရဟန္တာကြီးတို့သာသနာပြုသောပစ္စန္တရာဇ်ကိုး၌ာနတွင် ယခင်သုံး၌ာနသည် မရမ္မမဏ္ဍလ အဝင်အပါဖြစ်ရကား သာသနာပြုစေသည်ကာလလည်း ငါတို့မြန်မာနိုင်ငံသို့ သာသနာတော်မြတ် အမွန်အဆက်သုံးကြောင်း သုံးသွယ်ပင် သက်ဆင်းသတည်း။

[ဤကားမြန်မာနိုင်ငံ၌ သာသနာပြုမထေရ်တို့ပြုစု၍ နှစ်ကြိမ်မြောက်သက်ဆင်းသော သာသနာတော်ဆက်တည်း။]

### ၃-ကြိမ်မြောက် သာသနာတော်ဆက်

ပုဂံပြည်၌ သမုဒ္ဒရာဇ်မင်းကစ၍ နော်ရထာ မင်းစောတိုင်အောင်သော မင်းအဆက်ဆက်တို့သည် သမထိးအရပ်၌ နေစမှတ်ပြုသော

---

၁။ အဂ္ဂိက္ခန္ဓောပမသုတ်—မီးပုံကြီးဥပမာရှိသောသုတ်။

အရည်းကြီးသုံးကျိပ်နှင့် တပည့်အရည်း ခြောက်သောင်းတို့ အဆုံးအမကို ခံ၍ ယူမှားကြကုန်၏၊ ထိုအရည်းတို့အယူကား—

၁။ သူ့အသက်ကိုသတ်မိသောသူသည် ဤပရိတ်ကိုရွတ်သော် ကမ္မပထမှ လွတ်၏။

၂။ မိဘကိုသတ်မိသောသူသည်ဤပရိတ်ကိုရွတ်သော် ပဉ္စာနန္တရိယကံမှလွတ်၏။

ဤသို့အစရှိသော မဟုတ်မလျားသော အဓမ္မတို့ကို ဓမ္မ-ဟူ၍ဟောကြား၏၊ထိုမှတပါးလည်းမင်းအစရှိသောအမှူး,အမတ်,ကလန်,သံပျင်, သူဌေး, သူကြွယ်, ပြည်သူ, ပြည်သားတို့သားသမီးကို ထိမ်းမြားမင်္ဂလာပြုအံ့သောအခါ ဆရာတို့အားပန်းဦးပေးသည်-ဟူ၍ ညဥ့်ဦးက ထိုသူတို့အထံသို့ပို့ရလေ၏၊ မိုးသောက်၍လွှတ်လိုက်မှ ထိမ်းမြားရ၏၊ ဆရာကပန်းဦးမဆွတ်ဘဲ ထိမ်းမြားပချေသော် အစဉ်ကိုဖျက်သည်-ဟု ကြီးစွာသောမင်းပြစ်ကိုခံရသော-ဟူ၏၊ ဤသို့မဟုတ်မလျားသော အကြောင်းများကို နော်ရထာမင်းစော ကြားသိတော်မူလျှင် ရင့်မာသော ပါရမီရှိသသူဖြစ်၍ နှစ်သက်တော်မမူ၊ မှားသောအယူဖြစ်သည်-ဟူ၍ ထိတ်လန့်ခြင်း ပြင်းစွာရှိတော်မူ၏၊ ထိုရောအခါ အရှင်အရဟံ ပုဂံပြည်သို့ကြွလာ၍ သာသနာပြုစု၏။

## ရှင်အရဟံ အကြောင်း

ရှင်အရဟံ၏ အကြောင်းကား-ရာဇဝင်၌လာသော အကြောင်း, ပရိတ္တနိဒါန်း၌ လာသောအကြောင်း, သာသနာဆက်စာများ၌ လာသောအကြောင်းအားဖြင့် ကြောင်းတူသံကွဲ အကြောင်းသုံးပါး ရှိ၏။

ရာဇဝင်၌လာသော အကြောင်းကား—

ထိုကာလ သုနာပရန်တမ္ပဒိပ်တိုင်းမှာ သာသနာတော် စွဲစွဲမြဲမြဲ ထွန်းမလင်းချေသေး၊ ဘုရားဗျာဒိတ်ထားတော်မူခဲ့တိုင်း ထွန်းလင်းစေအံ့-ဟုရဟန္တာမြတ်တို့ကြံပြီးလျှင် သိကြားမင်းထံသွား၍ သာသနာပြုနိုင်မည့်သူကို ညီညာတောင်းပန်ပါဟုဆိုကုန်၏၊ သိကြားမင်းလည်း တာဝတိံသာတွင်ရှိသော နတ်သားတယောက်အား တောင်းပန်၍ ပုဏ္ဏေးမဝမ်း၌ သန္ဓေနေလာစေ၏၊ နေ့လစေ့၍ ဘွားသည်ရှိသော်

သီလဗုဒ္ဓိမည်သော ရဟန္တာမြတ်သည် စောင့်ကြပ်မစ၍ အရွယ်ရောက်လျှင် ရဟန်းပြု၍၊ ပိဋကကျမ်းဂန်တတ်မြောက်စွာလျက်ရဟန္တာ အဖြစ်သို့ရောက်လေ၏၊ "အရဟံ"ဟူသော အမည်ဖြင့် ကျော်စောထင်ရှား၏၊ထိုရှင်အရဟံသည် မြန်မာတိုင်းနိုင်ငံ၌ သာသနာသန့်ရှင်းထွန်းလင်းစိမ့်သောငှါ ပုဂံပြည်သို့ကြွတော်မူလာ၍ မြို့နှင့်မနီးမဝေးသော တောအုပ်တခု၌ နေတော်မူ၏။

### ရှင်အရဟံနှင့်နော်ရထာမင်းစော

သိကြားမင်းသည် မုဆိုးတယောက်အားဖြားယောင်း လှည့်ပတ်၍ ရှင်အရဟံကိုမြင်စေသော်ဤသူကားလူမဟုတ်၊နတ်ဘီလူးဖြစ်ရာသည်၊ လူဖြစ်လျှင်လည်း လူရိုင်းဖြစ်ရာသည်၊ မင်းမှာဆက်မည်-ဟု မြို့သို့ဆောင်လေ၏၊ ရှင်အရဟံလည်း ပရိက္ခရာရှစ်ပါးလွယ်ယူလျက် လိုက်တော်မူလေ၏၊ တောအုပ်တခုတွင် လူရိုင်းကိုတွေ့၍ ဆောင်ခဲ့သည်-ဟု မင်းအား မုဆိုးလျှောက်လျှင် မြတ်သောဣန္ဒြေနှင့် ပြည့်စုံသော အဖြစ်ကို နော်ရထာမင်းစောမြင်၍ ဤသူကား လူရိုင်းမဟုတ်၊ မြတ်သောသူတည်း၊ ဤသူကိုယ်ဝယ်မြတ်သော တရားရှိရာသည်-ဟူ၍ နေရောင်ဖြင့်တွေ့သော ကြာမိုကဲ့သို့ ရွှင်လန်းသဖြင့် ကြိုစည်ဆင်ခြင်တော်မူ၏၊ လျှောက်ပတ်သော နေရာကိုကြည့်၍ နေလော့-ဟု သဘောကိုစမ်းလိုသဖြင့်ဆိုသော် ရှင်အရဟံလည်း ရာဇပလ္လင်သို့တက်၍နေတော်မူ၏။

မင်းကြီးလည်း ဤသူနေရာကြီးမြတ်လှသည်၊မြတ်သောသူမှန်ပြီ-ဟု ဆင်ခြင်၍ ဤသို့မေးတော်မူ၏။

**မင်းကြီး။** "ငါ့ရှင်ကား အဘယ်သူ၏ အမျိုးအနွယ် ဖြစ်တော်မူသနည်း၊အဘယ်အရပ်မှကြွလာတော်မူသနည်း၊ အဘယ်သူ၏ အဆုံးအမကို ခံတော်မူသနည်း-ဟု မေးတော်မူသော်—

**မထေရ်။** ရှင်အရဟံလည်း ဤသို့မိန့်တော်မူ၏၊ "ငါ၏အမျိုးအနွယ်ကား ဂုဏ်တော်ကိုးပါး, ဘုန်းတော်ခြောက်ပါး, အစိန္တေယျလေးပါးနှင့်ပြည့်စုံတော်မူသော သမ္မာသမ္ဗုဒ္ဓဘုရား အမျိုးအနွယ်တည်း၊ ငါ၏ဆရာဥပဇ္ဈာယ် အပေါင်းအဘော် သံဃာရှိသော နေရာအရပ်က

လာခဲ့သတည်း၊ သမ္မာသမ္ဗုဒ္ဓဘုရား ဟောကြားတော်မူသော အာဏာဒေသနာတော်မှ လာသောအဆုံးအမကိုခံသတည်း"ဟူ၍ မိန့်တော်မူသော်—

မင်းကြီး။ မင်းကြီးလည်း အားရနှစ်သက် ဝမ်းမြောက်ဝမ်းသာရှိ၍ "သမ္မာသမ္ဗုဒ္ဓ ဘုရားဟောကြားတော် မူသော တရားတော်ကို တစိတ်တဒေသမျှ အကျွန်ုပ်အား ဟောတော်မူပါ"ဟု တောင်းပန်သည်တွင်—

မထေရ်။ သိရိဓမ္မာသောက မင်းကြီးအား အရှင်နိဂြောဓ သာမဏေဟောတော်မူသော အပ္ပမာဒတရားကိုဟောတော်မူသည်။

မင်းကြီး။ တရားဟောတော် မူပြီးသည့် အဆုံး၌ မင်းကြီး၍သို့ လျှောက်ပြန်၏၊ "သမ္မာသမ္ဗုဒ္ဓဘုရားကား ယခုအတီအရပ်မှာရှိတော်မူသနည်း၊ တရားတော်ကား အတီမျှအရေအတွက်ရှိသနည်း၊ တပည့်သားတော်ကားငါ့ရှင်မှတပါးအခြားရှိသေးသလော, မရှိပြီလော"ဟုလျှောက်သော်—

မထေရ်။ သမ္မာသမ္ဗုဒ္ဓဘုရား နိဗ္ဗာန်လားတော်မူကြောင်း,ဓာတ်တော်,မွေတော်သာယခုရှိကြောင်းကိုငှင်း၊တရားတော်သည် ဓမ္မက္ခန္ဓာ(၈၄၀၀၀)အရေအတွက် ရှိသောအကြောင်းကိုငှင်း၊ သထုံပြည်ဝယ် ပိဋကသုံးပုံ အစုံသုံးဆယ်ရှိကြောင်းကိုငှင်း၊ ငါမှတပါးပရမတ္ထသံဃာ, သမ္မုတိသံဃာများစွာရှိကြောင်းကိုငှင်း မိန့်တော်မူ၏။

မင်းကြီး။ ထိုစကားကို မင်းကြီးကြားတော်မူသော် အတိုင်းထက်အလွန် သဒ္ဓါခြင်းပြင်းစွာဖြစ်၍ ၍သို့ လျှောက်ပြန်၏၊ "အကျွန်ုပ်အားယခုမျက်မှောက်အရှင်မှတပါးအခြားကိုးကွယ်ရာမရှိပြီ၊ ယနေ့မှစ၍ ကျွန်ုပ်၏ကိုယ်အသက်ကိုအရှင်အားဆောင်နှင်းတော့သည်၊ အရှင်အဆုံးအမကိုလည်း အကျွန်ုပ်ခံတော့မည်-ဟူ၍ လျှောက်ပြီးလျှင်

အရညကင် ရသော အရပ်၌ သာယာ လှစွာသော ကျောင်းဆောက်လုပ် လှူဒါန်း၏၊ အရည်းတို့ အယူကို လည်းပယ်တော်မူ၏၊ ပြည်သူပြည်သား အပေါင်းတို့ကို လည်း ပယ်စေတော်မူ၏။

**နော်ရထာမင်းစောသံဝေဂရတော်မူခြင်း**

ထိုသို့လျှင်အရည်းတို့သည်လာဘ်ပူဇော်သက္ကာမှလျှောကြကုန်သည် ဖြစ်၍ ရှင်အရဟံအား ရန်ငြိုးကြီးစွာထားကြ၏၊ မင်းကြီးလည်း ထိုအကြောင်းကိုဆင်ခြင်မိ၍ စိုးရိမ်တော်မူသဖြင့် အရည်းတို့ကိုနိုင်လောက်အောင် အစောင့်အနေခန့်ထားစောင့်နေစေ၏၊အရည်းကြီးသုံးကျိပ်နှင့် တကွ တပည့်လက်သား ခြောက်သောင်းတို့ကိုလည်း လူဝတ်လဲစေ၍ အဲမောင်းကိုင်,လှံကိုင်,ဆင်ချေးကျုံးမြင်းချေးကျုံးထည့်တော်မူလေ၏၊ ရှင်အရဟံသည် သာသနာ၌ကြည်ညိုသသူတို့ကို ရဟန်းပဉ္စင်းပြုတော်မူ၍ သာသနာတော်မြတ် သန့်ရှင်းထွန်းလင်းစေ၏၊နော်ရထာမင်းစောသည်ထိုအခါသံဝေဂနောင်တရတော်မူ၍ဤပြည်ကိုအစဉ်မင်းပြုတော်မူကုန်သောအဆက်ဆက်သောဘေးလောင်းတော်, ဘိုးလောင်းတော်တို့သည်အရည်းရဟန်းတို့အယူကိုယူမှားကြလေကုန်သည်၊ထိုသို့ယူမှားကြလေသည်ကို ယူ၍ရကောင်းပြန်ဘိမူကား တဘန် ယူပြန်စေချင်၏-ဟူ၍ သံဝေဂနောင်တရရှိတော်မူလေသည်။

[ဤကား ရာဇဝင်၌လာသော ရှင်အရဟံ အကြောင်းတည်း။]

ပရိတ္တနိဒါန်း၌လာသော အကြောင်းကား—

သိင်္ဃိုဠ်ကျွန်းဝယ် ဝိပ္ပဝါသီပြည်၌နေသော အမျိုးသားလုလင်တဦးသည်ရဟန်းပဉ္စင်းခံ၍ဒွါရာဝတီပြည်မှာပိဋကစာပေသင်လာ၏၊နောက်သထုံပြည်သို့သွား၍ ပိဋကစာပေသင်ပြန်လေ၏၊ ထိုရှေအခါ သရေ- ခေတ္တရာပြည်၌ "သခွတ်ပင်တွင် ကျမ်းစာရသည်" ဟူသော စကားကိုကြား၍ သထုံပြည်က သရေခေတ္တရာသို့သွားလေ၏၊ ခရီးအကြားတောတွင် ထိုအရှင်ကို ဘီလူးမှတ်ထင်၍ မုဆိုးတို့ဘမ်းပြီးလျှင် နော် ရထာမင်းစောအားပြလေ၏၊ ထိုသို့ပြကြောင်းကို ဤသို့စူဠဝင်က ဂါ ထာဆောင်၏။

ရာဇာတိရာဇနုရုဒ္ဓ၊
ဒေဝေါစက္ကိန္ဒရာဇာဝ၊
သိရိနုဘောန္တော့လုဒ္ဒေနာ၊
ဒါယာဂတထေရသေဋ္ဌိံ။
ပုစ္ဆေဝံရဟန္တနာမကံ။ ။

**အနက်ကား။** ရာဇာတိရာဇာ၊ မင်းတို့ထက်လွန်မြတ်သောမင်းဖြစ်သော။ အနုရုဒ္ဓဒေဝေါ၊ နော်ရထာမင်းစောသည်။ စက္ကိန္ဒရာဇာဝ၊ စကြာမင်းကဲ့သို့။သိရိံ၊မင်း၏စည်းစိမ်ကြက်သရေကို။ အနုဘောန္တော၊ ခံစားတော်မူလျက်။ အရဟန္တနာမကံ၊ အရဟံအမည်ရှိသော။လုဒ္ဒေန၊ မုဆိုးသည်။ အာဒါယ၊ ယူဆောင်၍။ အာဂတထေရသေဋ္ဌိံ၊ လာခဲ့သောမထေရ်မြတ်ကို။ ဧဝံ၊ ဤသို့။ ပုစ္ဆိ၊ မေးလေ၏။

ဤဂါထာလာသည့်အတိုင်း—

**မင်းကြီး။** ထိုအခါနော်ရထာမင်းစောက ရှင်အရဟံကို သင်ကား အဘယ်သူနည်း-ဟုမေး၏။

**မထေရ်။** ငါကား ဂေါတမဘုရားတပည့်သားတည်း၊ ပါဏာတိပါတ်ကို ငါတို့ပယ်၏-ဟုဆိုပေသော်-

**မင်းကြီး။** ဘုရားစသော ရတနာသုံးပါးတို့ဂုဏ်ကျေးဇူးကား အထူးဘယ်သို့ရှိသနည်း-ဟုမေးပြန်၏။

**မထေရ်။** ဘုရားကား မဟာသမုဒ္ဒရာကဲ့သို့,တရားတော်ကား ဥမင်လိုဏ်နန်းကဲ့သို့,သံဃာတော်ကား ဝိဒေဟရာဇ် မင်းကြီးစသော ဗိုလ်ပါကဲ့သို့တည်း၊ နိဗ္ဗာန်ကား စန္ဒကူးဖြင့်လိမ်းသော် ငြိမ်းအေးသကဲ့သို့တည်း၊ ဤသို့ဥပမာအထူးကိုဆောင်၍ဆိုပေ၏။

**မင်းကြီး။** အရည်းရဟန်းတို့ကိုရည်၍ ဤသူတို့ကား ဘုရားဂေါတမတပည့် ဟုတ်ပေသလော-ဟုမေးပြန်၏။

**မထေရ်။** ဤသူတို့ကား ဘုရားဂေါတမတပည့်မဟုတ်၊ငါတို့နှင့် သဘောမတူ၊ တက္ကတွန်း ရဟန်းချည်းတည်း-ဟုဆိုပေသော်—

ထိုနေ့ကစ၍ အရည်းများကို ပစ်ပယ်လေ၏။

ရှင်အရဟံလည်း မင်းကြီးအား ဒသဝတ္ထု၊ဝိမာနဝတ္ထု များကို ဟောကြားပေ၏၊ မင်းကြီးလည်းကြည်ညိုစွာ၍သရေခေတ္တရာက အပြန်တွင် ပုဂံပြည်သို့ ပင့်ဆောင်လေ၏။

## ရှင်အရဟံအား ဇေတဝန်ကျောင်းကိုတင်လှူခြင်း

အရည်းရဟန်းယောင်တို့တွင် အလှည့်အဖြားလိမ်မာစွာသော အရည်းတယောက်သည် မိမိတို့ဝါဒအလျောက် ကျမ်းစာပြုပြီးလျှင် သရေခေတ္တရာပြည်တွင်သခွတ်ပင်ကြီးကိုထွင်း၍သွင်းထားပြီးမှမြေကျုံ၍ပြကတေ့အသားတက်စေ၏၊ ထိုအခါ ငါတို့အိပ်မက်တွင် သခွတ်ပင်ထဲ၌ ကျမ်းစာရှိကြောင်းကိုမြင်မက်သည်ဟု ထင်ထင်ရှားရှားပြောဆိုကုန်၏၊ ထိုစကားကို နော်ရထာမင်းစောကြား၍သရေခေတ္တရာရောက်အောင်ချီသွားပြီးလျှင် သခွတ်ပင်ကိုပေါက်ခွဲ၍ ရှာဖွေစေသော် ကျမ်းစာရလေ၏၊ စာတွင်မူကား မိမိတို့အယူအကျင့်မှန်ကြောင်း, ဘုရားဂေါတမတပည့်ဖြစ်ကြောင်းပါ၏၊ မင်းကြီးလည်းယုံမှားသက်ာနှင့်ပင်မလွဲသာ၍အရည်းတို့အား တည်မြဲလှူမြဲအလှူဝတ်ကို တည်ပြန်လှူပြန်လေ၏၊ဤသို့အရည်းရဟန်းတို့မှာကျမ်းစာပေါ်ကြောင်းကိုကြားသဖြင့် သရေခေတ္တရာပြည်သို့ချီ၍ ပုဂံသို့အပြန်တွင် ရှင်အရဟံကို ပုဂံသို့ပင့်ဆောင်ခဲ့သတည်း၊ပုဂံသို့ရောက်လျှင်မြို့ရှေ့၌ဇေတဝန်မည်သောကျောင်းကိုဆောက်၍တင်လှူ၏၊"အရဟံမဟာထေရ်"ဟူသောအမည်ကိုလည်းတွင်စေ၏၊ မင်းကြီးကားရေထမ်း၍,မိဖုရားကားဆွမ်းရွက်၍ နေ့တိုင်းမပြတ်လုပ်ကျွေး၏၊ အမေးပုစ္ဆာမေးမြန်းဘွယ်ရှိလျှင်လည်းမေး၏။

[ဤကားပရိတ္တနိဒါန်းတွင်လာသော ရှင်အရဟံအကြောင်းတည်း။]

သာသနာဆက်စာများတွင် လာသောအကြောင်းကား—

သုဝဏ္ဏဘုမ္မိသထုံမြို့တွင် ဈာန်သမာပတ်ရသော အနောမဒဿီမထေရ်သည် အရှင်သောဏ, အရှင်ဥတ္တရတို့ ပြုစုသော သာသနာအနွယ်အဆက်ကို သံဃာငါးရာနှင့် ကောင်းစွာ စောင့်ထိန်းလျက်နေ၏၊ ထိုအရှင်တပည့်ရင်းကား ရှင်အဓိသီလ, ထိုအရှင်တပည့်ရင်းကား ရှင်ပြာဏဒဿီ, ထိုအရှင်တပည့်ရင်းကားရှင်ကာလ,ထိုအရှင်တပည့်ရင်းကား ရှင်အရဟံ,ထိုအရှင်တပည့်ရင်းကား ရှင်အရိယဝံသတည်း၊ အတူနေ သဒ္ဓိဝိဟာရိကကိုတပည့်ရင်းဆိုသည်။

ဤသို့ဆရာစဉ်စာတွင် ဆိုသောစကားသည် သထုံပြည်၌ လောကီချာန်အဘိညာဉ်ရသော ရှင်ပြာဏဒဿီ, ထိုအရှင်တပည့်ရင်း ရှင်မဟာကာလ,ထိုအရှင်တပည့်ရင်းရှင်အရိယဝံသ,ထိုအရှင်တပည့်ရင်း ရှင်ဥတ္တရာဇီဝဟူ၍—

ကော ပနေသ ဥတ္တရာဇီဝမဟာထေရောတိ၊ အယံ ဟိ ထေရော ရာမညဒေသိယပုတ္တော အရိယဝံသထေရဿသိဿော၊ အရိယဝံသတ္ထေရော ပန ကပ္ပုင်္ဂနဂရဝါသိမဟာကာလထေရဿသိဿော၊ သော ပန သုဓမ္မနဂရဝါသိနော ပြာဏဒဿီမဟာထေရဿ သိဿော။

ဟုကလျာဏီ ကျောက်စာတွင် ပါဠိပါဌ်သား စီလျက်ဆိုသည်နှင့် မညီလေ၊ ယင်းသို့မညီသော်လည်း သဘောအဓိပ္ပါယ်မပျက်ပြီ၊မဟုတ်မမှန်ဘဲဆိုချေလျှင် ဆိုသူမှာသာ အပြစ်ရှိသည်၊ ရှင်အရဟံအမည်ရင်းကား ဓမ္မဒဿီ-ဟုတွင်၏၊သထုံမြို့နေပုဏ္ဏားသားတည်း၊ သီလဗုဒ္ဓိဆရာ၏ တပည့်ရင်းပင်တည်း။

[ယခုတွင်ပင် ရှင်အရဟံသည် ရှင်ကာလ၏တပည့်ရင်းဟူ၍ ဆိုခဲ့ပြီးလျက် ယခုပင်အခြားဆိုပြန်သည်၊ သဘောယုတ္တိမရှိ၊ ထိုသို့မရှိသော်လည်း ရှင်အရဟံကိုသာ လိုရင်းဖြစ်သည်၊ လိုရင်းအဓိပ္ပါယ်မပျက်၊ ဆိုသူစကားသာပျက်သည်။]

ထို့ရှင်အရဟံသည် သာမဏေမပြုမီကပင် ဗေဒင်လေးပုံ တတ်မြောက်သတတ်၊ သာမဏေပြုပြီးကား အဋ္ဌကထာနှင့်တကွ ပိဋကသုံးပုံကိုဆောင်ရွက်၍ ကျော်စောထင်ရှားသဖြင့် သောဏ္ဏတမြို့ကပင့်၍ ထိုမြို့တွင် ဆယ်နှစ်ကျော်နေပြီးမှ သထုံမြို့သို့ပြန်ခဲ့၍ အရညဝါသီ[၁] တောဆောက်တည်၏။

**အရည်းတို့၏ ကျမ်းစာများကိုမီးတိုက်ခြင်း**

သာသနာ ၁၅၆၁-ခုနှစ်၊သက္ကရာဇ် ၃၇၉-ခုနှစ်တွင် နော်ရထာမင်းစောမင်းဖြစ်၏၊ ထိုရောအခါပုဂံပြည်တွင် ရှင်ယောင်အရည်းတို့သည်သံဃာတော်ဟု သုံးဆယ်စီအစုအသင်းဖွဲ့လျက် နေကြကုန်သည်၊

---

၁။ အရညဝါသီ—တော၌နေလေ့ရှိသူ။

အစုဟထောင်ရှိသော-ဟူ၍၊ နော်ရထာမင်းစောလည်းထိုအရည်းတို့၏အာဂါရိယ အဖြဟ္မစရိယအမူအကျင့်များကိုကြားတော်မူ၍ကြည်ဖြူတော်မမူ၊ပြည်သူပြည်သားများနှင့်တကွ မပေးကမ်းမလှူဒါန်းနေလေသော် စဉ်းလဲဆန်းပြားသော အရည်းကြီးတယောက်သည်မိမိတို့ အပြုအမူနှင့် လျော်ညီအောင် ကျမ်းစာလုပ်ပြီးလျှင် သရေခေတ္တရာရသေ့ပြည်တွင် အလယ်ဝယ် သခွတ်ပင်ကြီးအခေါင်း၌ ထိုကျမ်းစာကိုထည့်သွင်းထားလေ၍၊သစ်ပင်အခွံအသား စေ့စပ်လွယ်အောင် စိုစိုစွတ်စွတ်မြေမံထား၍ မသွေ့မခြောက်စေရအောင်လို့လပြု၍၊ သုံးနှစ်လည်၍ သစ်ပင် အခွံအသားစေ့စပ်သောအခါ ပုဂံပြည်သို့လာ၍နော်ရထာမင်းစောအား၍သို့ကြားလာ၏။

အကျွန်ုပ်တို့အား ကျမ်းစာမရှိ၍ တောင့်တကြသည်တွင် ဘေးလောင်းတော် ဒွတ္တပေါင်မင်းကြီးမြို့တော်ရသေ့ပြည်တွင် မြို့လယ်ဝယ် သခွတ်ပင်ကြီးအတွင်း ကျမ်းစာရှိသည်ကို ဘော်ယူ သင်ကြားကျင့်ဆောင်ကြရမည်ဟု နတ်တို့အိပ်မက် ပြပေးပြောဆိုလာပါသည်-ဟူ၍ မင်းအားကြားလတ်သော် မင်းကြီးလည်းဝမ်းမြောက်ဝမ်းသာ ရသေ့ပြည်တွင်းသို့ရောက်အောင် စစ်အင်္ဂါလေးပါးနှင့် ချီသွား၍ရသေ့ပြည်တွင်းဝယ်ရှာစေလျှင် လုံးပတ် ၃၂-တောင်ရှိသော သခွတ်ပင်ကြီးကိုတွေ့၍ထွင်းဘောက်စေသည်တွင် သစ်ခေါင်းအတွင်းမှာကျမ်းစာ အများရ၍ မင်းအား ဆက်သသည်ကို ကြည့်ရှုနာခံတော်မူ၍ သဘောသကန် မဟုတ်မမှန်ကြောင်းကိုသိတော်မူသဖြင့် ထိုအရပ်တွင်ပင် မီးတိုက်စေ၏၊ ထိုသို့ မီးတိုက်ရာအရပ်သည် ယနေ့ထက်တိုင်အောင် ''မီးတိုက်ကုန်း''ဟု အထင်အရှားတွင်လေ၏။

### အရှင်အရဟံပုဂံပြည်သို့ကြွ၍ သာသနာပြုခြင်း

ထိုသို့သောအကြောင်းအရာစကားများကို တဆင့်တကဲ ရှင်အရဟံကြား၍ သထုံပြည်ကသရေခေတ္တရာသို့ ကြွလာခဲ့သည်၊ တောင်တွင်းမြို့ရှေ့ကုန်းခေါင်တောင်ရိုး၌ လှည့်လည်ကျက်စားသောမုဆိုးတွေ့လျှင် လူရိုင်းအမှတ်ဘမ်း၍ မင်းမှာဆက်မည်ဟု ယူဆောင်လေသည်၊ ရှင်ယောင်အရည်းတို့မှာ ဖန်ရည်စွန်းမဝတ်၊ ပလောင်ရဟန်း, တရုပ်

ရဟန်းများကဲ့သို့ မဲထည်,မဲပြာ, အနက်အမည်းကိုသာ ဝတ်သည်၊ ဆံလေးသစ်တဝါးထားသည်ဖြစ်၍ငင်း, အရှင်အရဟံမှာဆံ ၂-သစ်ကမလွန်၊ ပရိက္ခရာရှစ်ပါး, စမ္ဗဏ်များပါသည် ဖြစ်၍ငင်း အရည်းများနှင့် မတူသောကြောင့် မုဆိုးက လူရိုင်းမှတ်လေသတည်း။

[တောင်တွင်းမြို့ရှေ့ ကုန်းခေါင် တောင်ရိုးတွင် မုဆိုးတွေ့သည်ဆိုသော စကားမှာ အရပ်အနေမသင့်၊ စကားပြုစကားလုပ်မှန်သည်ဟု ထင်သည်၊ ဆင်ခြင်၍ယူလေ။]

နော်ရထာမင်းစောလည်းမုဆိုးပြ၍ မြင်တော်မူတည့်လျှင်ပင် ဇာန္ဒြေ၏ ပြည့်စုံခြင်းကို ထောက်၍ ဤသူကား လူရိုင်းလက္ခဏာမရှိ၊ သူမြတ်လက္ခဏာရှိပေသည်-ဟုဆင်ခြင်ပြီးလျှင် နေရာမှထ၍ တင့်အပ်လျောက်ပတ်ရာ နေတော်မူပါဟုဆို၏၊ ရှင်အရဟံလည်း မင်းကြီး၏လေညာ မဝေးမနီးလွန်းက စမ္ဗဏ်ကိုခင်း၍ ထက်ဝယ်ဘွဲ့နေတော်မူသည်။

**မင်းကြီး။** ထိုအကြောင်းကို မင်းကြီးမြင်လျှင် သဒ္ဓါကြည်ညိုသဖြင့် လက်ယှက်၍ အဘယ် အမျိုးအနွယ်ပေနည်းဟုမေးသည်ကို—

**မထေရ်။** ငါကားသမ္မာသမ္ဗုဒ္ဓဘုရားအနွယ်-ဟု အမိန့်ရှိ၏။

**မင်းကြီး။** သမ္မာသမ္ဗုဒ္ဓဘုရား-ဟူသည်ကားအဘယ်သို့သောဂုဏ်, အဘယ်သို့သော အကျင့်ရှိပေ သနည်း-ဟု မေးမြန်းသော်—

**မထေရ်။** သမ္မာသမ္ဗုဒ္ဓဘုရားကား သစ္စလေးပါး တရားအပေါင်းကို ဆရာမရှိဘဲ မဘောက်မပြန်သိတော်မူနိုင်၍ မင်းထက်မင်း နတ်ထက်နတ် ဗြဟ္မာထက်ဗြဟ္မာ ဖြစ်သောဂုဏ်ကျေးဇူး, သူခပ်သိမ်းတို့၏ ဆင်းရဲခြင်းကိုပယ်တတ်သော အကျင့်ရှိတော်မူ၏-ဟု မိန့်တော်မူလျှင်—

မင်းကြီးလည်း ဝမ်းမြောက်ဝမ်းသာ ရှိ၍ ကိုယ်ကိုဆောင်နှင်းလျက် ပြသဆုံးမတော်မူပါ-ဟုလျှောက်၍ ဆရာအမှတ်ကိုးကွယ်တော်မူ၏၊ သရေခေတ္တရာကပြန်၍ ပုဂံပြည်သို့ ရောက်တော်မူလျှင် ရှင်အရဟံကို ညောင်ဦးဥယျာဉ်အနောက် ဥခွံမုဋ္ဌောမြောက်အရှေ့ယွန်းတွင် အ

ညဝါသီ တောကျောင်းဆောက်၍ သီတင်းသုံးနေစေတော်မူသည်၊ ထို သို့နေတော်မူသောအခါ ရှင်ယောင်အရည်းတို့ငြူစူ၍အန္တရာယ် မဖြစ် စိမ့်သောငှာ အစောင့်အနေလူ ၁၀၀-လှူထားတော်မူသည်ကို ဝိနည်း ဓမ္မကွန်နှင့်အညီတော်လှန်စေ၍ရှင်ရဟန်းပြုတော်မူပြီးလျှင် ပိဋကတော် ကို တတ်မြောက်အောင် သင်ကြားစေတော်မူသည်။

[ဤကား သာသနာဆက်စာများတွင် လာသော ရှင်အရဟံအကြောင်း တည်း။]

**ညှိနှိုင်းပြချက်**

ဤသို့လျှင် ရှင်အရဟံအကြောင်းကိုဆိုခဲ့ပြီးသော ကြောင်းတူသံကွဲ စကား ၃-ရပ်တွင်—

၁။ ရာဇဝင်စကားမှာ—ရှင်အရဟံကို ပုဏ္ဏားမျိုး-ဟုသာပါ၍ မည် သည့်မြို့ရွာက-ဟု မပါ၊ ပုဂံမြို့အရည်းတို့စာပြုလုပ်၍ သစ်ပင် တွင်သွင်းထားသည့် အရာသည်လည်းမပါ။

၂။ ပရိတ္တနိဒါန်းစကားမှာ—ရှင်အရဟံကို မည်သည့် အမျိုး-ဟူ၍ မပါ၊ အရည်းတို့ကျမ်းစာကို မီးတိုက်ရာအရပ်သည် မီးတိုက် ကုန်းတွင်သည်-ဟူ၍လည်းမပါ၊ပုဂံမြို့ရှေ့တွင်ဇေတဝန်ကျောင်း ဆောက်လုပ်တင်လှူသည်-ဟုပါသည်၊ ညောင်ဦး ဥယျာဉ်မှာ- ဟူ၍ မပါ။

၃။ သာသနာဆက် စာတမ်းစကားမှာ—ရှင်အရဟံ၏ ဆရာဆက် ကိုဆိုသည့်အရာ ရှေ့နောက်ဆန့်ကျင်သည်၊ကလျာဏီကျောက် စာနှင့်လည်းမညီ၊ တောင်တွင်းမြို့ရှေ့ ကုန်းခေါင်တောင်ရိုးတွင် ရှင်အရဟံကိုမုဆိုးတွေ့သည်ဆိုသောအရာလည်း စကား အ လွန်ဖြစ်သည်၊ သည်မှတပါးလည်း စကား အထည့် အသွင်း များသည်။

ထိုသို့ပင် စာစောင်ချင်းစကားမညီမညွတ်သော်လည်း ရှင်အရဟံ ထင်ရှားရှိသည်မှန်ကြောင်း, သာသနာပြုစုကြောင်း လိုရင်းအဓိပ္ပါယ် တူပြီ၊ အခြံရံစကားသံမျှသာ ကွဲပြားသည်ဖြစ်၍ ကြောင်းတူ သံကွဲဆို သည်ဟုမှတ်လေ။

[ဤကား မြန်မာတိုင်းနိုင်ငံ၌ရှင်အရဟံကိုစွဲ၍သက်ဆင်းသော ၃-ကြိမ် မြောက်သာသနာတော်ဆက်တည်း။]

### ပိဋကတော်အတွက်စစ်ဘက်ဖြိုင်ခြင်း

ထိုရောအခါ ရှင်အရဟံ ဤသို့မိန့်တော်မူ၏၊ ဘုရားရှင်သာသနာ ၃-ပါးတွင် ပရိယတ္တိသာသနာရှိမှ ပဋိပတ္တိသာသနာ ဖြစ်နိုင်သည်၊ ပဋိပတ္တိသာသနာဖြစ်မှ ပဋိဝေဓသာသနာ ဖြစ်နိုင်သည်၊ ပရိယတ္တိဟူသောပိဋက ၃-ပုံလည်းမစုံချေသေး၊ဤပြည်တွင်ဘုရားရှင် သရီရဓာတ်တော်,မွေတော်လည်းမရှိချေသေး၊ မွေတော်,ဓာတ်တော်,ပိဋကကျမ်းဂန်ရှိသောပြည်ရွာတိုင်းကားသို့ လက်ဆောင်ပဏ္ဏာနှင့် တောင်းစေ၍ ရှသည်ဖြစ်မှ သာသနာတော် အရှည်တည်ထွန်းမည်- ဟုမိန့်တော်မူသော်-အဘယ်တိုင်းပြည်မှာတောင်းသော် ရပါအံ့နည်း-ဟု မင်းကြီးမေး၍သုဝဏ္ဏဘူမိတိုင်းသထုံပြည်မှာပိဋကသုံးပုံကိုတစုံခေါ်၍အစုံ၃၀-ရှိ၏၊ မွေတော်,ဓာတ်တော်သည် များစွာရှိ၏-ဟုမိန့်ဆိုလျှင် မင်းကြီးလည်း လက်ဆောင်ပဏ္ဏာ အများစီရင်တော်မူ၍ လိမ်မာသောအမတ်တယောက်ကို သာယာချေငံစွာသော စကားဖြင့် သထုံပြည်သို့စေ၍ တောင်းရလေ၏၊ သထုံမင်းမနူဟာလည်း မကောင်းသောနှလုံးဖြင့် မချေမငံဆိုလိုက်ဘိ၏။

[ဤအရာတွင်ရာဇဝင်ကြီး၌ မည်သို့ဆိုသည်ဟူ၍စကားကိုယ်မပါ၊ ပုဂံရာဇဝင်တွင် ပိဋကတော်,ဓာတ်တော်,မွေတော်များသည်အရိုင်းတို့နှင့်အရာလော-ဟုကြမ်းတန်းစွာသောစကားကို ဆိုလိုက်သည်-ဟုပါ၏။]

### စစ်တိုက်၍ပိဋကတော်ကိုဆောင်ယူခြင်း

နော်ရထာမင်းစောလည်းထိုသို့ဆိုလိုက်သောစကားကိုကြားတော်မူသော် ပြင်းစွာသောအမျက်ထွက်တော်မူသဖြင့် ရေကြောင်းမှာလှေ ရှစ်သိန်း, သူရဲရှစ်ကုဋေ၊ ကြည်းကြောင်းမှာစစ်သူကြီး ၄-ယောက်နှင့်ဆင်ရှစ်သိန်း,မြင်းရှစ်သိန်း,သူရဲကုဋေရှစ်ဆယ်၊ ဤသို့သောအလုံး အရင်းနှင့်တကွ ကိုယ်တော်နောက်တပ်မပြု၍ ချီတက်တော်မူသည်၊ ရေကြောင်းစစ်ဦး ပဲခူးသို့ရောက်၍ ပုဂံကလှေတပ်မကုန်သေး၊ ကြည်းကြောင်းစစ်ဦး သထုံကျေးစပ်သို့ရောက်၍ပုဂံကကြည်းတပ်မကုန်သေး-ဟူ၏၊ ထိုသို့ချီလာသောအကြောင်းကို သထုံမင်း မနူဟာကြားလေသော် အလွန်ကြောက်ရွံ့ခြင်းဖြစ်၍မြို့နှင့်အခိုင်အလုံခံနှင့်၏၊ ပယောဂ

စီရင်၍ ထားလေသောကြောင့် အကြိမ်အဖန်များစွာ လုပ်ကြံသော်လည်း အောင်မြင်ခြင်းကိုမရနိုင်ချေ၊ဟူးရားဖြူ,ဟူရားညို တို့အားမေး၍ ပယောဂစီရင်ကြောင်းကိုသိသဖြင့် ဇော်ဂျီအကောင်ကို ဖုတ်ကင်၍စားသော ကုလားငယ်ဦးခေါင်းအပေါင်အလက်များကို မြို့ပတ်လည်မြှုပ်ထား၍ ပယောဂပြုလေသည်ကိုသမုဒ္ဒရာတွင်ချ၍ ပစ်စွန့်စေသည်တွင်မှ အောင်မြင်ခြင်းကိုရလေသည်။

ထိုသို့သထုံပြည်ကို အောင်မြင်သည်တွင်မှ သထုံမင်းအဆက်ဆက် ရတနာပန်းတောင်းတွင်ထား၍ကိုးကွယ်သောဓာတ်တော်,မွေတော်နှင့် ပိဋကတော်အစုံသုံးဆယ်များကို သထုံမင်းလက်ရှိဆင်ဖြူ ၃၂-စီးတွင် တင်၍ဆောင်ယူခဲ့၏၊ ထိုသို့ဆောင်ယူ၍ပုဂံသို့ရောက်လျှင် ဓာတ်တော်, မွေတော်များကို ရတနာအတိပြီးသော ပတ္တမြားကြုတ်တွင်ဌာပနာ၍ ခေါင်းရင်းတော်တွင် မပြတ်ကိုးကွယ်တော်မူ၏၊ ပိဋကအစုံသုံးဆယ်ကိုလည်း ရတနာအတိပြီးသော ပြာသာဒ်တွင်ထား၍ အရိယာသံဃာတို့သင်ကြားပို့သရ၏၊ သထုံပြည်က ပါသည်ကား ပိဋကတတ်သော အရိယာတထောင်စင်မြောက်သတည်း။

[သထုံပြည်ကို အောင်မြင်၍ ပိဋကနှင့်တကွရဟန်းသံဃာကိုနော်ရထာမင်းစောပုဂံသို့ဆောင်၍ သာသနာပြုစုသည်ကား သာသနာ ၁၆၀၁-ခုနှစ်၊ သက္ကရာဇ် ၄၁၉-ခုနှစ်အခါတွင်-ဟုကလျာဏီကျောက်စာ၌ဆို၏။]

## ၄-ကြိမ်မြောက်သာသနာတော်ဆက်

ထိုသို့ နော်ရထာမင်းစောပြုစု၍ အလိုရှိအပ်သော ရတနာမြတ်သုံးပါးနှင့် ပြည့်စုံသော ပြည်ဖြစ်ရကား ပုဏ္ဏာဂါမ[၁]ဟူသောအမည်ကို ထိုအခါသမုတ်သည်၊ နောက်မှ "ဏ္ဏာနှင့်မ" ပျောက်၍ နိဂ္ဂဟိတ်လာသဖြင့်"ပုဂံ" တွင်သည်-ဟု အနာဂတဝင် ဂါထာကိုဆောင်၍နိဒါန်း၌ဆိုသည်၊ရာဇဝင်များတွင်လည်း သည်အကြောင်းကိုရည်၍ နော်ရထာမင်းစော လက်ထက်တွင်မှ ပုဏ္ဏာဂါမတွင်သည်-ဟု ဆိုလေသတည်း၊ နော်ရထာမင်းစောလက်ထက်ပင် သီဟိုဠ်သို့ သူရဲကြီးလေးယောက်ကို စေ၍ ပိဋကတော်,စွယ်တော်များကို တောင်းစေသည်၊ သီဟိုဠ်ကရခဲ့

---

၁။ ပုဏ္ဏာဂါမ-မှ"ပုဂံ"ဖြစ်သည်၊ ရတနာသုံးပါးနှင့် ပြည့်စုံသောပြည်-ဟု ဆိုလိုသည်။

သော ပိဋကနှင့် သထုံကပါသော ပိဋကကိုလည်း ရှင်အရဟံတိုက်ဆိုင် တည်းပြင်သည်၊ နှစ်မူလုံးပင်မလွန်မယုတ် ညီညွတ်သည်-ဟူ၏၊ ထိုသို့ တိုက်ဆိုင်တည်းပြင်သောမူနှင့် ရေးကူးစေ၍ ပိဋကတိုက်တွင် သွင်းထား သည်၊ အရပ်ရပ်သို့လည်း ပျံ့နှံ့စေသည်-ဟူ၍ စာဟောင်း စာတမ်းရှိ သည်။

### မနူဟာဘုရားနှင့်မနူဟာကျောက်စာ

မနူဟာမင်းကိုလည်း မြင်းကပါအရပ်၌ အလုပ်အကျွေး များနှင့် နေစေသည်၊ ထိုမင်းအားစကားပြောသော်ခံတွင်းမှစက်ပြောင်ပြောင် ထွက်သော-ဟူ၏၊ နော်ရထာမင်းစောသို့ အဖူးအမြင်လာ၍ဦးချသော အခါ ကြက်သီးမွေးညှင်းထသည်၊ ထိတ်ထိတ် လန့်လန့်ရှိသည်၊ ထို့ ကြောင့် ထိုမင်းကို တန်ခိုးအာနုဘော်ညှိုးစေခြင်းငှာ မနောလင်ပန်းနှင့် စားတော်ပြင်ပြီးသော် ဘုရားမှာတင်စေပြီးမှ ထိုစားတော်ဖြင့် မနူဟာ မင်းကို ကျွေးမွေးစေ၏၊ ကာလရှည်လတ်သော် ခံတွင်းက စက်ရောင် မထွက် ကွယ်လေ၏၊ထိုအခါသံဝေဂရသဖြင့်သံသရာဝယ်ကျင်လည်သမျှ သူနိုင်သည့်ကိုယ်မဖြစ်လို-ဟုဆုပန်၍ဘုရားဆင်းတုကြီးထက်ဝယ်တော် တဆူ,နိဗ္ဗာန်လားတော်မူဟန်တဆူတည်လေသဖြင့် ယခုတိုင်အောင် မနူဟာဟု တွင်၏၊ကိုယ်တွင်ပါသော လက်ရှိမနောမယ ပတ္တမြားကို ပုဂံသူဌေးမှာ ရောင်း၍ လှည်းငါးစီးတိုက်ခန့် အဘိုးရသောငွေဖြင့် တည်သည်-ဟုမနူဟာကျောက်စာတွင်ဆိုသည်၊ ဤသို့လျှင် နော်ရထာ မင်းစောသည် သုဝဏ္ဏဘုမ္မိတိုင်း သထုံပြည်, သီဟိုဠ်ကျွန်းများက သာ သနာကို ယူဆောင်၍ စည်ပင်သန့်ရှင်းထွန်းလင်းစေသတည်း။

[ဤကား မြန်မာတိုင်းနိုင်ငံ၌ နော်ရထာမင်းစောပြုစု၍ သက်ဆင်း သောလေးကြိမ်မြောက်သာသနာတော်ဆက်တည်း။]

### ၅-ကြိမ်မြောက်သာသနာတော်ဆက်

သုဝဏ္ဏဘုမ္မိတိုင်း သထုံပြည်၌ သီရိမာသောကမင်းကစ၍ ဓမ္မပါလ မင်းတိုင်အောင် မင်းဆက်အများတွင် ဇောတကုမ္မာမင်း လက်ထက် အရှင်သောဏုတ္တရတို့ သာသနာပြုရောက်သည်-ဟူ၍ သာသနာဆက် တွင်ဆိုသည်၊ ကလျာဏီကျောက်စာတွင် သီရိမာသောကမင်း လက် ထက်ရောက်သည်-ဟုဆိုသော စကားနှင့်မညီ။

သောဏတ္ထေရ်ရှိ ပန ဥတ္တရတ္ထေရဥ္စ သုဝဏ္ဏဘူမိရဋ္ဌသဉ်္ဂါတ
ရာမညဒေသေ သာသနံ ပတိဋ္ဌာပေတုံ ပေသေသိ၊ တဒါ
သုဝဏ္ဏဘူမိရဋ္ဌေသိရီမာသောကောနာမရာဇာ ရဇ္ဇံ ကာရေသိ။
[ကလျာဏီကျောက်စာပါဠိ။]

သိကြားမင်းမြှုနန်းဘန်ဆင်း၍ပေးသော ရာဇဝင်တွင် သီဟရာဇာ, မော်ခေါကျောက်စာတွင် သိရီမာသောကဆိုသော မင်းလက်ထက် သထုံမြို့သို့ ဘုရားရှင်ရောက်သည်၊ ထိုနောက်သာသနာ ၂၃၅-နှစ်မှ သာသနာပြုဆရာတို့ရောက်သည်၊ ကာလကွာဝေးသောကြောင့်အခါ တူမယူသင့်၊ရာဇဝင်တွင် သီဟရာဇာကိုကျောက်စာတွင် သိရီမာသောက ဆိုသကဲ့သို့ ရာဇဝင်တွင် ဇောတကုမ္ဘာကို ကျောက်စာတွင် သိရီမာသော က ဆိုလေသည်ဟူ၍ အမည်မတူ၊မင်းကို ခွဲမပြားယူမှညီညွတ်သည်။
[ဤကားခက်ဆစ်အဓိပ္ပါယ်တည်း။]

**အရှင်ဥတ္တရာဇီဝမထေရ်သာသနာပြုခြင်း**

ယခင်သထုံမင်းဆက်တွင်ဓမ္မပါလမင်းလက်ထက်မှသီဟိုဠ်ကမာဂဓ ဘာသာပြန်ပြီး ပိဋကကို အရှင်ဗုဒ္ဓဃောသ သထုံမြို့သို့ ယူဆောင် ရောက်လာသည်၊ထိုနောက်သာသနာ၁၆၀၁-နှစ်ရောက်မှသထုံပြည်ကို နော်ရထာမင်းစောတိုက်၍ ပုဂံသို့သာသနာကို ပင့်ဆောင်သည်၊ ထို နောက် သာသနာ ၁၇၁၄-ခုနှစ်၊သက္ကရာဇ် ၅၃၂-ခုနှစ်အခါဆီတွင် ရာမညတိုင်းသား ဥတ္တရာဇီဝမထေရ်သည် ပုဂံပြည်နရပတိ စည်သူမင်း ကြီးကိုးကွယ်သော မင်းဆရာအဖြစ်သို့ရောက်၏၊ ထိုမထေရ်၏ အဆက် အနွယ်ကိုယခင်အောက်ကပြခဲ့ပြီ၊ သထုံမြို့တွင် ဈာန်သမာပတ်ရသော ရှင်အနောမဒဿီ, ၎င်းတပည့်ရှင်အဓိသီလ, ၎င်းတပည့်ရှင်ပြာဏ ဒဿီ, ၎င်းတပည့်ရှင်ကာလ, ၎င်းတပည့်ရှင်အရဟံ, ၎င်းတပည့်ရှင် အရိယဝံသ, ၎င်းတပည့်ရှင်ဥတ္တရာဇီဝ-ဟု ဆရာဆက်ကို ဆရာစဉ် စာတမ်းတွင်ဆိုလေသည်ကား ကလျာဏီကျောက်စာ, ရာဇဝင်များ နှင့်မညီ၊ ထိုမထေရ်သည် သုဝဏ္ဏဘူမိ သာသနာပြုအရှင်သောဏ,ဥတ္တရ တို့၏ သာသနာအဆက်အနွယ်ကို ယူဆောင်ခဲ့၍ ပုဂံပြည်ဝယ်သာသနာ ပြုစု၏၊ သီဟိုဠ်သို့ ကူး၍လည်း အရှင်မဟိန္ဒ၏အဆက်အနွယ် မဟာ

ဝိဟာရဂိုဏ်းသံဃာတို့နှင့် တချက်တလက်တည်း ကံကြီး, ကံငယ်ရွက်ဆောင်၏။

[ဤကား မြန်မာတိုင်းနိုင်ငံ၌ ဥတ္တရာဇီဝမထေရ်ပြုစု၍ သက်ဆင်းသော ငါးကြိမ်မြောက် သာသနာတော်ဆက်တည်း။]

### ၆-ကြိမ်မြောက်သာသနာတော်ဆက်

ဥတ္တရာဇီဝမထေရ်သီဟိုဠ်သို့ကူးသောအခါ အတူပါသော အသက် ၂၀-ပြည့်ဆပ္ပဒသာမဏေကို သီဟိုဠ်သံဃာများနှင့် တကွ ပဉ္စင်းခံ၏၊ ရှင်ဆပ္ပဒလည်းစာပေသင်ပြီး၍ ဆယ်ဝါမြောက် ထေရသမ္မုတိကိုရလောက်မှ ပုဂံပြည်သို့ပြန်ခဲ့၏၊သီဝလိ,တာမလိန္ဒ,အာနန္ဒာ,ရာဟုလာ၊ ဤမထေရ်လေးပါးကိုလည်း ပင့်ဆောင်ခဲ့၏၊ ထိုမထေရ်တို့ကား ပိဋကကိုဆောင်ကုန်သည်၊လိမ်မာကုန်သည်၊စွမ်းရည်ရှိကုန်သည်ချည်းတည်း။
[အကျယ်စကားကို ယခင်အောက်ကပြခဲ့ပြီ။]

ပုဂံသို့ရောက်လျှင် ရှိလင့်သောရဟန်းတို့နှင့်ကံကြီးကံငယ်အတူမပြု၊ မာနထောင်သဖြင့် အသီးအခြားပြုလေ၏၊ နရပတိစည်သူ မင်းကြီးလည်း ဝဇိရမဋ္ဌိမည်သော ပညာရှိအမတ်နှင့်တိုင်ပင်၍ ထိုမထေရ်ငါးပါးတို့ကို အလွန်ကြည်ညိုမြတ်နိုးတော်မူ၏၊ ဧရာဝတီမြစ်၌ လှေဘောင်ဖွဲ့စေ၍ များစွာသောသာမဏေတို့ကိုပဉ္စင်းခံစေ၏၊ကာလရှည်လတ်သော်အနွယ်အဆက်ပွါးပွား၍ဂိုဏ်းသံဃာများစွာဖြစ်လေသည်။

### ခုဒ္ဒသိက္ခာကျမ်းပြုအရှင်ရာဟုလာ

မင်းကြီးလည်း တနေ့သ၌ မထေရ်ငါးပါးတို့ကို တပည့်သံဃာနှင့်တကွ ပင့်ဘိတ်၍ အလှူကြီးပေးတော်မူ၏၊ ထိုအခါ သဘင်ခံရာတွင် အပြင်အလျာနှင့် ပြည့်စုံသော ကချေသည်မတယောက်ကိုရှင်ရာဟုလာမြင်လေသော် တပ်သောစိတ်ရှိ၍ ရဟန်းတရား၌ မမွေ့လျော်၊ ပရိသုဒ္ဓပြု[၁]ခြင်းငှာ အားထုတ်၏၊ကြွင်းသောမထေရ် လေးပါးတို့ဆုံးမပါသော်လည်းမနာမယူလိုသည်တွင် သင်တဦးကြောင့် ငါတို့အားလုံးအရှက်မရလေကောင်း၊သည်အရပ်တွင်လူမပြုပါနှင့်၊မလ္လာယုကျွန်းသို့သင်္ဘောစီးသွား၍ လူပြုပါလေ-ဟု နှင်လိုက်ကြ၏၊ ရာဟုလာမထေရ်လည်း

၁။ ပရိသုဒ္ဓပြု-လူဝတ်လဲခြင်း။

ပုသိမ်ကသင်္ဘောစီး၍ မလ္လာယုကျွန်းသို့ကူးလေ၏၊ ရောက်လျှင်ဝိနည်းတရားကိုသိလိုသောမလ္လာယုမင်းအား ဋီကာနှင့်တကွ ခုဒ္ဒသိက္ခာကျမ်းကိုသင်ချ၍ ဝိနည်းအဆုံးအဖြတ်ကိုသိစေသည်တွင် ထိုမင်းကပတ္တမြားတသပိတ်လှူ၏၊ ရာဟုလာ မထေရ်လည်း ပတ္တမြားတသပိတ်ရလျှင်လူထွက်လေ၏၊ ကျန်ရစ်သော မထေရ် လေးပါးတို့တွင် ဆပ္ပဒမထေရ်သေလွန်၍သီဝလိ,တာမလိန္ဒ,အာနန္ဒာ မထေရ် သုံးပါးတို့သာပိဋကကျမ်းဂန် ပို့သသင်ကြား၍ သာသနာကိုသန့်ရှင်းထွန်းလင်းစေ၏။

## ဂိုဏ်း ၂-ဂိုဏ်းကွဲခြင်း

တရံရောအခါ မင်းကြီးသည် မထေရ်သုံးပါးတို့အား ဆင်ပေါက်တစီးစီ လှူတော်မူသော် သီဝလိနှင့် တာမလိန္ဒမထေရ်တို့သည် ထိုဆင်ကိုတောမှာလွှတ်ကြ၏၊အာနန္ဒာမထေရ်မူကားကိဉ္စိပုရမြို့ ဆွေမျိုးတို့သို့ ပေးပါမည်ဟု ပုသိမ်သို့သွား၍ သင်္ဘော၌တင်လိုက်လေ၏၊ ထိုအကြောင်းကို မထေရ်နှစ်ပါးတို့သိလျှင် ငါတို့ကား ချမ်းသာအောင်တောမှာလွှတ်ကြသည်၊သင်မူကားဆင်းရဲအောင်ဆွေမျိုးတို့သို့ပေးလိုက်သည်၊ သင့်အမူကား တရားနှင့်မလျော်ဟုမိန့်ဆိုကုန်၏၊အာနန္ဒာမထေရ်လည်း ''ဉာတကာနဥ္စသင်္ဂဟော'' မင်္ဂလာတရားတော် ရှိသည်မဟုတ်လော-ဟုချေဆို၏၊ မထေရ်နှစ်ပါးတို့လည်း ငါတို့ဆိုသောစကားကိုမယူပါမူ ငါတို့နှင့်မပေါင်းမဘက်သင့်ပြီ၊ သံဃကံ သီးခြား လေတော့ဟု ဂိုဏ်းခွဲလေ၏၊ ထိုကစ၍နှစ်ဂိုဏ်းကွဲလေသည်။

## ဂိုဏ်း ၃-ဂိုဏ်း ကွဲခြင်း

ထိုနောက်ကာလရှည်လတ်သော် တာမလိန္ဒမထေရ်လည်း ဗဟုသုတဗျတ္တိဗလရှိသော တပည့်တို့ကိုချီးမြှောက်လို၍ မူးမတ်,သူဌေး, သူကြွယ်တို့အား ဤသူသည် ဗဟုသုတဗျတ္တိဗလရှိ၏၊ ပစ္စည်းလေးပါးပြည့်စုံမှ ပရိယတ်,ပဋိပတ်ကို ရွက်ဆောင်နိုင်မည်ဟု ပစ္စည်းနှင့်စပ်သော ဝစီဝိညတ်ကိုဖြစ်စေ၏၊ ထိုအကြောင်းကို သီဝလိမထေရ်ကြားသော်မြတ်စွာဘုရားသည် ဝစီဝိညတ်ဖြင့် ဖြစ်စေသောပစ္စည်းကို စက်ဆုပ်ရွံရှာတော်မူသည်၊ သို့ကိုလျက် သင်သည် ဝစီဝိညတ်ဖြင့်ပစ္စည်းကိုဖြစ်စေဘိသည်၊ သင့်အမူကား တရားနှင့်မလျော်ဟုမိန့်ဆို၏၊ မြတ်စွာ

ဘုရားသည် မိမိကိုယ်ဘို့ကိုသာရည်၍ ဝစီဝိညတ်ဖြင့်ဖြစ်စေသောပစ္စည်းကို စက်ဆုပ်ရွံရှာတော်မူသည်၊ ငါတမူကားကိုယ်ဘို့မဟုတ်၊ တပည့်များကိုရည်၍ ပရိယတ်,ပဋိပတ်ကိုဖြည့်စွမ်းနိုင်မည်၊ သာသနာတော်စည်ပင်ပြန့်ပွားမည်ဟုနှလုံးသွင်း၍ တိုက်တွန်းပေးသည်၊အပ်ပါ၏-ဟုချဆို၏၊ သီဝလိမထေရ်သည်လည်း သင်သည် ငါဆိုသောစကားကိုမယူ၊ အလိုရှိတိုင်းကျင့်လိုလျှင် ငါနှင့်မပေါင်းမဘက်လင့်တော့၊ သံဃကံသီးခြားလေ-ဟု ဂိုဏ်းခွဲလေ၏၊ ထိုကစ၍သုံးဂိုဏ်းကွဲလေသည်။

### ပုရိမသံဃာ နှင့် ပစ္ဆိမသံဃာ

ဤသို့လျှင် ပုဂံပြည်ဝယ် သုဝဏ္ဏဘူမိတိုင်း သုဓမ္မပုရမြို့မှလာ၍ သာသနာတော်ကို ရွက်ဆောင်ကုန်သော ရှင်အရဟံအနွယ် သံဃာလည်းတစု, သီဝလိမဟာထေရ်အနွယ် သံဃာလည်းတစု, တာမလိန္ဒအနွယ်သံဃာလည်းတစု, အာနန္ဒာအနွယ် သံဃာလည်းတစု၊ ဤ ၄-စုသောသံဃာတို့သည် အသီးအသီးဂိုဏ်းကွဲပြားလေကုန်၏၊ ထိုသံဃာတို့တွင် သုဓမ္မပုရမြို့မှ ရှေးဦးစွာလာသောကြောင့် ရှင်အရဟံအနွယ်သံဃာကို ပုရိမသံဃာ[၁]ဟုခေါ်ဆိုကြကုန်သည်၊ကျန် ၃-စုသံဃာကို သိဟိုဠ်ကျွန်းကနောက်မှလာသောကြောင့် ပစ္ဆိမသံဃာ[၂]ဟုခေါ်ဆိုကြကုန်သည်၊ရှင်သီဝလိ, ရှင်တာမလိန္ဒ နှစ်ပါးတို့သက်တော်ရှည်သမျှ သာသနာကိုသန့်ရှင်း ထွန်းလင်းစေ၏၊ ရှင်အာနန္ဒာကား ပုဂံပြည်တွင်ပင် ၅၄-နှစ်ပတ်လုံးသာသနာကိုသန့်ရှင်းထွန်းလင်းစေ၍ သက္ကရာဇ် ၅၉၆-ခုနှစ်မှ လွန်တော်မူ၏။

[ဤကား မြန်မာတိုင်းနိုင်ငံ၌ ရှင်ဆပ္ပဒစသောမထေရ်ငါးပါးတို့ကိုစွဲ၍ သက်ဆင်းသော ခြောက်ကြိမ်မြောက်သာသနာတော်ဆက်တည်း။]

### ၇-ကြိမ်မြောက်သာသနာတော်ဆက်

သက္ကရာဇ် ၇၀၀-ခုနှစ်တွင်ပုဂံနရပတိစည်သူမင်းကြီး၏သမီးတော်ကြောင်တော်သည်နှင့် အလောင်းစည်သူမင်းကြီး၏ မြစ်တော် အနန္တ

---

၁။ ပုရိမသံဃာ-ရှေးဦးသံဃာ။

၂။ ပစ္ဆိမသံဃာ-နောက်သံဃာ။

သူရိယကိုစုံဘက်ရာတွင် မြင်သောသားတော်မင်းသိဒ္ဓိကာကစ၍ ဘဲကြီးရတနာ,ဘဲငယ်ရတနာ, လမ္ဘူရန္တသူ, ပေါက်မြိုင်မင်းပလဲ,မြေနဲစောဒိဃာတိုင်အောင် နေနတ်နွယ်မျိုးဖြစ်သောပုဂံမင်းနွယ် မိုးညှင်းစိုးသောသတိုးမင်းဖျားမင်းတရားသည် ရတနာပုရရွှေဝမြို့ကြီး၌ မင်းအဖြစ်သို့ ရောက်တော်မူ၏၊''သိရီသုဓမ္မရာဇာဓိပတိ'' တံဆိပ်နာမံခံတော်မူ၏၊ ထိုမိုးညှင်း မင်းတရားလက်ထက် သက္ကရာဇ် ၇၉၁-ခုနှစ်တွင် လင်္ကာဒီပသိဿိုဠ်ကျွန်းက သိရီသဒ္ဓမ္မာလင်္ကာရ,သိရီသီဟဠမဟာသာမိအမည်တော်ရှိသော မထေရ်နှစ်ပါးသည် သရီရဓာတ်တော်ငါးဆူကိုပင့်ဆောင်တော်မူခဲ့၍ သဘော်နှင့်ပုသိမ်ဆိပ်သို့ ရောက်လာ၏။

တလိုင်းမင်း ဗညားရန်က ချုပ်ထားသော်လည်း နေတော်မမူ၍ သာယာစွာသော ဘောင်ပန်းလှေတက်နှင့် ပြည်မြို့တိုင်အောင် ဗညားရန်ကပို့လာရသည်၊ ထိုအကြောင်းကို ကြားတော်မူလျှင် လှော်ကားကြေ့ လှေ ၄၀-နှင့် ပြည်မြို့တိုင်အောင် ကြိုဆိုပင့်ဆောင်ရသည်၊ဆန်လာ၍ ရွာသစ်ကြီးသို့ရောက်လျှင် မိဖုရား,မောင်းမမိဿံ,မှူးတော် မတ်တော်အပေါင်းခြံရံလျက် ရွှေဘောင်တော်နှင့်ကြိုဆိုတော်မူ၏၊အဝသို့ဆိုက်ရောက်လျှင် ဆိုက်ရောက်ခြင်း မြေကြီးလျှင်ပဲ့တင်ထပ်မျှလှုပ်လေသည်၊သာသနာတော်ကိုချီးမြှောက်မည်ဟူ၍ သရီရဓာတ်တော်ငါးဆူကိုပင့်ဆောင်ရောက်လာသည့်အခိုက် မြေကြီးလျှင် ပဲ့တင်ထပ်မျှ နိမိတ်ပြသည့်အရာသည် သာသနာတော်ရှည်မြင့်စွာ ထွန်းလင်းစည်ပင်မည်-ဟု မင်းတရားကြီးကိုယ်တိုင်တော် နိမိတ်ဘတ်တော်မူသတည်း။

### သီဟိုဠ်နှင့်သိဿိုဠ်

သက္ကရာဇ် ၇၉၂-ခုနှစ်တွင် ထိုဓာတ်တော်ငါးဆူကိုဌာပနာသွင်း၍ စစ်ကိုင်းကြီးမြို့အနောက် သာယာလှစွာသော မြေအပြင်ဝယ် စေတီတည်ထားတော်မူ၏၊ ရတနာစေတီဟူ၍ သမုတ်တော်မူသည်၊ ဆင်ရုပ်အများရံသောကြောင့် ဆင်များရှင်ဟု ခေါ်ဝေါ်စလွယ်သောအမည်ဖြင့်ခေါ်ဝေါ်ကြ၏၊ ကြက်သရေသုံးတိုက်နှင့် ပြူတင်းပေါက်ခုနစ်ဆယ့်ရှစ်တံခါးထား၍ ဆောက်လုပ်သော ဥမင်ရွှေကျောင်းကိုလည်းသီဟိုဠ်ရောက်ကြီး,သီဟိုဠ်ရောက်ငယ် မထေရ်နှစ်ပါးအားတင်လှူတော်မူသည်၊

ထိုနောက် အရှင်သီဟိုဠ်ရောက်ကြီးသည် မိမိနေရာကျောင်းနှင့် မနီးမဝေးသောတောင်ထိပ်တွင် သိမ်သမုတ်တော်မူ၍၊ကိုယ့်တပည့်ရင်းကိုမျှ မသွင်းဘဲ လဇ္ဇီပေသလ ဗဟုသုတ သိက္ခာကာမဟုယုံကြည်သော မထေရ်သုံးပါးကိုသွင်း၍ ကိုယ်ပါသံဃာလေးပါးချည်းသာ သိမ်သမုတ်တော်မူသတည်း။

ဤသို့လျှင် သိမ်သမုတ်ခြင်း, ပိဋကကျမ်းဂန်ပို့ချခြင်း အစရှိသဖြင့် မြန်မာတိုင်းနိုင်ငံ၌ သာသနာတော်မြတ် စည်ပင်သန့်ရှင်းထွန်းလင်းအောင် သီဟိုဠ်ရောက်ကြီး, သီဟိုဠ်ရောက်ငယ် မထေရ်နှစ်ပါး ပြုစုတော်မူသည်ကိုရည်၍—

"အခြေရမြောက်၊ ကြွကြွထောက်လျက်၊ ပြန်ရောက်သိင်္ဃိုဠ်၊ ကျေးဇူးဟိုသည်၊ ပုဂ္ဂိုလ်မည်သီး၊ ထေရ်ဘုန်းကြီးဝယ်၊ မှီးခဲ့မလွတ်၊ ကြွင်းမဲ့တတ်သား၊ သူမြတ်တို့ထံ၊ ထုံးစံရမိ၊ အပြည့်ကိုလျက်၊ သု-စိ-ပု-ဘား၊ စကားလေးခွန်း၊ ကျိုးတန်းလက်သုံး၊ နှလုံးမူစွာ၊စာနာဝလွှေ၊ လွန်သိမ်မွေ့သော်၊တနေ့တပါး၊ တက်ပွားလေလေ"—

ဟု ရှေးသူဟောင်းတို့ဆိုကုန်သည်၊ ဤစကားတွင် သီဟိုဠ်ဘာသာ သိဃ်ဠကိုထောက်၍သိင်္ဃိုဠ်ဟု စပ်သည်၊ထိုစကား၌ ဟ-အက္ခရာမှတ်ပြန်အံ့စိုး၍ကျေးဇူးဟိုသည်ဟု ဒုတိယပိုဒ်ကိုစပ်ပြန်သည်၊ယခင်လက်ဦးစကား၌ ဂ-အက္ခရာမှတ်ပြန်အံ့စိုး၍ ပုဂ္ဂိုလ်မည်သီးဟု တတိယပိုဒ်ကို စပ်ပြန်သည်၊ လင်္ကာသုံးပိုဒ်အက္ခရာထပ်သော် ပုနရုတ္တိဒေါသမလွတ်၊ ထို့ကြောင့် သီဟိုဠ်ဘာသာသို့လိုက်လျှင် သိင်္ဃိုဠ်ဟု ရေးရမည်ကို တပ်အပ်ပြသည်၊ သီဟဠကား မာဂဓဘာသာ, သိဃ်ဠကား သီဟဠဘာသာ၊ထိုအကြောင်းကို ဘိုးတော်ဘုရား လက်ထက်တော်က သီဟိုဠ်ကရဟန်းများလာရောက်၍သိရသည်။

[ဤကား မြန်မာတိုင်းနိုင်ငံ၌ သိင်္ဃိုဠ်ရောက် မထေရ် ၂-ပါးကိုစွဲ၍ သက်ဆင်းသော ခုနစ်ကြိမ်မြောက် သာသနာတော်ဆက်တည်း။]

## ၈-ကြိမ်မြောက် သာသနာတော်ဆက်

ထူပါရုံဒါယကာ နရပတိကြီး မင်းမဖြစ်မီ ခမည်းတော်လက်ထက်ကသည် နောင်တော် မင်းရဲကျော်စွာလက်ထက်တိုင်အောင် ပြည်မြို့ကို

စားသည်၊ စောရန်နောင်ပြည်မြို့သို့ပင့်၍ ကိုးကွယ်သော တောင်ဘီလူး ပရက္ကမအန္ဒယ် ရှင်သာရဒဿီတပည့် ရှင်သဒ္ဓမ္မဇ္ဈိတိကို ဆရာပြုသည်၊ သက္ကရာဇ် ၇၀၄-ခုနှစ်တွင်မှ ပြည်ကဆန်၍ ရတနာပုရရွှေဝမြို့ကြီးကို မင်းပြုသည်၊သားတော်လတ် မင်းဆင်များကိုလည်း မင်းကြီးစွာအမည်နှင့် ပြည်မြို့ကို သနားတော်မူသည်။

၁။ တောင်ကိုဂူထွတ်တရုပ်မော်,

၂။ အနောက်ကိုဘိုးခေါင်,

၃။ အရှေ့ကိုကုန်းခေါင်,

၄။ မြောက်ကိုမလွန်, တောင်ခွင်ကျွန်းတော်—

သည်လေးရပ်အတွင်းတွင် လူဖွေးဖွေးကို ငါ့သားစိုးရင်စေ၊ ရှင်ချင်းချင်းကို ငါ့ဆရာစိုးရင်စေ-ဟု အမိန့်တော်နှင့် ဆရာတော်ရှင်သဒ္ဓမ္မဇ္ဈိတိကို သာသနာပိုင်အပ်တော်မူသည်၊ ရှင်သဒ္ဓမ္မဇ္ဈိတိကား ယခုပြည်မြို့မှ အရှေ့စူးစူး တာရှစ်ရာမျှလောက်, ရသေ့ပြည်တွင်းမှ အနောက်စူးစူး တာငါးရာမျှလောက်ကွာသော ကျောင်း၌နေ၏၊ ကျောင်းမဟာရံထဲတွင် နာဠာဂိရိကုန်း-ဟု အများသမုတ်သော အရပ်ရှိသတတ်၊ တနေ့သ၌ တယောက်ထည်းတည်း ထိုသခင်ပရိဝုဏ်ကိုတမြက် လှည်းသော် ထိုကုန်း၌ ရွှေဖျဉ်းကြီး တစောင်းပေါ်လေ၏၊ ထိုသခင်လည်း လူသူမြင်၍ မသင့်-ဟု တမြက်ချေးဖြင့် ဖုံးလွှမ်းလေ၏၊ ထိုခဏ၌ ထိုသခင်နှင့် ယောက်ဘတော်စပ်သောတောတွင်းသား ဆွမ်းထုပ်ပိုက်၍ လာသည်တွင် ဆွမ်းကိုကပ်စေပြီးမှသည်အမှိုက်ကိုပစ်ချေ-ဟု စေလိုက်၏၊ ထိုပစ်၍လာသည်ကို အဘယ်တွေ့သနည်းဟု မေး၍ မတွေ့ပါဆိုသော် ငါ့ကိုသာ လောဘရှိ, မရှိစမ်းလေသည်၊ ကိုယ်တို့မရထိုက်ချေ-ဟု ဆိုလေသော-ဟူ၏။

### အရှင်မဟာသာမိသီဟိုဠ်ကြွခြင်း

ရှင်သဒ္ဓမ္မဇ္ဈိတိတွင် ရှင်အရိယဝံသ, ရှင်မဟာသာမိ တပည့်နှစ်ပါးတို့သီဟိုဠ်သို့ကူး၍ သိက္ခာယူမည်တိုင်ပင်ကြ၏၊ သွားမည်ကာလနီးလျှင် ရှင်အရိယဝံသ မကျန်းမာ၍ ငါမလိုက်နိုင်ပြီ၊ ငါ့ရှင်သာကူးပါလေ၊ ထိုသို့ရောက်လျှင် ထိုကသိက္ခာမထပ်ခဲ့ပါနှင့်၊သိက္ခာတင်မည့်သံဃာကိုသာ ရအောင်ပင့်ဆောင်ခဲ့ပါ၊ သည်သို့ရောက်မှ အတူသိက္ခာထပ်ပါရ

စေ-ဟုကတိကဝတ်ဆိုလိုက်၏၊ ရှင်မဟာသာမိလည်း အဘော်သံဃာသုံးပါးနှင့် သီဟိုဠ်သို့ကူး၍ရောက်လေ၏၊ ထိုရောအခါ သီဟိုဠ်မင်းသားစွန့်၍ပစ်သော ပုဆိုးကို ရှင်မဟာသာမိ ပံသုကူကောက်၍ သင်္ကန်းချုပ်ဆိုးဝတ်ရာတွင် သီဟိုဠ်သားတို့က အစောင့်အရှောက် ရှိလျက်ကိုကောက်သင့်အံ့လော-ဟု ဆိုသောကြောင့် အစောင့်တို့ကား သင်းချိုင်းကိုသာစောင့်သည်၊ပုဆိုးကိုကား စွန့်လေပြီးသည်-ဟုဆို၍စွန့်ကြောင်း, မစွန့်ကြောင်းကို မင်းမှာမေးလေသော် ငါစွန့်လေပြီးသည်-ဟုဆို၏၊ ဤသို့ဝိနည်းဆုံးဖြတ်ရာ၌ သီဟိုဠ်မင်းအလွန်သဒ္ဓါ၍ ရှင်မဟာသာမိကို ပစ္စည်းလေးပါးဖြင့် လုပ်ကျွေး၏၊ရှင်မဟာသာမိလည်း ဤအရပ်တွင် ငါနေမည်ဟုမလာ၊သီဟိုဠ်သာသနာကို ယူမည်သာလာပါသည်-ဟု ဆိုသော် ယင်းသို့တပြီးကား သည်တွင်ယူတော်မူတော့-ဟူ၍ ဆို၏၊ ရှင်မဟာသာမိလည်း ငါနှင့်ယောက်ဘတော်စပ်သော ရှင်အရိယဝံသနှင့် ကတိကဝတ်ရှိချေသည်၊ ဇမ္ဗူဒိပ်မှာမှ ယူပါမည်၊ သိက္ခာပေးမည့် ဥပဇ္ဈာယ်နှင့် တကွ ဂိုဏ်းသံဃာကိုသာ ပေးပါ-ဟူ၍ ဆို၏။

### အရှင်သဒ္ဓမ္မစာရီဇမ္ဗူဒိပါသို့လိုက်လာခြင်း

သီဟိုဠ်မင်းက မေးမြန်းရှာဖွေလေသော် ရှေးကပင် ပုဂံက မြန်မာရဟန်း သီဟိုဠ်သို့ရောက်၍သီဟိုဠ်မင်းဆရာရှင်သာရိပုတ္တရာထံသိက္ခာတင်ယူနေထိုင်သော ရှင်သဒ္ဓမ္မစာရီကို တွေ့လေ၍ အရှင်သည် ဇမ္ဗူဒိပါသို့လိုက်တော်မူ၍ သာသနာတော်ကို ချီးမြှင့်တော်မူပါ-ဟု သီဟိုဠ်မင်းတောင်းပန်သော် ငါဗောဓိပင်ပျိုးသုံးဆယ်ကို နေ့တိုင်းရေသွန်း၍မွေးပါသည်၊ ပျက်ချေတော့မည်-ဟု ရှင်သဒ္ဓမ္မစာရီဆိုသည်ကိုသီဟိုဠ်မင်းက အကျွန်ုပ်လူခန့်ထား၍ မွေးပါစိမ့်မည်၊ လိုက်တော်မူပါ-ဟု တောင်းပန်မှပုဂ္ဂိုလ်သံဃာနှင့်တကွလိုက်လာတော်မူ၏၊ရှင်မဟာ သာမိလည်း သီဟိုဠ်သံဃာနှင့်တကွ လာလတ်၍ တရုပ်မော်သို့ရောက်လျှင် သီဟိုဠ်သို့ သိက္ခာယူသွားသည်၊မယူခဲ့-ဟု ပြည်သား ရဟန်းတို့ ကဲ့ရဲ့ချေတော့မည်ဟုကြံ၍ တရုပ်မော်တွင်ပင် ဥပုသ်နေ့ဥပုသ်မပြုမီသီဟိုဠ်သိက္ခာကိုယူလေသည်၊ ပြည်မြို့မှာလည်း ရှင်သဒ္ဓမ္မဇောတိလွန်၍ တပည့်ရှင်အရိယဝံသကို ပြည်ဘုရင်သတိုးမင်းစောက သာသနာပိုင် အပ်နှင်းလေသည်။

ရှင်မဟာသာမိရောက်၍ သိက္ခာယူခဲ့ကြောင်း, မယူခဲ့ကြောင်းကို ရှင်အရိယဝံသကမေးလျှင် သံဃာကိုဆောင်ခဲ့သည်၊ တရုပ်မော်မြို့သို့ ရောက်မှသိက္ခာယူစေသည်ဟုပြောဆိုသော် သည်သို့ရောက်မှသိက္ခာအ တူယူကြမည်ဆိုသည့် ကတိကဝတ်ကိုဖျက်လေသည်၊ငါသိက္ခာမယူပြီ-ဟု ရှင်အရိယဝံသဆို၍သိက္ခာမယူနေလေသည်။

ရှင်မဟာသာမိလည်း ယခုသူ့သာသနာပိုင်၍ သူ့အရပ်ဖြစ်လေ ပြီးသည်ကို သူ့အရပ်တွင် ငါမနေလို-ဟုမာန်မာနဖြင့် ခွဲလေသော ကြောင့် သတိုးမင်းစောက ဆင်ကျုံးကိုပြောင်း၍ ဆင်ကျုံးရာတွင် ကျောင်းဆောက်ပြီးလျှင် ရှင်မဟာသာမိကို တင်လှူသည်၊ သီဟိုဠ် ရှင် သဒ္ဓမ္မစာရီလည်း သူ့အရပ်ဖြစ်သည်၊ ငါမနေလိုဆိုသောကြောင့် ကန် ကိုဖို့၍ ကန်ရာတွင် ကျောင်းဆောက်ပြီးလျှင် ရှင်သဒ္ဓမ္မစာရီကိုတင်လှူ သည်၊ ကန်တွင်းကျောင်းဟု ယခုတွင်၏၊ သီဟိုဠ်ဆရာနှင့် ရှင်မဟာ သာမိထံ အရပ်ရှစ်မျက်နှာမှလာ၍ သိက္ခာယူကုန်သည်၊ စာပေသင် ကုန်သည်ကားများပြားစွာ၏၊ ပြည်တွင်ရှင်အရိယဝံသကား အရှေ့ သာသနာဝင် ရှင်မဟာသာမိကားအနောက်သာသနာဝင်-ဟူ၍ ဂိုဏ်း သီးဂိုဏ်းခြား နှစ်ပါးကွဲပြားလေသတည်း။

[ဤကား မြန်မာတိုင်းနိုင်ငံ၌ နောက်သီဟိုဠ်ရောက်ရှင်သဒ္ဓမ္မစာရီ,ရှင် မဟာသာမိ တို့ကိုစွဲ၍ သက်ဆင်းသောရှစ်ကြိမ်မြောက် သာသနာတော် ဆက်တည်း။]

### ၉-ကြိမ်မြောက်သာသနာတော်ဆက်

သက္ကရာဇ် ၇၇၂-ခုနှစ်တွင် ဇေယျာဝဓနတိုင်း ကေတုမတီတောင် ငူပြည်ကြီးကိုတည်၍ မဟာသိရီဇေယျာသူရ မင်းပြုတော်မူ၏၊ လကျ်ာ တယ်ဆင်တော်ဒေဝနာဂကို အရင်းတည်သဖြင့် တိုင်းကားနိုင်ငံချဲ့ထွင် တော်မူ၏၊ ထိုတောင်ငူဘုရင် မဟာသိရီဇေယျာသူလက်ထက် သက္ကရာဇ် ၈၉၂-ခုနှစ်၊ မဟာပရက္ကမ မည်သော သီဟိုဠ်ဘုန်းကြီးသည် သီဟိုဠ် ကျွန်းက သင်္ဘောဖြင့်ကူး၍ တောင်ငူမြို့သို့ကြွရောက်လာ၏၊ဘုရင်မဟာ သိရီဇေယျာသူရလည်း ကိုယ်တိုင်ပင်တည်သော ဒွါရာဝတီမြို့တောင်၌ သာယာလှစွာသော ကျောင်းကြီးဆောက်လုပ်၍ တင်လှူတော်မူ၏၊နိစ္စ ဗဒ် ဆွမ်းပန်း လှူဒါန်းလုပ်ကျွေးတော်မူ၏၊ ထိုကျောင်းအာရာမ်တွင်

သိမ်သမုတ်၍ ထိုသိမ်၌ကိုယ်တော်လေးကြေးစင်ကို ဘုရားရုပ်ထုသွန်း၍ ထားတော်မူ၏၊မဟာသိဿိုဠ်ရောက်ကြီးဟူ၍ကျော်စောထင်ရှား၏။

**သေရည်သေရက်အပြင်းအခုံ**

ထိုမင်းလက်ထက် တောင်ငူမြို့တွင် သေရည်သေရက်စကားအငြင်းအခုံဝိဝါဒဖြစ်ကြ၏၊ ဖြစ်ဟန်ကား–

ဗီဇတောပဋ္ဌာယာတိ သမ္ဘာရေ ပဋိယာဒေတွာ စာဋိယံ ပက္ခိတ္တကာလတော ပဋ္ဌာယစ၊တာလနာဠိကေရာဒီနံပုပ္ဖရသော ပုပ္ဖတော ဂဠိတာဘိနဝကာလတော ပဋ္ဌာယ စ နပါတဗ္ဗံ။

ဟူသောကင်္ခါဝိတရဏီဋီကာ,တေရသကဏ်ဋီကာ,ဝိနယဝိနိစ္ဆယဋီကာ,မူလသိက္ခာဋီကာ၊ ဤဋီကာလေးစောင်၌ အနက်ပေးမသင့်၍ အမိပ္ပါယ်ချွတ်ယွင်းသဖြင့် ထန်း,အုန်းအစရှိသည်တို့၏ အရည်ကိုယိုသစ်စကပင် မသောက်အပ်-ဟူ၍ အချို့ဆရာတို့လည်းဆိုကုန်သည်။

ယခင်ဋီကာ ၄-စောင်၌ အနက်သင့်အောင်ပေး၍အမိပ္ပါယ်မချွတ်မယွင်းသဖြင့် ထန်း,- အုန်းအစရှိသည်တို့၏အရည်ကို ယိုသစ်စသော်သောက်အပ်၏-ဟူ၍ အချို့ဆရာတို့လည်းဆိုကုန်သည်။

မသောက်အပ်ဆိုသောဆရာတို့ပေးသော အနက်ကား–

ဗီဇတောပဋ္ဌာယာတိတွေ၊ ဗီဇတောပဋ္ဌာယ-ဟူသော ဤပုဒ်၌။ သမ္ဘာရေ၊ အဆောက်အဦတို့ကို။ ပဋိယာဒေတွာ၊ စီရင်၍။ စာဋိယံ၊ အိုးခွက်၌။ ပက္ခိတ္တကာလတော၊ ထည့်သောအခါမှ၊ ပဋ္ဌာယ၊ စ၍။ နပါတဗ္ဗံ၊ မသောက်အပ်။ တာလနာဠိကေရာဒီနံ၊ ထန်း,အုန်းစသည်တို့၏။ ပုပ္ဖရသောစ၊ အပွင့်ရည်ကိုလည်း။ ဂဠိတာဘိနဝကာလတော၊ယိုသစ်စကာလကပင်။ နပါတဗ္ဗံ၊ မအောက်အပ်။ ဣတိ၊ ဤသည်ကား။ အတွေ့အနက်တည်း။

ဤသို့အနက်ပေး၍ မသောက်အပ်ဟု ဆိုကုန်သည်။

သောက်အပ်၏-ဆိုသောဆရာတို့အနက်ကား–

ဗီဇတော ပဋ္ဌာယာတိတွေ၊ ဗီဇတောပဋ္ဌာယ ဟူသော ဤပုဒ်၌။ သမ္ဘာရေ၊ အဆောက်အဦတို့ကို။ ပဋိယာဒေတွာ၊

စီရင်၍။ စာငိုယံ၊ အိုးခွက်၌။ ပက္ကိတ္တကာလတော၊ ထည့်သော အခါမှ။ ပဋ္ဌာယ၊ စ၍။ နပါတဗ္ဗံ၊ မသောက်အပ်။ တာလနာဠိ ကေရာဒီနံ၊ထန်း,အုန်း စသည်တို့၏။ သမ္ဘာရေဟိ၊ အဆောက် အဦတို့ဖြင့်။ ပဋိယာဒိတော၊ စီရင်အပ်သော။ ပုပ္ဖရသော၊ အပွင့်ရည်ကိုလည်း။ ပုပ္ဖတော၊ အပွင့်မှ။ ဂဠိတာဘိနဝ ကာလ တော၊ ယိုသစ်စကာလကပင်။ နပါတဗ္ဗံ၊ မသောက်အပ်။ဣတိ၊ ဤသည်ကား။ အတ္ထော၊အနက်တည်း။

ဤသို့ ပုဒ်ကိုလိုက်စေသဖြင့် အနက်ပေး၍ သောက်အပ်၏ဟုဆိုကုန် သည်၊ဥပလက္ခဏနည်းဖြင့် အပွင့်ကိုအမှတ်ပြု၍ ဆိုသည်၊ အသီးစသည် ကိုလည်း ယူလေ။

ဤသို့ ထန်းရည်,အုန်းရည် အစရှိသည်ကို ယိုသစ်စကပင်သောက် အပ်,မသောက်အပ် အငြင်းအခုံဝိဝါဒ ဖြစ်ကြသည်ကို သောက်အပ် ကြောင်းနှင့် သီဟိုဠ်ရောက်ကြီးအရှင် မဟာပရက္ကမ ဆုံးဖြတ်စီရင် သည်၊သုရာဝိနိစ္ဆယဟူ၍လည်း ကျမ်းပြုစုထားခဲ့၏၊ကေတုမတီ[၁]မြို့တည် မင်းကြီးညို ဘုရင်မဟာသိရိဇေယျသူရကိုအမှီပြု၍ သာသနာတော်ကို သုတ်သင်သန့်ရှင်းထွန်းလင်းစေ၏။

[ဤကား မြန်မာတိုင်းနိုင်ငံ၌ တောင်ငူသီဟိုဠ်ရောက်ကြီးမထေရ်ကိုစွဲ၍ သက်ဆင်းသော ကိုးကြိမ်မြောက် သာသနာတော်ဆက်တည်း။]

မြန်မာနိုင်ငံတော်၌ သာသနာတော် သက်ဆင်းပုံအကြောင်း ပြီး၏။

---

## ၁၈-ဘုရားရှင် ဝါတော် ၂၀-ကျော်ကပင် မြန်မာနိုင်ငံသို့ ကြွတော်မူခြင်းအကြောင်း

ဤသို့လျှင် ယခင်စကားအစဉ်အားဖြင့် ဆိုခဲ့ပြီးသော မြန်မာတိုင်း နိုင်ငံ၌ ၉-ပါး, ၁၁-ပါးသော အစွန့်အကြောင်းအားဖြင့် သက်ဆင်း သော သာသနာဝင် ဆရာစဉ်ဆက်တွင် ရှာန်, အဘိညာဉ် မဂ်ဖိုလ် ရသော သီလဝန်, ဂုဏဝန်ဆရာစဉ်ဆက်ဖြင့်လည်း ယခုထက်တိုင် မြို့မြို့

---

၁။ ကေတုမတီ=တောင်ငူ(အတူတူ)

တည်ကြည်စွာ သာသနာတော်မြတ် စည်ပင်သန့်ရှင်း ထွန်းလင်း၏၊ ဘုရားသခင်ကိုယ်တော် ထင်ရှားရှိတော်မူစဉ် ဝါတော် ၂၀–ကျော် ကပင် စူဠပုဏ္ဏ,မဟာပုဏ္ဏ ညီနောင်နှစ်ပါးတို့ ပင့်ဘိတ်သဖြင့် လက် လေးသစ်ခန့်ပင် အဘိုးတသိန်း ထိုက်သော စန္ဒကူးနီ တန်ဆောင်း ကျောင်းတော်ကိုအလှူခံ၍ ၇–ရက်ပတ်လုံး သီတင်းသုံးတော်မူသည့်အ ခိုက် စည်းဝေးလာသော လူ,နတ်,ဗြဟ္မာတို့အား တရားအမြိုက် တိုက် ကျွေးတော်မူသည်။

၇–ရက်တွင် တရက် တရက်၌ ရှစ်သောင်း,လေးထောင်စီသော သတ္တဝါတို့ အကျွတ်တတန် သောတာပန်စသော အရိယာဖြစ်ကြ၏၊ ပစ္စန္တရာဇ်မှာ ဘုရားတို့ အရှုဏ်ခံမြေမဟုတ်သောကြောင့် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်မှာ ၇-ရက်အတွင်း အရှုဏ်ခံတော်မူသတည်း။ ပြာသာဒ်ညင်သာ ယဉ်ငါးရာဖြင့် ကြွလာတော်မူသောခရီးအကြားတွင် သစ္စဗန္ဓ တောင်၌နေသော သစ္စဗန်ရသေ့ကိုလည်း ချွေချွတ်တော်မူ၍ ဆဠာဘိညရဟန္တာအဖြစ်သို့ ရောက်စေတော်မူ၏၊ ဝါဏိဇ္ဇဂါမရွာ ဣသိဒိန္နသူဌေးသား စသောထင်ရှားသသူတို့ကိုလည်း တရားအမြိုက် ရည်တိုက်ကျွေးတော်မူ၏၊ ဤသို့လျှင်စူဠပုဏ္ဏ, မဟာပုဏ္ဏ,သစ္စဗန္ဓ, ဣသိဒိန္နအစရှိသော ၇-ရက်အတွင်း မဂ်,ဖိုလ် ရလေသော အရိယာ အပေါင်းကား ငါတို့မြန်မာနိုင်ငံ၌ ဘုရားသခင် လက်ထက်တော်က လက်ဦးမဆွ အရိယာအပေါင်းတည်း။

မိလိန္ဒပဥှာတွင် ရှစ်သောင်းလေးထောင်အကျွတ်တရားရသော ပရိ သတ်အစုကိုရေတွက်ရာ၌လည်း- "သုနာပရန္တသမာဂမေ စတုရာသီ တိယာပါဏာသဟဿာနံဓမ္မာဘိသမယော အဟောသိ"ဟူ၍ဆိုသည်၊ ဘုရားပရိနိဗ္ဗာန်စံတော်မူသည့်နောက် ၂၃၅–နှစ် ရောက်သောအခါ တတိယသင်္ဂါယနာတင်ပြီးသည့်အဆုံးတွင် အရှင် မောဂ္ဂလိပုတ္တတိဿ က တပည့်တော်ရင်းယောနကဓမ္မရက္ခိတမထေရ်ကို နောက်ပါသံဃာ တော်လေးပါးနှင့်တကွ ပဉ္စဝဂ္ဂ[1]သံဃာမြောက်၍ဥပသမ္ပဒကံ[2]လောက်

---

၁။ ပဉ္စဝဂ္ဂ-ငါးပါးအပေါင်း။

၂။ ဥပသမ္ပဒကံ-ပဉ္စင်းပြုသောကံ။

အောင် အပရန္တတိုင်းသို့ သာသာနာပြုစေတော်မူသော် အဂ္ဂိက္ခန္ဓော ပမသုတ္တန်ဒေသနာဖြင့် ထိုတိုင်းသူတိုင်းသားတို့ကို သာသနာ၌ကြည်ညို စေတော်မူ၏၊ ခုနစ်သောင်းမျှသော သူတို့ကို မဂ်ဖိုလ်တရားအမြိုက် တိုက်ကျွေးတော်မူ၏။

[ဤကား သာသနာ ၂၃၅–နှစ် ရှိသော အခါ သာသနာပြုမထေရ်တို့လက်ထက် မဂ်ဖိုလ်ရလေသော အရိယာအပေါင်းတည်း။]

ဘုရားရှင် ဝါတော် ၂၀–ကျော်ကပင်မြန်မာနိုင်ငံသို့ ကြွတော်မူခြင်းအကြောင်းပြီး၏။

---

## ၁၉–မျက်စိ ၃-လုံးရှိသောဒွတ္တပေါင်မင်း အကြောင်း

သာသနာ သက္ကရာဇ် ၁၀၁-နှစ်ရှိသောအခါ ရသေ့, သိကြား, နဂါး, ဂဠုန်, ကုမ္ဘဏ်, စန္ဒီ, ပရမီသွာရ၊ ဤသူမြတ် ခုနစ်ယောက် တည်သော သရေ ခေတ္တရာမည်သော ရသေ့ပြည်တွင်း၌ မင်းပြုသော မျက်စိသုံးခု အတုမဲ့ခေါင် ဒွတ္တပေါင်မင်းကြီးလက်ထက် ထိုတိုင်း ထိုပြည်တွင် ဘုရားရှင် တပည့်တော်ရဟန္တာမြတ် သုံးထောင်ရှိ၏၊ ထို ရဟန္တာမြတ်တို့အား နေ့စဉ်မပြတ် ပစ္စည်းလေးပါး ထောက်ပံ့ လှူဒါန်းတော်မူ၏၊ ဘုရားရှင်ဓာတ်တော် ၆-ဆူကို တဆူစီ ဌာပနာ သွင်း၍ ''ညည်းညည်း,စည်းစည်း, ပေါပေါ,လျောလျော,မြသီတင်း, သောကြမာ''ဟု စေတီခြောက်ဆူတည်တော်မူ၏၊ လက်ရုံးတော်ဓာတ် ကို ဌာပနာသော''မြင်ဗာဟု''နှင့်သော် ခုနစ်ဆူတည်း၊သင်းကျစ်တော် ဓာတ်ကို ကမ်းယံပြည်ကယူဆောင်၍ စေတီတည်သည်ကား မပြီးခင် လေ၊ နော်ရထာမင်းစောလက်ထက်တွင်မှ ပုဂံရွှေစည်းခုံမှာ ဌာပနာ သည်။

သာသနာ သက္ကရာဇ် ၄၃၃-နှစ် ရှိသောအခါ ကြက်ခေါင်းစား တေပါးမင်းဖြစ်တော်မူ၏၊ ထိုမင်းလက်ထက် ထိုတိုင်း ထိုပြည်တွင် ရဟန္တာမြတ်ငါးရာရှိ၏၊ ထိုရဟန္တာမြတ် ငါးရာတို့အား နေ့စဉ်မပြတ်

ပစ္စည်းလေးပါး¹ထောက်ပံ့လှူဒါန်းတော်မူ၏၊ သောတာပန်, သကဒါဂါမ်,အနာဂါမ် အရိယာတို့ကား အရေအတွက်မရှိများပြားစွာ၏၊ ဤကားရသေ့ပြည်တွင်း၌နောက်ကာလအဆင့်ဆင့်ဖြစ်ပွားသော အရိယာအပေါင်းတည်း၊ဆရာစဉ်စာတမ်းတစောင်တွင်သရေခေတ္တရာရသေ့ပြည်တွင်းကို သာသနာပြုစေရာ ကိုးတိုင်းကိုး႒ာနအနက် ဝနဝါသီတိုင်းဖြစ်ကြောင်းနှင့်ဆိုလေသည်၊ ထောက်ထားရန်ကျမ်းဂန်မရှိ၊ ''ဝနဝါသိန္တိ ဝနဝါသိရဋ္ဌံ''ဋီကာဖွင့်သည်နှင့်အညီ ဝနဝါသီမည်သော တိုင်းအသီးပင်-ဟု ယူမှသင့်မြတ်သည်။

မျက်စိသုံးလုံးရှိသော ဒွတ္တပေါင်မင်းအကြောင်းပြီး၏။

---

## ၂၀။ ဟိမဝန္တာ ဂန္ဓမာဒနတောင်မှကြွလာသော ရဟန္တာများအကြောင်း

သာသနာ ၁၆၀၁-ခုနှစ်၊ သက္ကရာဇ် ၄၁၉-ခုနှစ်၊ နော်ရထာမင်းစော သထုံကို အောင်မြင်၍ သာသနာကို ပုဂံသို့ဆောင်ခဲ့သည့်ကာလ သထုံက ရဟန္တာပင် တထောင် မြောက်စင် ပုဂံသို့ပါ၏-ဟု ပရိတ္တာနိဒါန်းတွင်ဆိုသည်၊ သောတာပန်, သကဒါဂါမ်, အနာဂါမ် အရိယာတို့ကားအရေအတွက်မရှိ များပြားစွာသတည်း၊ကျန်စစ်သားမည်သော ထီးလှိုင်ရှင်မင်းကြီးလက်ထက် ဟိမဝန္တာ ဂန္ဓမာဒနတောင်က ရဟန္တာရှစ်ပါးတို့ နန်းတော်မှာ ဆွမ်းရပ်လာ၏၊ မင်းကြီးလည်း သပိတ်ကိုယူ၍ဆွမ်းလုပ်ကျွေးတော်မူပြီးလျှင် အဘယ်အရပ်ကကြွတော်မူလာသနည်း-ဟု မေး၍ ဟိမဝန္တာ ဂန္ဓမာဒနတောင်မှ ကြွလာကြောင်းကို မိန့်တော်မူ၏၊ မင်းကြီးလည်း အလွန်သဒ္ဓါတော်မူ၍ ဝါတွင်း ၃-လပတ်လုံး ဝါဆိုတော်မူပါမည့် အကြောင်းကို တောင်းပန်၍ ဝါဆိုကျောင်း ဆောက်လုပ် လှူဒါန်းတော်မူ၏၊ ဝါတွင်း ၃-လပတ်လုံး နန်းတော်မှာ မပြတ်ဆွမ်းလုပ်ကျွေးတော်မူ၏။

တရံရောအခါ ရဟန္တာမြတ်တို့အား ဂန္ဓမာဒနတောင်တွင် နန္ဒမူလလိုဏ်ကဲ့သို့ သဏ္ဌာန်တူစွာ တန်ခိုးဖြင့်ပြတော်မူပါ-ဟူ၍တောင်းပန်

---

၁။ ပစ္စည်းလေးပါး-ဆွမ်း, သင်္ကန်း,ကျောင်း, ဆေး။

တော်မူ၏၊ ရဟန္တာမြတ်တို့လည်း နန္ဒမူလလိုဏ်နှင့်တူစွာ တန်ခိုးဖြင့် ပြတော်မူပေ၏၊ မင်းကြီးလည်း နန္ဒမူလလိုဏ်သဏ္ဍာန်ဂူကြီးစွာတည် တော်မူ၍ နန္ဒဂူဟူသော အမည်ကိုသမုတ်တော်မူ၏၊ ဤသို့လျှင် ထီး လှိုင်ရှင်မင်းကြီးလက်ထက် ဟိမဝန္တာဂန္ဓမာဒနတောင် နန္ဒမူလလိုဏ် ကရဟန္တာတို့ကြွတော်မူလာ၍ ရဟန္တာများ ထင်ရှားရှိသည်၊ ထို ရဟန္တာများလက်ထက် ရေးထားခဲ့သော စည်းကွင်းစည်းပုံများတွင် အက္ခရာလိပ်စာများ ပုဒ်ပါဌ်သေချာသည်၊ တေမိဇာတ်တွင် သူယုတ် ဟော-ကာလကဏ္ဏီရှိသည်ကို ကာလကဏ္ဏီသာ ရှိလိုသည်ဟု ပင်းယ စတုရင်္ဂဗလအမတ် အဘိဓာန်ဋီကာတွင်ပြင်လေသည်၊ ထိုဋီကာသို့ လိုက်၍ စစ်ကိုင်း ရှင်အရိယဝံသလည်းပြင်ဘိသည်၊ ရဟန္တာတို့ လက် ထက် ပုဒ်ပါဌ်နှင့်မညီလေ။

အာဋ္ဌာနာဋိယသုတ် အဋ္ဌကထာ, ဝိနည်းအဋ္ဌကထာများတွင် ''အ ဋ္ဌဝီသယက္ခသေနာပတိ''အရသရုပ်ကို ယခုစာပေရှာဖွေမတွေ့၊ သုတ် ကိုယ်တွင်လည်း ယက္ခသေနာပတိ အမည်သုံးဆယ်ကျော် ရောနှော လျက်လာရှိလေသည်၊ ဝိနည်းဋီကာကိုစီရင်သော တောင်ဘီလာဆရာ တော်လည်း မဘော်မဖွင့်နိုင်ရှိသည်ကို နန္ဒဂူစည်းကွင်း စည်းပုံတွင် ရဟန္တာတို့လက်ထက်ဘော်ပြရေးသားခဲ့၍ သံသယမရှိမှတ်ရပေသည့် အရာလည်း ထိုကာလရဟန္တာမြတ်တို့ ကျေးဇူးတော်ပေတည်း။

ဤသို့ဆိုခဲ့ပြီးသည်ကား အပေါင်းအစုများစွာဖြစ်သော ရဟန္တာ အရိယာတို့ကိုဆိုခြင်းတည်း၊ ထိုမှနောက် ကာလရှည်လျားလတ်သော် ယခင်ကဲ့သို့အပေါင်းအစုများစွာမဖြစ်ပြီ၊ ပါရမီသမ္ဘာ[၁]ရင့်မာ သသူတို့ သာ ထိုမှဤမှ တစုံတယောက်ဖြစ်ကြသည်၊ ချာန်, မဂ်, ဖိုလ်ကိုမရဘဲ မဟုတ်မမှန်ပြောဆိုသော်ပါရာဇိကအာပတ်သင့်စေ၍ ဟုတ်မှန်တိုင်းပင် လူသာမဏေတို့အားပြောဆိုသော် ပါစိတ်အာပတ်သင့်စေ-ဟုဝိနည်း ပညတ်တော်ရှိသောကြောင့် ချာန်,မဂ်,ဖိုလ် ရသသူတို့လည်း အလိုရှိ တိုင်းမပြောမဆိုသာ၊ ဝါသနာနှင့်တကွ ကိလေသာကိုမပယ်နိုင်၊ ဝါသ နာကြွင်းကျန်သေးသောကြောင့် ဝါသနာအလျောက် ပုထုဇဉ်အမူအ ရာပင်ရှိသည်ဖြစ်၍ရဟန္တာအရိယာအဖြစ်ကိုလည်း သိနိုင်ခဲလှသည်။

---

၁။ ပါရမီသမ္ဘာ-ဖြည့်ဆည်းပူးအပ်သောအဆောက်အဦ။

ရှင်ပိလိန္ဒဝစ္ဆရဟန္တာသည် ပုဏ္ဏားဘဝကဖြစ်လာ၍ မာန်မာန ပြင်းထန်လှသော ဝါသနာပါသဖြင့်လူမြင်တိုင်းကို ငါ့,နှင်,သင်ပြော ဆိုတတ်ရကား လှည်းနှင့်ပိတ်ချင်းသီးတိုက်၍လာသော ယောကျ်ား အား''ဟယ်ငဆသား•• အဘယ်တိုက်ခဲ့သနည်း''ဟု မေးသည်ကိုလှည်း သမား အမျက်ထွက်၍ ကြွက်ချေး တိုက်ခဲ့သည်ဟု ပြောဆိုမိလေလျှင် ပိတ်ချင်းသီးအားလုံးကြွက်ချေးဖြစ်လေ၏၊ ကန်တော့ရာတွင်မှပိတ်ချင်း သီးဖြစ်မြဲဖြစ်ပြန်သည်ဟု ဝါသနာပါကြောင်းကို ကျမ်းဂန်ဆိုသည်။

ဤသို့ဝါသနာအလိုက် ရဟန္တာအရိယာဖြစ်အောင်ပင် ပုထုဇဉ် အမှုအရာပါခဲ့ရကား ရဟန္တာအရိယာ အဖြစ်ကိုသိခက်လှသည်၊ ထို့ ကြောင့်အရှင်မဟာကဿပသည် အလုပ်အကျွေး တယောက်နှင့်သာ တောကျောင်းနေတော်မူသောအခါ ရွာသို့ဆွမ်းခံဝင်သော ခရီးတွင် သပိတ်,ကရားကိုင်၍ နောက်တော်ဝယ် လိုက်သော အလုပ်အကျွေးက ဤလောကတွင် ရဟန္တာ,ရဟန္တာဟူ၍ကျော်စောသည်ကို ကြားသာ ကြားရသည်၊ တကြိမ်တခါမျှအထင်အရှား မဖူးမတွေ့ပါရ-ဆိုသည်ကို ကြားတော်မူလျှင် နောက်သို့လှည့်တော်မူတည့်၍ အိုယောကျ်ား••••သ ပိတ်,ကရားကိုင်၍ ရဟန္တာနောက်က အစဉ်တစိုက် လိုက်ပါလျက် ရဟန္တာ အဖြစ်ကို မသိရှာလေဟု အရှင်မဟာကဿပမိန့်တော်မူဘူး ကြောင်းကိုကျမ်းဂန်လာသည်။

ဂန္ထမာဒနတောင်မှကြွလာသောရဟန္တာများအကြောင်းပြီး၏။

---

## ၂၁—ငစွယ်ရှင်,ပေါင်လောင်ရှင်,ရှင်သုမေဓာ တို့အကြောင်း

### ငစွယ်ရှင်သိင်္ဟိုဠ်ကျူးရန်ကြံစည်ခြင်း

ပုဂံပြည်တွင် ငစွယ်ရှင် ပံသုကူကြီး, ပေါင်လောင် ရှင်ကဿပ, ရှင်သုမေဓာတို့ကိုလည်း ရဟန္တာအရိယာ-ဟူ၍သမုတ်ကြ၏၊ နရပတိ စည်သူမင်းကြီး တူးရွှင်းတောင်သို့တက်၍ပြန်သောအခါ ခရီးအကြား ချောင်းတွင် ပဗ္ဗမြားရောင် တောက်သည်ကိုမြင်၍ ဤအရပ်မှာငါ့ကို ကောင်းမှု ပြုစေလိုသည့် အတွေးအထင်နှင့် စေတီတည်မည်-ဟု ထို

ချောင်းကို ပြည်သူအပေါင်းတို့ဖို့ရ၏၊ ထိုရောအခါ ပံသုကူငွေယံရှင် မထေရ်သည် ဤသို့မိန့်တော်မူ၏၊ မင်းကြီးကောင်းမှု ဖြစ်စိမ့်မည်-ဟူ၍ ယခုပြုသောအမှုသည်ကောင်းမှုကားမဖြစ်၊မကောင်းမှုသာဖြစ်သည်ဟု မိန့်တော်မူ၍မင်းကြီးလှူသောဆွမ်းကိုမခံဘဲနေလေ၏၊ နရပတိစည်သူ မင်းကြီးလည်း ဘုန်းတော်ကြီးငါ့ဆွမ်းကို ဘုဉ်းပေးတော်မမူသော် ငါ့ ပြည်တွင်နေတော်မမူသည်ဖြစ်မှ လွတ်တော်မူမည်၊ ပြည်သူတို့လှူသော ဆွမ်းလည်း ငါ့ဆွမ်းမဟုတ်တုံလောဟုမိန့်တော်မူ၏။

ပံသုကူ ငွေယံရှင်လည်း ဤသို့ မင်းကြီးဆိုလေတပြီးကား သိင်္ဃိုဠ်ကျွန်းသို့ ကူးတော့မည်ဟုအကြံရှိ၍ငွေယံကြို တောဝယ်နေလေ၏၊ထိုရော အခါ မထေရ်ကြွလေသည်ကိုသိ၍ သရပါတံခါးစောင့် ဘီလူးသည် မင်းကြီးထွက်သောအခါ မရှောင်မလွှဲဘဲ တံခါးထက်က ကားရားရပ် လျက်နေဘိ၏၊ သမားဟူးရားတို့ကို ဆေးဝါး,မန္တရားအထွေထွေပြုစေ သော်လည်း ဘီလူးမရှောင်မလွှဲလေ၊ ထိုအကြောင်းကိုဟူးရားဖြူ, ဟူး ရားညိုတို့အား မေးတော်မူသည်တွင် ငွေယံရှင် ပံသုကူမထေရ်ကိုမသင့် မတင့်မချေမငံ မိန့်ဆိုတော်မူ၍ ဘီလူးမရှောင်မလွှဲဘဲ နေချေသည်-ဟု လျှောက်ကြသော် အမတ်တို့ကို စေ၍ အကြိမ်ကြိမ် ပင့်ရလေ၏၊မထေရ် လည်းလာတော်မမူ၊ သိင်္ဃိုဠ်သို့ကူးမည်-ဟု ကြွတော်မူလေ၏၊ ထို အကြောင်းကို မင်းကြီးကြားလျှင် အမတ်တုရင်ပစ္စည်းကို ပါအောင် ပင့်ချေ-ဟု စေတော်မူ၏။

### အမတ်တုရင်ပစ္စည်းပင့်၍ပြန်ကြွလာခြင်း

တုရင်ပစ္စည်းသည်လည်း အကြားအမြင်နှင့် ပြည့်စုံသူ ဖြစ်၍ ဘုရားရှင် ရုပ်တုတော်ရွှေဆင်းတု တဆူကို ရွှေလှေ ဒွါရတွင် တင်၍ ဆောင်လေ၏၊ သတော်ဆိပ်သို့ကြွတော်မူသောခရီးတွင် မထေရ်ကို တွေ့လေလျှင် ဘုရားရှင် ဤအရပ်သို့ရောက်တော်မူသည်၊ပံသုကူမထေရ် လာစေသတည်း-ဟု လျှောက်၏၊ မထေရ်လည်း ဘုရားရှင်အမိန့်တော် ဟူသော အာဏာကို မဆန်အပ်သည်ဖြစ်၍ လိုက်တော်မူလာ၏၊ လှေထက်သို့ မထေရ်တက်တော်မူပြီးလျှင် ဘုရားရှင်ကို ဝတ်ဖြည့်လေ၏၊ ထိုသို့ဝတ်ဖြည့်သောအခိုက်တွင် မထေရ်နှင့် တကွ လှေတော်ဒွါရကို အပြွင်းလှော်၍ ဆန်လေ၏၊ တုရင်ပစ္စည်းလည်း သာသနာတော်ကို

ချီးမြှောက်တော်မူပါ-ဟုအထူးထူးတောင်းပန်၍၊မင်းကြီးလည်းအမတ် အပေါင်းခြံရံလျက် ခရီးဦးကြိုဆိုနှင့်၏၊ လှေတော်ဒွါရထက်က မထေရ် လက်တော်ကိုမ၍ နန်းတော်သို့ဆောင်လေ၏။

သရပါတံခါးသို့ရောက်လျှင်ဘီလူးသည် တံခါးမှဆင်း၍သခင်မြတ် ကို ဦးချနှင့်၏၊ နန်းတော်သို့ရောက်လျှင် မင်းကြီးလက်တော်နှင့် ဆွမ်း ကိုပြင်၍ လုပ်ကျွေးတော်မူ၏၊ ယနေ့မှစ၍ အရှင်မြတ်အဆုံးအမတော် ကို ခံပါတော့မည်-ဟူ၍လျှောက်ပြီးသည့်အဆုံး၌ဇေယျသူရ,ရာဇသိန်, ရာဇသူ, ကင်္ဂသူ,ပုံချီ-ဟူသော သားတော်ငါးပါးတို့ကို လှူတော်မူလေ ၏၊ မင်းသား ငါးယောက်တို့လည်း သခင်မြတ်နှင့် အတူလိုက်ကြ လေ၏၊ သခင်မြတ်သည် ခရီးလမ်းသို့ ရောက်တော်မူလျှင် မြေတွင် ဝန်း၀န်းငါးကွက်သား၍ မင်းသားတို့ကိုပြုပြီးသော် ပြန်စေ၏၊ သား တော်တို့ပြန်၍ ထိုအကြောင်းကို မင်းကြီးအား လျှောက်ထားကြလျှင် ငါ့သားတို့ကို ကောင်းမှုပြုစေလိုသည်-ဟု သားတော်တို့ကိုယ်လေးရွှေ ကို ချိန်ပြီးသော် ထိုရွှေကိုကံကျွေးပြု၍ ဘုရားသခင်လက်ထက်တော် ပသေနဒီကောသလ မင်းကြီးပြုသော စန္ဒကူးသရက္ခန်ဆင်းတုတော် နှင့်အမျှ—

၁။ စကြိုဘုရားလှ,

၂။ မြေဘုံသာဘုရားလှ,

၃။ ကန်စွန်းတောင်ဘုရားလှ,

၄။ သိကြားတောင်ဘုရားလှ။

၅။ ချောက်ဘုရားလှ။

ဤသို့ဘုရားငါးဆူကိုသိကြားမင်းကြပ်မ၍တည်တော်မူ၏၊ ဤဘုရား ငါးဆူကိုနရပတေ့လုပ်သောအခါ သိကြားမင်းလက်တော်နှင့် ကိုင်၍ ခံသည်ချည်းတည်း။

### ငွေယံရှင် တွင်ခြင်းအကြောင်း

ထိုမထေရ် ငွေယံရှင် တွင်သောအကြောင်းကား— သခင်မြတ် သည် ကထိန်သင်္ကန်းကိုမခံ၊ တစပြင်၌ သူကောင်လွှမ်းသော ပုဆိုးကို သာယူတော်မူ၍ ပံသုကူသုံးဆောင်မြဲတည်း၊ ထိုအခါငွေယံဆို သောသူသည် သူငယ်ဘော်များနှင့် နွားကျောင်းကြလေ၏၊ ငွေယံ

ယံသည် သူငယ်ဘော်များကို ဤသို့ဆို၏၊ အချင်းတို့.. နင်တို့လည်း ကုသိုလ်ဖြစ်စေ, ငါလည်းကုသိုလ်ဖြစ်စေ၊ ငါသေကျွန်ပြုမည်၊ ငါ့ကိုယ်ပေါ်တွင် နင်တို့အဝတ်ပုဆိုးကိုလွှမ်းပြီးလျှင် သခင်မြတ်အား ပံသုကူကောက်တော်မူပါ-ဟူ၍ လျှောက်ကြကုန်-ဟုဆို၏၊ သူငယ်ဘော်များလည်း ငွေယံဆိုတိုင်းပြု၍ လျှောက်ကြလေ၏၊ သခင်မြတ်လည်း တစပြင်သို့ကြွ၍ ပံသုကူကောက်တော်မူ၏၊ သခင်မြတ်ကြွတော်မူလေသော် ငွေယံလည်း လူသေအစစ်ဖြစ်၍ အသက်မရှူဖြစ်ဘိ၏၊ သူငယ်ဘော်များလည်း ထိုအကြောင်းကိုမြင်လေလျှင် ငွေယံ၏မိဘအိမ်သို့သွား၍ အကြောင်းမျိုးကိုပြန်လေ၏၊ ငွေယံမိဘအစရှိသောသားချင်းမြေးဘော်တို့လည်း သခင်မြတ်အား လျှောက်ကြားကြသော် သခင်မြတ်လာ၍ ပရိတ်မေတ္တာပြုမှငွေယံထ၍ရှိခိုး၏၊ငွေယံမိဘတို့လည်းငွေယံကိုသခင်မြတ်အားလှူ၏၊ ထိုတွင်မှထိုမထေရ် ငွေယံရှင်တွင်လေသတည်း၊ အမည်ရင်းကား-''သီလဗုဒ္ဓိ''ဟူ၏၊ ရှေးသာသနာဝင် အရှင်အရဟံ ဂိုဏ်းသံဃာတည်း။

### ပေါင်လောင်ရှင် တွင်ခြင်းအကြောင်း

နရပတိစည်သူ မင်းကြီးလက်ထက်ပင် ရှင်ကဿပသည် ပေါင်လောင်အရပ်သို့ ဒေသစာရီလှည့်ပတ်သည်ကာလ ပေါင်လောင် အကြီးတို့က ပေါင်လောင်ငယ်နှစ်ယောက်ကို အလုပ်အကျွေးအပ်လှူ၍ ပေါင်လောင်လူမျိုးတို့ ကိုင်းညွတ်သောကြောင့် ပေါင်လောင်ရှင်-ဟုတွင်လေသည်၊ ထိုပေါင်လောင်ရှင် ကဿပသည် သီဟိုဠ်သို့သွားလိုလျှင်နတ်သိကြားတို့ကျားယောင်ဘန်ဆင်း၍ တင်ပို့သည်၊ ရံခါလည်း သဘော်စီး၍သွားသည်၊ တရံရောအခါ သဘော်စီး၍လိုက်လေလျှင် ပင်လယ်ရေပြင်တွင် သဘော်မသွားဘဲ တန့်ရပ်ခဲ့၍ မတော်သူပါချေပြီ ဟုစာရေးတံကောက်ကြသော် ရှင်ကဿပကိုသာ ၃-ကြိမ်တိုင်အောင် စာရေးတံကျလေရကား သဘော်ကချကြလေ၏၊ ထိုသို့ ချသည်ကို မိကျောင်းကျောက်ထက်တင်၍ သီဟိုဠ်ရောက်အောင်ပို့လေ၏၊ ဘီလူးကျွန်းသို့ဒေသစာရီလှည့်ပတ်သည်တွင်လည်း ဘီလူးမျက်မမြင်တို့အား မေတ္တာရေချမ်းပေး၍မျက်မြင်စေ၏၊ ထိုသို့သောကျေးဇူးကြောင့် ရေမန်,တောင်ကျည်းဟူသော ဘီးလူးညီအစ်ကိုနှစ်ယောက်ကို ဘီးလူးတို့က

အပ်လှူလိုက်သည်၊ သီဟိုဠ်မဟာစေတီပုံ, လောဟပါသာဒပုံ, ဓာတ်တော်,မွေတော်,မဟာဗောဓိညောင်ရွှေတော် အစွေများကိုဆောင်ခဲ့သည်-ဟုကျောက်စာရှိသည်။

### ရှင်သုမေဓာ

ရှင်သုမေဓာလည်း ဟလင်းမြို့တောင် မှက်ထီးသရိုင်ရွာမှ အရှေ့တောင်ယွန်းတွင် ဒိန်ကျောင်း-ဟုရှေးကရှိ၏၊ ထိုကျောင်း၌နေသသူဖြစ်၍ဒိန်ကျောင်းရှင်သုမေဓာ-ဟုတွင်သည်၊ထိုရှင်သုမေဓာလည်း ပံသုကူကိုဆောင်လေ့ရှိသည်၊ အကျင့်သီလထက်မြက်သည်ဖြစ်၍ ဈာန်,အဘိညာဉ်ရသသူဟု ထင်ရှားသည်။

ငစွယ်ရှင်,ပေါင်လောင်ရှင်,ရှင်သုမေဓာတို့အကြောင်းပြီး၏။

---

## ၂၂—သုမေဓာသာမဏေနှင့်တက်သေး ကြီးငယ်အကြောင်း

### ဈာန်အဘိညာဉ်ရသူများ

ဤယခုနှစ်မှ ရှေးအနှစ်တရာကျော်က ပုခန်းကြီးမြို့ဝယ်မဟိန်မည်သော ကျောင်းသည်ရှိ၏၊ ထိုကျောင်း၌သုမေဓာမည်သောသာမဏေသည် ဈာန်, အဘိညာဉ်ရ၍ တန်ခိုးဘန်ဆင်းနိုင်၏၊ ဆရာသိလို၍ ငယ်စဉ်က ကစားသောဂုံညင်းကို နှစ်ရက်ခရီးမှာ မြှုပ်ထားပြီးလျှင် ထားရာကိုမပြောဘဲ သင်ငယ်စဉ်က ကစားသောဂုံညင်းကို ယူချေဟု စေ၏၊ သာမဏေသည် တခဏခြင်းပင် ယူဆောင်ခဲ့၏၊ ထို့ကြောင့် ဈာန်, အဘိညာဉ်ရ၍ တန်ခိုးဘန်ဆင်းနိုင်သော သာမဏေဟု သိကြသတည်း။

ပြည်မြို့ဝယ် မင်းနန်းတောင်းများဆရာလည်း ပဲခူးမှာဆင်ဖြူများ ရှင်မင်းတရားကြီးလွန်လေသည်ကို လွန်သောခဏ၌ပင်သိ၍ အိုအာဘ ဟုဆို၏၊ ထိုစကားကို သီတင်းသုံးတယောက်ကြား၍ မှတ်ထားသည်၊ နောက်သတင်းကြားသည်နှင့် မှတ်ထားသည့် နေ့ရက်ညီ၍ ဈာန်,အဘိညာဉ်ရကြောင်းကို သိကြသည်၊ထို့အတူ ထိုဆရာပင် နွားတခုကမ်းပါးယံတွင် ကျက်စား၍ကျသဖြင့် သေလေသည်ကိုမမြင်သာဘဲလျက် နွား

ကျ၍သေသည်ဟုဆိုလေသည်၊ဆိုတိုင်းမှန်သည်ဖြစ်၍ ဈာန်,အဘိညာဉ် ရကြောင်းကိုသိကြသည်။

**နတ်မ-သောတက်သေးကြီးငယ်**

ပုဂံဝယ် တက်သေးကြီး, တက်သေးငယ်နှစ်ပါးတွင် တက်သေးကြီး သို့ မဟာဂိရိနတ် နေ့တိုင်းဆည်းကပ်လာ၏၊ အမှုအခင်းရှိ၍ နားပါး ထောင်ချေဟုစေလိုက်လျှင် စေတိုင်းရ၏၊အဝဘုရင်မင်းခေါင်ကြီးလက် ထက် ပုဂံမှာယာဉ်ခွန်ကို တက်သေးသူမြတ်အလှူခံ၍ မိဖုရားကိုပြောရ ဦးမည်ဆိုသည်တွင် ရှင်မင်းကြီးကို မိဖုရားပိုင်လေသလောဟု တက် သေးသူမြတ်ဆိုလေသည်၊ ထိုအကြောင်းကို မိဖုရားဘို့မယ်အားကြား လေသော် ရဟန်းမူ၍သာ လူဖြစ်တပြီးကားကွပ်ရလေ၏ဟု မိဖုရားဆို လေ၏၊ အဝကကြက်သက်ကိုနှင်လျှင် ပုဂံသို့ကြက်တက်ကိုရောက်သော ဘိုးခေါင်ယာဉ်မဆင်မတော်နှင့်ရွှေစည်းခုံသို့ ရံခါသွားမြဲဖြစ်၍နောက် တကြိမ်အသွားတွင် တက်သေးသူမြတ်လာ၍ အစော··ငါ့ကိုကွပ်မည်ဆို လျှင် ကွပ်တော့ဟူ၍ မိဖုရားကိုဆိုလေသည်၊မင်းနှင့်မိဖုရားလည်းငါတို့ အလျောက် ဆိပ်ကွယ်ရာပြောဆိုသည်ကိုတက်သေးသူမြတ်သိလေသည် ဟု မသက်မသာရှိကြ၍ သီတင်းသုံးတယောက်ကို စုံစမ်းစေသည်တွင် တက်သေးသူမြတ်အား တေပသင်နတ်ပြောဆိုကြောင်းကို သိကြသည်၊ တက်သေးငယ်ကိုလည်း နတ်တို့ဆွမ်းပန်းလှူဒါန်းသည်၊ နတ်ဆွမ်းရ သည်ဟူ၍ကျော်စော၏၊ ဤဆရာနှစ်ပါးကို ဈာန်,အဘိညာဉ်ရသည်ဟူ ၍ ဝိသုဒ္ဓိမဂ္ဂဒီပနီ၌ဆိုသည်။

သုမေဓာသာမဏေနှင့်တက်သေးကြီးငယ်အကြောင်းပြီး၏။

---

## ၂၃-သာသနာတော် ၅၀၀၀-ဟူသော ခေတ်အကြောင်း

သက္ကရာဇ် ၆၇၄-ခု ပင်းယမြို့တည် ဆင်ဖြူတစီးရှင်သီဟသူလက် ထက် ရဟန္တာထွေး ရှင်ဒိဗ္ဗစက်ရှိ၏၊ ထိုအရှင်ကို ရဟန္တာအရှင်ဒိန္န သာမဏေပြုသည်၊အရှင်မဟိန္ဒပါလကမ္မဋ္ဌာန်းဝိပဿနာပေး၍ရဟန္တာ ဖြစ်စေသည်၊ ဝါငါးဆယ်ရှိမှ ကုရုတိုင်းက စလင်းမြို့သို့ရောက်သည်၊ဝါ

ခြောက်ဆယ်ရှိမှ ပင်းယမြေ့စည်းခံတည်ရာသို့ ကြွတော်မူလာ၍ ဘုရားသခင်ဗျာဒိတ်ထားတော်မူသည့်အတိုင်း ညီညာစောင်မလာသည်ဟူ၍ သမိုင်းစာတမ်းရှိသည်၊ ယခုအခါ ရှာန်,အဘိညာဉ်ရသောသူရှိကောင်းအံ့လော,မရှိကောင်းပြီလောဟု ယုံမှားသင်္ကာဖွယ်ရှိ၏၊ ထိုသို့သောယုံမှားသင်္ကာကိုဆိုလတ့ံသော ကျမ်းဂန်တို့ဖြင့် ပယ်ဖျောက်အပ်၏။

ပဋိသမ္ဘိဒါပတ္တေဟိ ဝဿသဟဿံ သုက္ခဝိပဿကေဟိ ဝဿသဟဿံ အနာဂါမီဟိ ဝဿသဟဿံ သကဒါဂါမီဟိ ဝဿသဟဿံ သောတာပန္နေဟိ ဝဿသဟဿန္တိ ဧဝံ ပဉ္စဝဿသဟဿာနိ ပဋိဝေဓသဒ္ဓမ္မော ဌဿတိ။

ပဋိသမ္ဘိဒါပတ္တရဟန္တာ,သုက္ခဝိပဿကရဟန္တာ,အနာဂါမ်,သကဒါဂါမ်,သောတာပန် တထောင်စီ၊သာသနာငါးထောင်လုံးပင်မင်ဖိုလ်ရလတ့ံ။

[ဤကား ဘိက္ခုနီခန္ဓက ဝိနည်းအဋ္ဌကထာ။]

ပဋိသမ္ဘိဒါပတ္တေဟိ ဝဿသဟဿံ ဆဠဘိညေဟိ ဝဿသဟဿံ တေဝိဇ္ဇေဟိ ဝဿသဟဿံ သုက္ခဝိပဿကေဟိ ဝဿသဟဿံ ပါတိမောက္ခေန ဝဿသဟဿံ။

ပဋိသမ္ဘိဒါပတ္တရဟန္တာ, ဆဠဘိညရဟန္တာ, တေဝိဇ္ဇရဟန္တာ, သုက္ခဝိပဿကရဟန္တာ,ပါတိမောက္ခခေတ်တထောင်စီ၊ သာသနာငါးထောင်ပတ်လုံးတည်လတ့ံ။

[ဤကား ဒီဃနိကာယ် သမ္ပသာဒနိယသုတ် အဋ္ဌကထာ,သံယုတ်အဋ္ဌကထာ ၂-စောင်။]

ဗုဒ္ဓါနံ ပရိနိဗ္ဗာနတော ဝဿသဟဿမေဝ ပဋိသမ္ဘိဒါနိဗ္ဗတ္တေတုံ သက္ကောန္တိ၊ တတောပရံ ဆဠဘိညာ၊ တတောပိ အ သက္ကောန္တာတိသော ဝိဇ္ဇာ နိဗ္ဗတ္တေန္တိ၊ဂစ္ဆန္တေ ကာလေ တာပိ နိဗ္ဗတ္တေတုံ အသက္ကောန္တာ သုက္ခဝိပဿကာ ဟောန္တိ၊ ဧတေနေဝနယေန အနာဂါမိနော သကဒါဂါမိနော သောတာပန္နာတိ။

ပဋိသမ္ဘိဒါပတ္တရဟန္တာ, ဆဠဘိညရဟန္တာ, တေဝိဇ္ဇရဟန္တာ, သုက္ခဝိပဿကရဟန္တာ, အနာဂါမ်, သကဒါဂါမ်, သောတာပန် တတောင်စီ၊ သာသနာငါးထောင်ပတ်လုံးတည်လတံ့။

[ဤကား အင်္ဂုတ္တရအဋ္ဌကထာ, သမ္မောဟဝိနောဒနီအဋ္ဌကထာ ၂–စောင်။]

ဤသို့လျှင် ကျမ်းဂန် အနည်းနည်းလာသည်ကိုထောက်၍ ယခုရောက်ဆဲသောသာသနာတော်နှစ်နှင့်နှိုင်းခိုင်းသဖြင့်မည်သည့်ရဟန္တာအရိယာတို့ခေတ် ရှိ,မရှိဟု ယုံမှားသက်ာ ဖျောက်လေ၊ ဤသို့ဆိုခဲ့ပြီးသော ဈာန်,အဘိညာဉ်,မဂ်,ဖိုလ်ရသောရဟန္တာအရိယာ,သီလဝန်,ဂုဏဝန်များဖြင့်လည်း မြန်မာနိုင်ငံ၌ သာသနာတော်မြတ် ကာလအရှည် စည်ပင်ထွန်းလင်းသည်။

သာသနာတော် ၅၀၀၀–ဟူသောခေတ်အကြောင်း ပြီး၏။

---

## ၂၄–ဓမ္မသတ်ပြုစုကြောင်းနှင့်ရှင်အဂ္ဂပဏ္ဍိတ တို့အကြောင်း

ဘုရားပရိနိဗ္ဗာန်စံလွန်တော်မူသည့်နောက် သာသနာတော် ၉၃၀–ကျော်တွင်မြန်မာတိုင်းနိုင်ငံမှာသေဉ်လည်ကြောင်မင်းနှင့်အပြိုင်သီဟိုဠ်ကျွန်းမှာ မဟာနာမမင်းလက်ထက် ရှင်ဗုဒ္ဓဃောသ,ရှင်ဗုဒ္ဓဒတ်တို့ အဋ္ဌကထာကို မာဂဓဘာသာပြန်သည်ကစ၍ ကျမ်းဂန်ပြုစုကြသည်၊ထိုမှရှေးကကျမ်း ဂန်မပြုစုကြ၊သတိ,သမာဓိ,ပညာ ထက်သန်သဖြင့် ပါဠိ, အဋ္ဌကထာမူလနှင့်ပင်အနက်အဓိပ္ပါယ်ကိုသိကြသောကြောင့်ဖွင့်ဘွယ်မရှိ၍မပြုစုကြ၊သတိ,သမာဓိ, ပညာမထက်သန်သဖြင့်ပါဠိ,အဋ္ဌကထာမူလနှင့်သာ အနက်အဓိပ္ပါယ်ကိုမသိကြသောကြောင့် ဖွင့်ဘွယ်ရှိ၍ပြုစုကြသတည်း၊ ထို့ကြောင့် သာသနာတော် ၉၃၀-မကျော်မီ သရေခေတ္တရာရသေ့ပြည်တွင်းဝယ် ပြုစုသောသာသနာကျမ်းဂန်မရှိ၊သာသနာနှစ်တရာကျော်က ဒွတ္တပေါင်မင်းကြီးလက်ထက် ရဟန္တာသုံးထောင်တို့အား လျှောက်ထားတိုင်ပင်၍ ဓမ္မသတ်ကျမ်းပြုစုကြောင်းကိုသာ ရာဇဝင်၌ဆိုသည်။

### သီဟိုဠ်နှင့် ပုဂံရဟန်းများ သဒ္ဒါတတ်ပြိုင်ခြင်း

သာသနာ ၁၆၀၁-ခုနှစ်၊သက္ကရာဇ် ၄၁၉-ခုနှစ်တွင်သထုံပြည်က သာသနာကို နော်ရထာမင်းစောပုဂံသို့ဆောင်ခဲ့သည်၊ သာသနာ ၁၆၈၇-ခုနှစ်၊ သက္ကရာဇ် ၅၁၆-ခုနှစ်တွင် ပိဋကသုံးပုံ၏ အခြေပါဒ ဖြစ်သော သဒ္ဒါနည်းနာနယ်၌ လိမ်မာစေခြင်းငှါ ပိဋကသုံးပုံကို အ ကုန်နှိုးနှောရှာဖွေ၍ ပုဂံရှင်အဂ္ဂပဏ္ဍိတ သဒ္ဒနီတိကျမ်းကို ပြုသည်ဟု နိဒါန်း၌ ဂါထာဆောင်၍ဆိုသည်၊ ပုဂံတွင်ရှင်ဥတ္တရာဇီဝ, ရှင်ဆပ္ပဒတို့ သီဟိုဠ်သို့မကူးမီကပင် ကျမ်းတတ်ကြီးအကျော် ၃-ပါးရှိ၏။

၁။ ဥပဇ္ဈာယ်ဖြစ်သောရှင်မဟာအဂ္ဂပဏ္ဍိတ,

၂။ ဥပဇ္ဈာယ်ယူတပည့်ဖြစ်သောဒုတိယအဂ္ဂပဏ္ဍိတ,

၃။ ထိုဆရာ၏တူဖြစ်သော တတိယအဂ္ဂပဏ္ဍိတ,

ဤ ၃-ပါးတွင် တတိယအဂ္ဂပဏ္ဍိတဆရာသဒ္ဒနီတိကျမ်းကိုစီရင်၏၊ အဂ္ဂဝံသအမည်ဖြင့်လည်း နိဂုံး၌ဆိုသည်၊ ထိုကျမ်းကို စီရင်သည်တွင် ပုဂံသားရဟန်းများသဒ္ဒါတတ်လှသည်—ဟူ၍ သီဟိုဠ်တိုင်အောင်ကျော် စောလေသောကြောင့် သီဟိုဠ်သားသဒ္ဒါတတ်ရဟန်းများပြိုင်ဆိုင်မည်-ဟု ပုဂံသို့ကူးလာကြသည်၊ပုဂံသားရဟန်းများကသဒ္ဒနီတိကျမ်းကိုထုတ်၍ပြသည်ကိုကြည့်ရှုကြပြီးလျှင် သဒ္ဒါအရာတွင် သည်ကျမ်းကဲ့သို့ သီဟိုဠ်မှာလည်းမရှိပေ၊ သည်ကျမ်းတွင်လာသည့်အတိုင်း အကုန်အစဉ်ငါတို့လည်းမတတ်နိုင်ချေဟုဆို၍ သီဟိုဠ်ရဟန်းများ ပြန်သွားလေသည်ဟု ယခုထက်တိုင်အောင် ဥဒါန်းစဉ်ရှည်ပြောဆိုကြသည်။

မမ္မသတ်ပြုစုကြောင်းနှင့် ရှင်အဂ္ဂပဏ္ဍိတတို့အကြောင်း ပြီး၏။

---

## ၂၅-ကျမ်းဂန်ပြုစုသောဆရာများအကြောင်း

### ဆပ္ပဒနှင့်ဆပ္ပဒေါ

ပုဂံတွင် သီဟိုဠ်ပြန်ရှင်ဆပ္ပဒသည် သဒ္ဒါတတ်၍ သုတ္တနိဒ္ဒေသကျမ်းကိုလည်းစီရင်၏၊ ပရမတ်တတ်၍ သင်္ခေပဝဏ္ဏနာ, နာမစာရဒီပက ကျမ်းများကိုလည်း စီရင်၏၊ ဝိနည်းတတ်၍ ဝိနယဂုဠ္ဌတ္ထဒီပနီ, သီမာ လင်္ကာရကျမ်းများကိုလည်း စီရင်၏၊ သဒ္ဓမ္မဇောတိပါလဟူ၍ နိဂုံး၌

အမည်ရင်းပါ၏၊ ပုသိမ်ကျေး ဆပ္ပဒရွာသားဖြစ်၍ ရွာမည်ဖြင့်ဆပ္ပဒ ဟု ကျော်စောထင်ရှားသည်၊ "ဆပ္ပဒ"ဟု သဝေအချမပါဘဲ ကလျာဏီကျောက်စာ, ရာဇဝင်များတွင်ဆိုသည်မှာ သီဟိုဠ်ရောက် ပုဂံသာသနာပြု ဆပ္ပဒမထေရ်ကိုယူရမည်၊"ဆပ္ပဒေါ"ဟု သဝေအချနှင့်ကျောက်စာများတွင်ပါသည်မှာဦးထုပ်ဆောင်းဟူ၍ ပုခန်းကြီးမိဖုရားကောင်းမှုဘုရားကျောက်စာတွင်ဆိုသော ဦးထုပ်ဆောင်းပွဲကျောင်းကို ယူရမည်၊ ဤသို့အဓိပ္ပါယ်သီးသန့်၍ မဆင်ခြင်မိသောကြောင့် တုံနွယ်ကိုဆပ္ပဒေါဆရာအနွယ်ဖြစ်ကြောင်းနှင့် အတုလစာတွင် ဆိုမှားလေရကား ပွဲကျောင်းနွယ်ဖြစ်သည်ဟု အဓိပ္ပါယ်ရောက်လေသည်။

ဥတ္တရာဇီဝမထေရ်နှင့် ရှင်ဆပ္ပဒ သီဟိုဠ်သို့ကူးသည်- သာသနာ ၁၇၁၅-နှစ်၊ သီဟိုဠ်ကရှင်ဆပ္ပဒပြန်သည်- သာသနာ ၁၇၂၅-နှစ်၊ ဤသို့ကလျာဏီကျောက်စာ, ရာဇဝင်များတွင် တွက်စုရသည်၊ သုတ္တနိဒ္ဒေသ,သဒ္ဒါဝဏ္ဏနာစသော ယခင်ကျမ်းနိဂုံးများတွင်"ပုဏ္ဏောဒသေ နဝနဝုတိဂုဏောစဝဿေ၊ ဝဿေသဟဿဂဏနေဇိနနိဗ္ဗုတမှာ" ဟု သီဟိုဠ်ကူးသီဟိုဠ်ရောက်သာသနာ နှစ်ပါးလာသည်နှင့်သင့်တင့်ညီညွတ်အောင် ဆင်ခြင်လေကုန်။

အတုလဆရာစီရင်သော ဆရာစဉ်သမိုင်းမှာကား နော်ရထာမင်းမြစ်,ကျန်စစ်သားမြေးနရပတိစည်သူမင်းလက်ထက်ဥတ္တရာဇီဝမထေရ် သိဃ်ိုဠ်သို့ကူးသည်၊ ဆပ္ပဒမထေရ်တို့ သိဃ်ိုဠ်ကပြန်သည်ဟူ၍ ကလျာဏီကျောက်စာ, ရာဇဝင်များနှင့်မဆင်ခြင်ဘဲ ဆိုမှားရှာလေသည်၊ နရပတိစည်သူသည် နော်ရထာမြစ်, ကျန်စစ်သားမြေးမဟုတ်၊ အလောင်းစည်သူသာ နော်ရထာမြစ်, ကျန်စစ်သားမြေးမှန်သည်၊ ရာဇဝင်နှင့်တိုင်းလေ။

### ကျမ်းပြုဆရာနှင့်ကျမ်းစာများ

ပုဂံတွင် အလောင်းစည်သူလက်ထက် ဝိမလဗုဒ္ဓိကြီး, ဝိမလဗုဒ္ဓိငယ် ကျမ်းတတ်ဆရာနှစ်ပါးရှိ၏။

၁။ ဉာသ်ကျမ်းကို ရှင်ဝိမလဗုဒ္ဓိကြီး ပြုသည်။
[သီဟိုဠ်ရှင်ဝိမလဗုဒ္ဓိပြုသည်-ဟူ၍အချို့ပိဋကသမိုင်းများတွင်ဆိုလေသည်။]

၂။ ဆန်းဋီကာဟောင်းကို ရှင်ဝိမလဗုဒ္ဓိငယ် ပြုသည်။

၃။ ဆန်းဋီကာလတ်ဆန္ဒောသာရတ္ထဝိကာသနီကို ပုဂံရှင်သဒ္ဓမ္မ ဉာဏ ပြုသည်။

၄။ ဆန်းဋီကာငယ် ဝစနတ္ထဇောတိကို ပုဂံရှင်ဝေပုလ္လ ပြုသည်။

၅။ ဉာသ်ကျမ်းအဖွင့် သံပျင်ဋီကာကို ပုဂံသံပျင်အမတ် ပြုသည်။

[နရပတိစည်သူမင်းကြီးလက်ထက် ကျမ်းဂန်သင်မြောက်ကျနပြီးသော ပုဂ္ဂိုလ်တဦးသည် မင်းကြီးအမြိတ်အစွန်းနှင့် မင်းသမီး၌တတ်မက်၍ မအီမသာမရပ်မတည်နိုင်ရှိလေ၏၊ထိုအကြောင်းကို မင်းကြီးကြား၍ အနိုင်အခံ့ သုံးဆောင်လောက်အောင် ကျမ်းဂန်ပြုလေဦးဟု မိန့်ဆိုသည်တွင် ဉာသ်ကျမ်း၏အဖွင့်ဋီကာကိုပြုသည်၊ထိုနောက်လူထွက်လျှင် မြေတိုင်းသံပျင်အရာကိုပေးသောကြောင့် သံပျင်အမတ်-ဟု ထင်ရှားသည်၊ကျမ်းကိုလည်းသံပျင်ဋီကာဟုတွင်သည်။

ပဌမံ ကရေ ပဒစ္ဆေဒံ၊သမာသာဒိံ တတော ကရေ။

သမာသာဒေါ ကတေ ပစ္ဆာ၊ အတ္ထံ နိယျာထ ပဏ္ဍိတော။ ။

ဟုခပ်သိမ်းသောအရာ၌ အနက်ပေးနည်းဂါထာကို ပြုသဖြင့်ဘွင့်သောကြောင့် နှစ်သက်ဘွယ်ရှိလှသည်၊ ပိဋကသမိုင်းအစောင်ခေါင်မှာ သံပျင်ဋီကာကို သံပျင်အမတ်စီရင်သည်ဟု ဥဒါန်းစဥ်ရှည်ဖြစ်လေသည်၊ စာကိုယ်တွင်နိဂုံးမပါ။]

၆။ ကာရိကာမူလ, ကာရိကာဋီကာကို ပုဂံရှင်ဓမ္မသေနာပတိ ပြုသည်။

[ထီးလှိုင်ရှင်ကျန်စစ်သားမင်းတည်လုပ်သော နန္ဒဂူအနီးနန္ဒာကျောင်းတိုက်၌နေ၍ စီရင်သည်၊ထိုကာလ ဂန္ဓမာဒနတောင်နန္ဒမူလိုဏ်ကရဟန္တာများကြွလာ၍မင်းကြီးလှူသောဝါဆိုကျောင်းမှာ ဝါဆိုလာသဖြင့် ရဟန္တာများထင်ရှားရှိသောကြောင့် ခိုင်ခံ့သောသဒ္ဒါကျမ်းဟု နှစ်သက်မြတ်နိုးကြသည်။]

၇။ သဒ္ဒတ္ထဘေဒစိန္တာကို ပုဂံတူးရွှင်းခြေရွာ၌ နေသောသီတင်းသည်သားရှင်သဒ္ဓမ္မသိရိ ပြုသည်။

၈။ ထိုဆရာသည်ဗေဒင်ဗျို့ဟာဒ်ကျမ်းနိဿယကိုလည်းစီရင်သည်။

၉။ ကေက္ခရ ကောသကို ပုဂံရှင်သဒ္ဓမ္မကိတ္တိ ပြုသည်။

[သက္ကရာဇ် ၈၈၇-ခုနှစ်ရှိသောအခါ မိဿာဒိဋ္ဌိရှမ်းဇလုံဘေးဖြင့် သာသနာတော်မြတ်တည်ထွန်းရာ တမ္ဗဒီပတိုင်းမတိုင်းကြီး ပျက်စီးတိမ်းယိမ်း

ခဲ့၍ပိဋကကျမ်းဂန်မီးသင့်ခြင်း,အရပ်အခြားသို့ လွင့်ပါးခြင်းဖြစ်လေသည်' ရဟန်းသူတော်တို့ မဆောင်ရွက်မလေ့လာနိုင်ကုန်သည်ဖြစ်ရကား သာသနာတော်မြတ် ယုတ်နွမ်းလေသည်ကိုသိမြင်၍ ပရိယတ်မရှိက ပဋိပတ်မရှိမည်၊ ပဋိပတ်မရှိက ပဋိဝေဓမရှိမည်ကိုစိုးရိမ်ပင်ပန်းစွာ သံဝေဂရသဖြင့်၍ကျမ်းကိုစီရင်သည်-ဟု ၎င်းဋီကာ၌ဆိုသည်။]

၁၀။ မုခမတ္တသာရကိုပုဂံရှင်သာဂရ ပြုသည်။

[ဤသည်ကျမ်းရှစ်စောင်သို့လိုက်၍ အကျဉ်းဂါထာ သက်သက်ချုံ့ရုံ့စီရင်သည်။]

ကျစွာမင်းအကြောင်း

သက္ကရာဇ် ၅၇၁-ခုနှစ်တွင် သားတော်အငယ် သေလွန်သည်ကိုအကြောင်းပြု၍သံဝေဂရသဖြင့်ပစ္စေကဗုဒ္ဓါဆုကိုပန်သောနန်းတောင်းများဇေယျသိခ်မင်းသားတော် ကျစွာမင်းဖြစ်တော်မူသည်၊ "ဓမ္မရာဇာ"တံဆိပ်နာမံခံ၍ပိဋကကျမ်းဂန်သဘောသကန်ရမိကျနစွာရကားကျစွာဟူ၍တွင်သတည်း၊ ထိုကျစွာမင်းသည်ပါဠိ,အဋ္ဌကထာ, ဋီကာကျမ်းတို့၌ အနက်အဓိပ္ပါယ်သဘောသကန်ကျနလှသည်ဖြစ်၍ အမေးအဖြေအခြေအတင်အရာ၌ ထိုကာလတူသူမရှိ-ဟူ၍ပိဋကသုံးပုံကိုကိုးခေါက်ပြန်၍သင်မိ၏၊ ရဟန်းသံဃာတို့အားလည်း တနေ့ခုနစ်ဝါစာပို့နိုင်၏၊ တူးရွင်းခြေကန်ကိုဆည်၍မင်းတဲသာယာစွာ ဆောက်ပြီးသော် ထိုမင်းတဲ၌နေလျက် စာပေပို့စမှတ်ပြုသတည်း၊ စာပေသင်သောမင်းမောင်းမတို့အား မှတ်သားစရာ—

၁၁။ သဒ္ဒါအကျဉ်း—သဒ္ဒဗိန္ဒုကျမ်း,

၁၂။ ပရမတ်အကျဉ်း—ပရမတ္ထဗိန္ဒုကျမ်း—

ကိုလည်းစီရင်၏၊ တရားကျမ်းဂန်၌သာမွေ့လျော်ပျော်ပါး၏၊ ပြည်ရေးရွာမှုကို နားမျှထောင်တော်မမူ၊ တရားစီစစ်ခင်း, စစ်ကြောကွပ်ညှပ်ခင်းရှိသမျှကို သားတော်အိမ်ရှေ့မင်း ဥစ္စနာကိုသာ လွှဲသတည်း၊ အထက်ကပျက်ခဲ့၍တောင်ခြေရင်း၌ နောင်ငါမင်းတကြိမ်ဖြစ်မှ ပေါ်ရောက်စေသော-ဟု အဓိဋ္ဌာန်ပြု၍ နော်ရထာမင်းစော ပေစာများကိုစိုက်တော်မူခဲ့သည်၊ ထိုမင်းလက်ထက် ထိုပေစာများပေါက်ရောက်ကြောင်းကိုကြား၍ ဝမ်းမြောက်ဝမ်းသာရှိတော်မူသည်။

၁။ သမုဒ္ဒရာဇ်,နော်ရထာ,ကျစ္စာ သုံးဖြစ်အတူ။
၂။ ပြူမင်းထီး,သော်လည်ကြောင်, ကျန်စစ်သား သုံးဖြစ်အတူ။
၃။ ကုလားကျ,စလေငခွေး,တရုပ်ပြေး သုံးဖြစ်အတူ။

ထိုမင်းအခါ၏ရာဇဝင်တွင် "ပညာသီလသမ္ပန္နော နတ္ထိ န မေ န ဝိဇ္ဇတိ"ဟူသောစကားဖြင့်ထင်ရှားစွာ ထိုမင်းမှာထားခဲ့ကြောင်းကိုဆိုသည်၊ အနက်အဓိပ္ပါယ်ခဲ၏၊ ရာဇဝင်တတ်မှတ်သသူတို့ကြံစည်မှတ်ယူပါကုန်။

ထိုမင်းဘုရားစေတီတည်ထားသည်၊ ပိဋကစာပေကိုသာ လေ့လာအားကြီး၍ အပြုအလုပ်အဆော်အဖန်ညံ့သောကြောင့် မပြီးစီးလေ-ဟု ရာဇဝင်တွင်ဆိုသည်၊ ဘုရားတည်မည် အုတ်စ၍ လုပ်သည်လည်း ပြဿဒါးနေ့၊ ပန်နက်ချသည်လည်း ပြဿဒါးနေ့၊ အုတ်မြစ်စသည်လည်း ပြဿဒါးနေ့၊ အလုံးစုံစ၍ လုပ်သမျှကို ပြဿဒါးနေ့တွင်သာ လုပ်စေသည်၊ ထို့ကြောင့်"ပြဿဒါးဘုရား"ဟုယခုထက်တိုင်တွင်လေသည်-ဟု အစဉ် စကားရှိသည်။

## ဒိသာပါမောက္ခဦးကျည်ပွေ့

ပုဂံပြည်တွင် နရသီဟပတေ့ မင်းလက်ထက် ခြောက်ဆယ်ကျော်ရွယ်မှ ရဟန်းပြုသော ရဟန်းကြီးတဦးသည် စာပေသင်ရန် ကန့်ကူဆံခံမည်ဟု မင်းအိမ်သို့ဝင်လေသော် အကြောင်းကို မေး၍ စာပေသင်ရန် ကန့်ကူဆံခံကြောင်းကိုပြောသည်တွင် ကျည်ပွေ့ အတက်ပေါက်မှစာပေတတ်တော့မည်ပ-ဟုမင်းကဆိုလိုက်သည်နှင့်တနေ့လျှင်ဒန်ပူခန့်မျှတက်၍ သဒ္ဒါ, သင်္ဂြိုဟ်ကစလျက် စာပေကျမ်းဂန် သင်သည်၊မကြာမြင့်မီပင် ကျမ်းဂန်တတ်မြောက်လေ၏၊ ကျည်ပွေ့ကိုသစ်ခက်သစ်ညွန့်စည်း၍ မင်းအိမ်သို့ ဝင်ပြန်လေသည်တွင် အကြောင်းကို မေးသော် ကျည်ပွေ့ အတက်ပေါက်၍ဝင်လာကြောင်းကို ပြောဆိုသောကြောင့် စာပေကျမ်းဂန်တတ်မြောက်ပြီ-ဟု ဆိုလိုသည်။

ခြောက်ကျောင်းသား ကျမ်းတတ်သံဃာများတို့မေးမြန်းစုံစမ်းစေ-အမိန့်တော်ရှိ၍ မေးမြန်းစုံစမ်းကြရသည်၊ မေးမြန်းတိုင်း ဖြေပြောနိုင်သည်၊ ငါ့ရှင်တို့ငါ့ကိုမေးမြန်းလှလေပြီ၊ငါတလှည့်မေးမြန်းပါဦးမည်ဟု

ခွင့်ပန်၍ အညသမာန်းစေတသိက်၌ အညာ၏ အပါဒါန်ကို ခံပါကုန်-ဟု ရဟန်းကြီးကမေးမြန်းသည်ကို ခြောက်ကျောင်း သံဃာများက အပါဒါန်မခံတည့်နိုင်ရှိလေသည်၊ ထိုအကြောင်းကို နရသီဟပတေ့ မင်းကြီးကြား၍ ထိုရဟန်းကြီးကို''ဒိသာပါမောက္ခ'' ဟူသော တံဆိပ် နာမံနှင့်ဆရာပြု၍ ကိုးကွယ်လေသည်-ဟု ယခုထက်တိုင်ဆရာစဉ်ဆက် ဥဒါန်းစဉ်ရှည်ပြောဆိုကြသည်။

[ဤဆရာကားကျမ်းပြုမဟုတ်၊ နည်းနာယူလောက်သောကြောင့်သာ ရေးလိုက်သည်။]

ဤသို့အစရှိသည်ဖြင့် ပုဂံ၌ ကျမ်းပြုဆရာတို့ ကျမ်းဂန်များစွာပြုစုကြ၏။

[အမိပ္ပါယ်အထူး မှာထားရန်ရှိသည်ကိုသာ ကောက်နှုတ် ရေးသားသည်၊ အမိပ္ပါယ်အထူးတစုံတခုမှာထားရန်မရှိသည်ကိုမကောက်နှုတ်မရေး သားဟုမှတ်လေ။]

ကျမ်းဂန်ပြုစုသော ဆရာများအကြောင်းပြီး၏။

---

## ၂၆-မြင်စိုင်း၌ ပုဂံမင်းကျော်စွာကို နန်းချ၍ မင်းပြုသော မင်းညီနောင် ၃-ပါးအကြောင်း

မြင်စိုင်း၌ ပုဂံမင်းကျော်စွာကိုနန်းချ၍ သက္ကရာဇ် ၆၆၄-ခုနှစ်တွင် မင်းညီနောင်သုံးပါးမင်းပြုကြ၏၊ ထိုရောအခါ ကျော်စွာ သားတော်စောနှစ်က တရုပ်ဥတည်ပွားသို့ စေ၍ ချီပင့်လေရကား မင်းရိုးကိုနန်းတင်မည့် တရုပ်စစ်သည်အများမြင်စိုင်းသို့ ရောက်လာ၏၊ ထိုကာလပိဋကဗေဒင်တတ်သော မထေရ်ကိုပင့်၍တိုင်ပင်သော် ငါရဟန်းသားဖြစ်သည်၊ ပြည်ရေးရွာမှုကိုမအပ်၊ ဤမ်းတို့နှင့် တိုင်ပင်ပါလေ-ဟူ၍ ဆိုချေသည်၊ ဤမ်းတို့ကို ခေါ်၍ တိုင်ပင်သော် ဤမ်းတို့လည်း ''ဝရရောတိတ်တွေးစာနာ၊ အမှုသည်မရှိသော် စကားမဆိုမာ'' ဟူသော အခြင်းအရာဖြင့် ကာရေး-ကစားလျက် သီကုန်၏။

မင်းညီနောင်တို့လည်း ထို ကာ-ကသောအခြင်းအရာကို ကြားပြီးသော် ကျော်စွာကို သတ်၍ မင်းရိုးမရှိပြီ-ဟု ခေါင်းကိုပြလေ၏၊ တရုပ်

တို့လည်း မင်းရိုးမရှိပြီးသော် ပြန်တော့မည်-ဟူ၍ ပဏ္ဏာကာရခံပြီးလျှင် ပြန်လေ၏-ဟု ရာဇဝင်များတွင်ဆိုရာဝယ်-ဌမ်းတို့နှင့် တိုင်ပင်ပါလေ-ဟူ၍ ပရိယာယ် စကားပါသောကြောင့် ထိုရဟန်း အပြစ်မလွတ်လေ။

ပရိယာယော စ အာဏတ္တိ၊
တတိယေ ဒုတိယေ ပန။
အာဏတ္တိ ယေဝ သေသေသု၊
ဒွယ မေတံ န လဗ္ဘတိ။ ။

ဟူ၍ဝိနည်းဂါထာလာသည့်အတိုင်း လူကိုသေစေရာ၌တိုက်ရိုက်စေသော စကား,ပရိယာယ်စကား ၂-ချက်ပင်မအပ်၊ သူ့ဥစ္စာကိုခိုးရာ၌ တိုက်ရိုက်စေသော စကားသာမအပ်၊ မေထုန်ကျင့်ရာ, ဈာန်မဂ်ဖိုလ် မရဘဲကို ပြောဆိုရာများ၌ တိုက်ရိုက်စေသောစကား, ပရိယာယ်စကား ၂-ချက်ဖြင့်ပင် အာပတ်မသင့်-ဟူ၍ ဝိနည်းအဆုံးအဖြတ်ရှိသောကြောင့် ပရိယာယ်ဆိုသော ရဟန်းအာပတ်မလွတ်လေသတည်း။

[ဤစကားကို ကျမ်းဂန်နှင့်စပ်သည်ဖြစ်၍ သတိရကြအောင်ရေးလိုက်သည်၊ မြင်စိုင်းတွင်စီရင်သောကျမ်းဂန်မရှိ။]

ကျော်စွာကိုနန်းချ၍ မင်းပြုသော မင်းညီနောင် ၃-ပါးအကြောင်းပြီး၏။

---

## ၂၇-တစီးရှင်သီဟသူလက်ထက်ရှင်ယောင်အရည်းတို့ များပြားခြင်း အကြောင်း

သက္ကရာဇ် ၆၇၄-ခုနှစ်တွင် မြင်စိုင်း ရွှေနန်းရှင် ရာဇသင်္ကြိမ လွန်မီသုံးနှစ်က ပင်လယ်တစီးရှင်သီဟသူ ပင်းယမြို့ကို တည်တော်မူ၏၊ မြို့တည်သည့်နောက် ၂-နှစ်ရှိမှ စမုံမြစ်ဝယ် အသေမျောလာသော ဆင်ဖြူအမတစီးရ၍ တစီးရှင်တွင်သတည်း၊ ထိုမင်းလက်ထက်ပင်းယမြို့ တွင်သီလဝန်, ဂုဏဝန်, လဇ္ဇီပေသလရဟန်းသံဃာများစွာမရှိ၊ ပုဂံအရည်းတို့ကကြွင်းကျန်သော ရှင်ယောင်အရည်းတို့သာ များပြားစွာသတည်း၊နောက်ရဟန္တာထွေး အရှင်ဒိဗ္ဗစက်ရောက်ရာတွင်မှလဇ္ဇီပေသလရဟန်းကောင်းများကို ကိုးကွယ်ရသည်၊ အရှင်ဒိဗ္ဗစက်ကို နန်းတော်

တွင် မပြတ်ဆွမ်းလုပ်ကျွေးတော်မူ၏၊ နေ်ာရထာမင်းစောလက်ထက် ကွမ်းခွက်တော်တွင် ဌာပနာ၍ မင်းစဉ်ကိုးကွယ်သောဓာတ်တော် ခုနစ်ဆူအနက် ငါးဆူကို ရွှေစည်းခုံတွင်ဌာပနာ၏၊နှစ်ဆူကိုစစ်ကိုင်းပုညရှင်စေတီတွင် ပုညအမတ်ဌာပနာလေသည်။

တရံရောအခါ သားတော် ၃-ပါးတို့အလုံးအရင်းကိုမေးသည်တွင် အိမ်ရှေ့ဥစ္စနာက ကျွန်တော်တွင် ကြောင်းချည်းထသော် တိုက်ဆင်-၁၀၀၊မြင်း-၇၀၀၊ ချပ်တန်ဆာနှင့်တကွ သူရဲကောင်း-၁၀၀၀ ရ၏-ဟုလျှောက်၏၊ သားတော်အလတ်ကျော်စွာကလည်း ကျွန်တော်တွင် လွတ်ချည်းထသော် တိုက်ဆင်-၇၀၊ မြင်း-၆၀၀၊ ရွှေကာကိုင်သော သူရဲကောင်း-၁၀၀၀ ရ၏-ဟူ၍ လျှောက်၏၊ သားတော်အငယ်အ သင်္ခယာစောယွန်းကလည်း ကျွန်တော်တွင်ရှင်အရည်းတို့ကိုထား၍ အထိန်းသားနှင့်သော် ရှစ်ကျိပ်သာရှိသည်-ဟူ၍ လျှောက်၏၊ တစီးရှင်လည်း ယွန်းငယ်....ငါမရှိလျှင် နှင့်ကိုသူညှဉ်းဆဲစရာ ဖြစ်ရစ်လေတော့မည်-ဟူ၍ ဆိုတော်မူ၏၊ဤသို့အသင်္ခယာစောယွန်းလျှောက်သော စကားကိုထောက်၍ ထိုကာလမင်းညီမင်းသားတို့မှာ မြဲစွဲထမ်းရွက်သော ရှင်အရည်းအများပင်ရှိကြောင်းကိုသိရသည်။

တစည်းရှင်လက်ထက် ရှင်ယောင်အရည်းတို့များပြားခြင်းအကြောင်းပြီး၏။

---

## ၂၇-ဥစ္စနာမင်းကြီးစကား ခုနစ်ကျောင်းကို ဆောက်လုပ်ခြင်း အကြောင်း

သက္ကရာဇ် ၆၇၄-ခုနှစ်တွင် သားတော်အကြီး အိမ်ရှေ့ဥစ္စနာမင်းဖြစ်တော်မူ၍ ပင်းကျားအရပ်၌ စကား ခုနစ်ကျောင်းကို ဆောက်လုပ်တော်မူသည်၊ သက္ကရာဇ် ၇၀၂-ခုနစ်တွင် ထိုကျောင်းများကို တင်လှူတော်မူ၏။

၁။ စမ္ဗကမည်သော ကျောင်းမတော်ကို စာခိုပေသင် အမတ်သားသုဓမ္မမဟာသာမိ အားတင်လှူတော်မူသည်၊ ထိုအရှင်ကား ယခင်ရှေးကပြခဲ့ပြီးသော ပုဂံဂိုဏ်းသံဃာ ၄-စုတွင် အရဟံအနွယ်ပုရိမသံဃာအဝင်တည်း။

၂။ ဝေဠုဝန်မည်သောအာရာမ်ကျောင်းတော်ကို အဘိဓမ္မာတတ်သော ရှင်ဉာဏဓဇအား တင်လျှူတော်မူသည်၊ ထိုအရှင်လည်း ရှင်အရဟံအနွယ် ပုရိမသံဃာအဝင်ပင်တည်း။

၃။ ဇေတဝန်မည်သော အာရာမ်ကျောင်းတော်ကို အဋ္ဌကထာနှင့် တကွ ပိနည်းငါးကျမ်း ဝါစုဂ္ဂတရသော ရှင်ဂုဏာဘိရာမအား တင်လျှူတော်မူသည်၊ ထိုအရှင်ကား ရှင်အာနန္ဒာ အနွယ် ပစ္ဆိမသံဃာ အဝင်တည်း။

၄။ ကုလားကျောင်းမည်သော အာရာမ် ကျောင်းတော်ကို ရှင်အာဒိစ္စရံသီအား တင်လျှူတော်မူသည်၊ ထိုအရှင်လည်း ရှင်အာနန္ဒာအနွယ် ပစ္ဆိမသံဃာအဝင်ပင်တည်း။

၅။ ရွှေကျောင်းမည်သော အာရာမ်ကျောင်းတော်ကို ရှင်သုဓမ္မာလင်္ကာရအား တင်လျှူတော်မူသည်၊ ထိုအရှင်လည်း ငင်းအနွယ် ငင်းဂိုဏ်းဝင်ပင်တည်း။

၆။ အိမ်နိမ့်မည်သော အာရာမ်ကျောင်းတော်ကို ယခင်ကျောင်းမတော်နေ ဆရာတပည့်ရင်း ဆန်း,အလင်္ကာ, ကလာပ်,ဝိဒက်, ဒဏ္ဍီ, ဗာဟိ, ဗေဒင်နှင့်တကွ သဒ္ဒါ, ဉာဏ်ကျမ်းတတ်သော သက်ပန်း မြင်စိုင်း အရပ်တွင်နေသော အသက် ၂၀-နှစ်သာရှိသော ရှင်ဝရပတ္တအား တင်လျှူတော်မူသည်၊ထိုအရှင်လည်း ကျောင်းမတော်နေ ဆရာအနွယ်ဂိုဏ်းဝင်ပင်တည်း။

၇။ တောင်စွန်းကျောင်း မည်သော အာရာမ်ကျောင်းမတော်ကို ရှင်သိရီပုညဝါသီအား တင်လျှူတော်မူသည်၊ ထိုအရှင်လည်း ယခင်ကျောင်းမတော်နေ ဆရာအနွယ်ဂိုဏ်းဝင်ပင်တည်း။

[ရာဇဝင်နှင့်စာတမ်းများ ကျောင်းစဉ်မညီမညွတ်၊ အမည်မျှ ကွဲပြားသည်။]

ကျောင်းမတော် အရှေ့မြောက်တွင်လည်း မင်းကြီးကိုယ်တိုင် လက်တော်နှင့် ကိုင်၍ ဗောဓိညောင်ပင် စိုက်တော်မူ၏၊ စကားခုနစ်ကျောင်းအားလည်း ဝတ္တုကံမိုယ်းမြေ,အလုပ်အကျွေးအရံစောင့်လျှူတော်မူ၏။

[စကားသစ်ဖြင့်ဆောက်လုပ်သည်ဖြစ်၍ စကားခုနစ်ကျောင်းဟု ခေါ်ဝေါ်ကြသည်။]

ထိုစကားခုနစ်ကျောင်းကို တင်လှူသော ဆရာခုနစ်ပါးလည်း သထုံနွယ် ရှေးသံဃာ, ပုဂံနွယ် နောက်သံဃာအဝင်ဖြစ်၍ သီလဝန်, ဂုဏဝန်,လဇ္ဇီပေသလ,သိက္ခာကာမဖြစ်ကြသောကြောင့်မြင်စိုင်းပင်းယဝယ် သာသနာတော်မြတ် အဟုတ်အဟတ် ထိုအခါစည်ပင်သန့်ရှင်း ထွန်းလင်းစွာ၏၊ ထိုခုနစ်ကျောင်းဆရာတို့က သက်ဆင်း၍ မြင်စိုင်းပင်းယစစ်ကိုင်းအဝပြန့်ပွားလေသော သံဃာကား ထောင်,သောင်းမကရှိလေသတည်း၊ ထိုသို့သထုံ, သီဟိုဠ်အနွယ်အဆက်က လာသဖြင့် သန့်ရှင်းစင်ကြယ်စွာ ဖြစ်ပါလျက် စကားခုနစ်ကျောင်း သံဃာစုကပင် ပါရာဇိကဏ်၌ လာသောကိဋာဂိရိတိုင်းသား အဿဇိပုနဗ္ဗသုကရဟန်းများကဲ့သို့ ယုတ်မာ ဆိုးသွမ်းကြ၍ ပွဲကျောင်းဂါမဝါသီ ဖြစ်လေကုန်သည်၊ လဇ္ဇီပေသလရဟန်းတို့လည်း စကားကျောင်းကထွက်သွား၍ အခြားသင့်ရာနေလေကုန်သည်။

### စကားကျောင်းရဟန်းတို့ပွဲကျောင်းဖြစ်ခြင်း

စကားကျောင်း ရဟန်းတို့ ပွဲကျောင်းဂါမဝါသီ ဖြစ်သော အကြောင်းကား—

ဝတ်မိုယ်း,ဝတ်မြေအများ ဥစ္စနာမင်းကြီး လှူဒါန်းခဲ့သည်တွင် ထိုဝတ်မိုယ်း,ဝတ်မြေကအဘို့အစုအခွန်ဘဏ္ဍာများကို တောင်းခံအံ့သော ၄၊ ဥဿာဟမပြုလို၍ကျောင်းမတော်နေ ရှင်သုဓမ္မမဟာသာမိဆရာက ဝတ္ထုကံသိမ်း, သာသနာစိုး,ဝတ်စားသံဃာဟူ၍ သီသန့်ခြားနားခန့်ထားသည်။

၁။ ဝတ္ထုကံသိမ်းကား အခွန်ဘဏ္ဍာကို ကောက်ခံ သိမ်းဆည်းရသည်။

၂။ သာသနာစိုးကား တရားနှင့်အညီကျင့်ဆောင်ကြအောင်ဆုံးမရသည်။

၃။ ဝတ်စားကား အဘို့အစုဝေဘန်သည်ကိုခံစားရသည်။

ထိုရောအခါ ဝတ္ထုကံမိုယ်း,မြေကိုမှီ၍ အမှုအခင်း ပွားများသောကြောင့်ပရိယတ်,ပဋိပတ်လျော့သည်ကိုမကြိုက်မနှစ်သက်ဟူ၍ ရှင်သာ

သနဓရ,ရှင်ပရက္ကမညီနောင်တို့စကားကျောင်းကထွက်ပြီးလျှင် တူးရွင်းခြေတောင်တွင်ရှင်သာသနဓရနေလေသည်၊တောင်ဘီလူးကုန်းစစ်ကိုင်းချောက်များတွင် ရှင်ပရက္ကမညီနောင်တို့ နေကြလေသည်၊ ထိုဆရာတို့ကို တောနေကေစာရ-ဟုခေါ်ကြသည်၊မြို့ရွာအနီးကျန်ရစ်သောရဟန်းတို့ကိုဂါမဝါသီဗဟုစာရ-ဟုခေါ်ဝေါ်ကြသည်၊ထိုတွင်ကစ၍အရညဝါသီ, ဂါမဝါသီအနေနှစ်ပါးကွဲပြားကြသည်၊ ဝတ္တုကံမိုယ်းမြေ,အခွန်ဘဏ္ဍာကိုကောက်ခံထိန်းသိမ်းသော ရဟန်းများလည်း "သယ်ရာဇာ-သယ်ဇာ"ဟု အခြားဖြစ်လေသည်။

### ရှင်ယောင်အရည်းနှင့် အလဇ္ဇီဒုဿီလအထူး

ရှင်ယောင်အရည်းနှင့် အလဇ္ဇီဒုဿီလ-ဟူ၍ ခေါ်ဝေါ်သောမြန်မာမှုစကားနှစ်ပါးအထူးကား—

၁။ "သမ္ဗုဒ္ဓစစ်၊ရင်နှစ်ပညာ၊ ဆည်းပူးရှာ၍၊ ရှေးခါသော်လည်း၊ သူတော်နည်းဖြင့်၊ အရည်းပီလှ၊ စွန့်ဘူးစွ"ဟု ရှေးသူဟောင်းတို့ဆိုသည်နှင့်အညီ သိက္ခာမတင်, သိမ်မဝင်ဘဲ ရသေ့ရဟန်းအသွင်နှင့်နေသူကိုအရည်း,

၂။ သိက္ခာတင်လျက်, သိမ်ဝင်လျက် တရားသဖြင့်မကျင့်သူကို အလဇ္ဇီဒုဿီလဆိုသည်-ဟုမှတ်လေ။

စကားခုနစ်ကျောင်းဆောက်လုပ်ခြင်းအကြောင်းပြီး၏။

---

## ၂၉—ဥစ္စနာမင်းကြီး ညီတော်ကျော်စွာမင်းဖြစ်ခြင်းအကြောင်း

### ဆင်ဖြူငါးစီးရှင်

သက္ကရာဇ် ၇၀၄-ခုနှစ်တွင် ခုနစ်ကျောင်းတကာ ဥစ္စနာမင်းကြီးထင်ရှားရှိစဉ်ပင် ညီတော်ကျော်စွာမင်းဖြစ်တော်မူ၏၊ မင်းဖြစ်သောအကြောင်းကား ကျော်စွာသည် ပင်လယ်ကိုစား၍ ဒုစရိုက်အမှုနှင့်သာ မွေ့လျော်ပျော်ပါးနေသည်ကို တောကစားရာကအပြန် ညဉ့်တွင်သုစရိုက်အမှုကိုကျင့်လေ၊ ဥပုသ်သီတင်းဆောက်တည်လေ၊ မကြာမတင်ဆင်ဖြူရောက်လတံ့-ဟုပုဏ္ဏားအသွင်ဖြင့် သိကြာမင်းဆိုလာမက်၏၊ ကျော်စွာလည်း အိပ်မက်ပြသောနေ့ကစ၍ ငြိုးခြီစွာကျင့်၏၊ဥပုသ်

မသန့်မစင်ထိမက်ပြန်၍ မချွတ်ဆင်ဖြူရမည်-ဟု ရှာဖွေစေသော် တွေ့၍ကိုယ်တိုင်ကျော့တော်မူသည်၊ ဆင်ဖြူငါးစီးရတော်မူ၏။

၁။ ဟိုင်းတစီး-ပုလဲတမူး,
၂။ တံတစီး-မဟာကေသရ,
၃။ စွယ်စုံတစီး-သန်မြင်စွာ,
၄။ ဇင်းဟိုင်းတစီး-ဥပေါသထ,
၅။ လက်ျာတယ်တစီး-ချစ်စွာမရဲ,

သည်ဆင်ဖြူငါးစီးရကြောင်းကို ဥစ္စနာမင်းကြီးအား အမတ်တယောက်လျှောက်လာ၏၊ ဥစ္စနာမင်းကြီးလည်း ငါ့ညီဆင်ဖြူရသလောဟုမေးတော်မူ၏၊ထိုအကြောင်းကိုငါးစီးရှင်ကြားလျှင်ညီ-ခေါ်ပေသည်ဟု အားရတော်မူ၍ကြားခဲ့သသူကို ဆင်မတစီးဆုပေးတော်မူ၏၊ မယုံ၍တဘန်လျှောက်ပြန်စေသည်တွင်လည်း ယခင်နည်းပင်ငါ့ညီ-ခေါ်ပြန်သည်-ဟု ကြား၍အားရတော်မူသဖြင့် နောက်စေသသူကိုလည်းဆင်မတစီးဆုပေးတော်မူပြန်၏၊ ညီ-မခေါ်ဘူးဘဲခေါ်ပေသည်-ဟု နှစ်သက်အားရရှိသတည်း။

ညီ-မခေါ်သောအကြောင်းကား နန်းကျကျော်စွာ မိဖုရားစောဦးကိုသန္ဓေသုံးလနှင့်ပင် တစီးရှင်မိဖုရားမြှောက်၍ ဥစ္စနာကိုမြင်ရကား ဥစ္စနာသည်တစီးရှင် သားရင်းမဟုတ်၊ ကျော်စွာသာ သားရင်းမှန်သည်၊ ထိုအကြောင်းကိုစွဲ၍ညီ-မခေါ်လေသည်-ဟူ၏၊ ညီတော်ကျော်စွာဆင်ဖြူရလျှင် နောင်တော်ဥစ္စနာ ရှိရှားခန့်ညား၍ ညီတော်အား မင်းအဖြစ်ကိုဆောင်နှင်းလေ၏၊ နောင်တော်အနောက်တံခါးသို့ ထွက်လျှင် ညီတော်အရှေ့တံခါးက ဘွင့်၍မင်းပြုတော်မူ၏၊ ဆင်ဖြူငါးစီးရ၍ငါးစီးရှင်-ဟုတွင်သတည်း၊ တံဆိပ်နာမံမှာခမည်းတော်နှင့်အတူ "သီဟသူ"ပင် အဘိဓာန်ဋီကာ,ဇာလိနီဋီကာများတွင်ဆိုသည်။

### ငါးစီးရှင်လက်ထက်ရဟန်းဆိုးကောင်းညီမျှခြင်း

ငါးစီးရှင် လက်ထက်လည်း ပွဲကျောင်းဂါမဝါသီ ဖြစ်လေသော စကားကျောင်းသားပုဂံအရည်းတို့က ကြွင်းကျန်သောရှင်ယောင် အ

ရည်းတို့လည်းများပြားသည်၊ သထုံနွယ်ရှေးသံဃာ, ပုဂံနွယ်နောက်သံဃာတို့လည်း များပြားသည်၊ အဆိုးအကောင်းထပ်တူထပ်မျှရှိ၏။

တရံရောအခါ ငါးစီးရှင်စားတော်ခေါ်ခါနီးတွင် ရှင်ယောင် တယောက်ပရိက္ခရာရှစ်ပါးလွယ်၍ ရွှေတော်ဝယ်ရပ်လာ၏၊ အကြောင်းကိုမေးလျှင် ဆွမ်းအလို့ငှါရပ်လာသည်ဆို၍စားတော်ခေါ်လုဆဲ လက်တော်ဆေးပြီးမှပင် အလွန်ကြည်ညိုစွာသောနှလုံးရှိသဖြင့် မနောလင်ပန်းနှင့် စီရင်ထားသောစားတော်အားလုံးကိုလှူလိုက်လေ၏၊ဤရဟန်းသည်ကား ဆွမ်းခံအံ့သောအခါလွန်၍ မွန်းတည့်လုမှ ဆွမ်းရပ်လာသည်၊ ပုထုဇဉ်ရဟန်းမဟုတ်၊အဘိညာဉ်နှင့်ပြည့်စုံသော ရဟန္တာမြတ်ဖြစ်ရာသည်၊ ငါ့ကိုကုသိုလ်ကောင်းမှုများစေလို၍ ရပ်လာလတ်သည်ဟု အမတ်တို့ကိုမိန့်တော်မူပြီးလျှင် မင်းချင်းတယောက်ကိုလိုက်၍ကြည့်လေ-စေသော် ရှင်ကောင်းမဟုတ်၊ ရှင်ယောင်ဖြစ်၍ မယားသပိတ်လှမ်းနှင့်သည်ကိုမြင်လေ၏။

မင်းချင်းလည်းအဆင်အခြင်ပညာရှိသသူဖြစ်၍ မင်းကြီးလည်း အတိုင်းထက် အလွန် သဒ္ဓါကုသိုလ်ပွားစေ၊ ငါလည်းမျက်နှာရစေ၊ ရှင်ယောင်လည်း အပြစ်လွတ်စေ-ဟု နှလုံးထားပြီးလျှင် အမိန့်တော်အတိုင်း ကျွန်တော်လိုက်၍ကြည့်သည်၊ ကြည့်စဉ်ပင်ကွယ်လေသည်ဟုလျှောက်၏၊ငါးစီးရှင်လည်း ငါတွေးတော်မူသည့်အတိုင်းမချွတ်မှန်သည်ဟု လက်ရိုးတန်းတော်မူ၏၊ထိုနေ့တွင်ပင် ပင်းယပြည်စိုးသည်ဆင်ဖြူတစီးနှင့်တူသော မြင်းစိုင်လျှော်ကိုယူ၍ လာပြီဟုကြားတော်မူလျှင် ယခုငါလှူသောကုသိုလ်တော်အကျိုးဖြစ်သည်ဟူ၍ မိန့်တော်မူ၏၊ ထိုမြင်းရောက်လျှင် မင်းချင်းတယောက်ကို ပေါင်းထုပ်ဖြူပေါင်းစေ၍ ပြောင်းတောဝယ်နှင်စေသည်၊ မြင်သသူတို့ ဥဇျိုင်းငှက်ပျံသည် ထင်ကြကုန်၏၊ ထိုမြင်းကား ပင်းယက နံနက်ကြက်သက်ကိုနှင်လျှင် တောင်တွင်းကြီးကို ညကြက်တက်ကိုရောက်သော-ဟူ၏၊ ''တိမ်တိုက်ကွန့်မြူး'' ဟု အမည်သမုတ်တော်မူသည်။

[ဤသို့သောအကြောင်းကိုထောက်၍ ထိုမင်းလက်ထက်ပွဲကျောင်းဂါမဝါသီ ရှင်ယောင်အရည်းများလည်းရှိကြောင်းကိုသိရသည်။]

ဥဇ္စနာမင်းကြီးညီတော်ကျော်စွာ မင်းဖြစ်ခြင်းအကြောင်းပြီး၏။

---

## ၃၀-မင်းခေါင်ကြီးလက်ထက် လက်ဝှေ့သတ်ရဟန်းကြီး သဃ်ရာဇာအကြောင်း

ကိဋ္ဌာဂိရိတိုင်းသား ရဟန်းများတို့ လက်ဝှေ့ လက်ပန်းသတ်ခတ်ကြောင်းကို ''နိဗ္ဗုဋ္ဌုန္တိပိ ဟတ္ထေဟိပိ ယုဇ္ဈန္တိ''ဟု ဝိနည်းပါဠိရှိသကဲ့သို့ ထိုကာလပွဲကျောင်းဂါမဝါသီတို့သည် ပွဲလမ်းဝင်၍ လက်ဝှေ့ လက်ပန်းလည်းသတ်ခတ်ကြကုန်သည်၊အောင်စည်းခုံသဃ်ရာဇာသည် လက်ဝှေ့ဆုဖြင့် နှစ်တိုင်းမြင်း ၁၅-စီး ၂၀-ပင်ရသည်-ဟူ၏၊ မင်းခေါင်ကြီးလက်ထက် ကုန်းဘောင်စော်ဘွားက လက်ဝှေ့ကောင်း ရှမ်းကြီးကိုအဝသို့ခေါ်ခဲ့၍ လက်ဝှေ့မော်ကွန်းတင်မည်ဟုလာသည်ကိုအဝစစ်ကိုင်းသတ်ဘက်မရှိ၍ သဃ်ရာဇာသို့စုံစမ်းစေသော် ငါကားအထက်မင်းများလက်ထက်လူပျိုလူရွယ်ဖြစ်၍ ကျော်စောရုံမျှသာသတ်သည်၊ ယခုမှာအသက် ၆၉-နှစ်အရွယ်ကြီးပြီဖြစ်၍ သေအောင်သတ်တော့မည်ဟုဆိုလိုက်သည်၊ မသေပါစေနှင့်တန်ရုံသာသတ်ပါဟု ဆင့်ဆိုပြီးမှ စကားကျောင်းတော်မော်ကွန်းစိုက်သော မုခ်ဝတံခါးအရှေ့ငါးတာခြားကုန်းတွင် မင်းနှင့်စော်ဘွားနေ၍၊ ရဟန်းရှင်လူများလည်း ထိုကုန်းပြည့်မျှကြည့်ရှုကြသည်၊ ရှမ်းကြီးနှင့်အောင်စည်းခုံသဃ်ရာဇာလည်း သတ်ခတ်ကြမည့်အရေးအရာ''ဟို-ဟာ''ဆို၍ ကခုန်ပြီးလျှင် သဃ်ရာဇာက ခြေခတ်ယောင်ယောင်ချောက်၍ လကျာ်လက်နှင့် ရှမ်းကြီးကိုသတ်လိုက်သည်၊ ရှမ်းကြီးမျက်နှာနောက်မှာနေလေ၏၊ ကုန်းဘောင်စော်ဘွားက သေသော်ပင် အမြင်ကောင်းသေး၏၊ ယခုမှာ အမြင်မကောင်းပါတကားဟုဆိုသည်တွင် လက်ဝဲလက်နှင့် သတ်လိုက်ပြန်သည်၊ ရှမ်းကြီးမျက်နှာရှေ့မှာနေမြဲနေပြန်လေ၏၊မင်းနှင့်စော်ဘွားလည်းအံ့ဘွယ်ရှိလှပေသည်ဟုဆို၍ မြင်း-၂၊ဖျင်လိပ်-၃၊ငွေ ၁-ပိဿာ ဆုလာဘ်ပေးကြလေ၏၊ ဤသို့ပွဲကျောင်းဂါမဝါသီတို့ တရားတော်နှင့်မညီအကြူးအလွန်ယိုယွင်းဘောက်ပြန်ကျင့်ဆောင်ကြသည်၊ သာသနာတော် ဘေးရန်ဖြစ်လေသည်ကိုသံဝေဂရ၍ သာသနာတော် ဘေးရန်မဖြစ်အောင် ပြုစုချီးမြှင့်စေခြင်းငှာ သမိုင်းစာတမ်းရှိသည့်အတိုင်း ဆိုလိုက်သည်၊သံဝေဂရသည်မှတပါးဆိုကျိုးမရှိပြီ။

[မင်းခေါင်ကြီးလက်ထက် လက်ဝှေ့သတ်သဃ်ရာဇာအကြောင်းပြီး၏။

---

## ၃၁-ဆူးတွင်းပစ်ဆရာတော်အကြောင်း

### ဆူးချုံတွင်း၌ပစ်ထားသော သူငယ်

သက္ကရာဇ် ၁၁၃-ခုနှစ်တွင်သားတော်ကျော်စွာမင်း ဖြစ်တော်မူ၍၊ ခမည်းတော်နှင့်ငယ်မည်တံဆိပ်နာမံအတူခံတော်မူသည်၊ ခမည်းတော် လက်ထက် ဆင်ဖြူငါးစီးအနက် လေးစီးသာ ထိုမင်းတွင် ရှိတော့သည် ဖြစ်၍ အဘိဓာန်ဋီကာ နိဂုံးတွင်“စတုသေတိဘိန္ဒော”ဟုဆိုလေသည်၊ ဣဘသဒ္ဒါဆင်ဟော၊ ဆင်ဖြူ ၄-စီးရှင်-ဟူလိုသည်၊မောပါနရသူလက် ထက်ကား ၃-စီးသာကျန်၍နရသူကိုဆင်ဖြူ ၃-စီးနှင့်တကွ မောရှမ်း တို့ ဘမ်းယူလေသည်၊ ထိုမင်းလက်ထက် ကျမ်းဂန်တတ်လှစွာသော စတုရင်္ဂဗလမည်သော အမတ်ကြီးသည် အဘိဓာန်ဋီကာကို စီရင်၍၊ သင်္ကရိုင်ကျမ်းနှင့်တကွ ပိဋက ၃-ပုံ ဟူသောတောကြီး၌ မငြိမတွယ် သော ဉာဏ်ဖြင့် သွားစွမ်းနိုင်သည်-ဟူ၍ ကိုယ့်အစွမ်းသတ္တိကို ၎င်း နိဂုံးတွင်ဆိုသည်။

စကားကျောင်းအနီးတွင် ငါးစီးရှင် သားတော် ၄-စီးရှင်ကျော် စွာလက်ထက် ကျောင်းကြီးသာယာစွာ ဆောက်လုပ်၍ မည်သည့် ပုဂ္ဂိုလ်ကို-ဟု မရည်မတင်ဘဲ ကျော်စွာကျောင်း-ဟု ထား၍၊ သီလဝန်, ဂုဏဝန်မှစ၍ ရဲရင့်တည်ကြည်သော ပုဂ္ဂိုလ်တက်နေပစေ-ဟု သတင်းစကားပျံ့နှံ့စေလျက် ထားသတည်း၊ ထိုကျောင်းကိုမြောက် ဘက် သာစည်ရွာသား ပုဂ္ဂိုလ်တဦးတက်နေလေ၏၊ ထိုပုဂ္ဂိုလ် အကြောင်းကား သာစည်ရွာတွင်အသည်တဦးသည်သားငယ်ကိုကျောင်း မှာစာသင်အပ်ထားသည်၊ ကျောင်းသို့မသွားမနေလို၍ ခြိမ်းချောက် အံ့သောအခါ ဆူးချုံထက်တွင် တွန်းလိုက်၏၊ သူငယ်လည်းထွက်ပြေး လေ၍ အိမ်သို့မလာ ကျောင်းမှာအမြဲနေလေ၏၊ မိဘအထံမလာမ ရောက်ဘဲ တစတစစာပေသင်ကြားလွှင့်ပါးလေသော် ရှင်ကပဉ္စင်းဖြစ် ၍ ပုဂံပြည်ထဲသို့ရောက်လေ၏၊ ဉာဏ်ပညာရှိလှ၍ စာပေရမိသော ကြောင့် ရောက်ရာအရပ်တိုင်းမှာ ဆရာတို့ ချီးမြှင့်မစသဖြင့် ကျော် စောထင်ရှားစွာသတည်း။

## ဆူးတွင်းပစ်ဆရာတော်ဖြစ်လာခြင်း

ထိုရောအခါ မိဘတို့လည်း ကာလလျှားသဖြင့် သေရှင်မသိမြော် ခေါ်လျက် နေကြ၏၊ ထိုအကြောင်းကို ကြားသော် တို့သားပင်ဖြစ်မည် အတွေးအထင်နှင့် အဘလိုက်လေ၍ ပုဂံမှာ တွေ့လေလျှင် သားရှင်ပဉ္စင်းကို လုပ်ကျွေးမွေးမြူ၏၊ စာပေကြိုးစား သင်ကြားစဉ်မည်သို့မျှမဆို ကျွေးမွေးဘိုင်းသာ ဆွမ်းပန်းသုံးဆောင်၏၊ အခါတပါး၌ လုပ်ကျွေးသောအဘကို ယနေ့ဆားနေ်သည်၊ ယနေ့ဆားပေါ့သည်အစရှိသည်ဖြင့်ပြောဆိုဖန်များသည်တွင် အလျှင်ရှေးကအမောင်မည်ကဲ့သို့မျှမဆို၊ ယခုမှဆိုဖန်များသည်-ဟု အဘကဆိုလျှင် အလျှင်ရှေးက စာပေမကျ၊ ယခုမှစာပေကျ၍ ကိုယ်လက်ဖြည့်တင်းလိုသဖြင့်ဆိုမိသည်-ဟု သားရှင်ပဉ္စင်းကဆို၏၊ ထိုစကားကို အဘကြား၍ ယင်းသို့တပြီးကား- အမောင်အမိလည်းမြော်တလှလေပြီ၊ ရပ်ရွာသို့ပြန်၍မျက်နှာပြပါ-ဟု အဘကဆိုသော် မြောက်ဘက်ရပ်ရွာသို့ပြန်မည်လာကြသည်တွင် ပင်းယမြို့သို့ဘုရားပုထိုးရှိခိုးအံ့သောငှာ ဝင်သွားသဖြင့် ထိုကျောင်းအနီးသို့ ရောက်၍ ထိုစကားကို ကြားလေသဖြင့် ထိုကျောင်းသို့ တက်နေလေ၏။

အစောင့်အရှောက်တို့လည်း တက်နေသည်ကိုမြင်၍ မင်းအား လျှောက်ထားကြ၏၊ မင်းလည်း စတုရင်္ဂဗလအမတ်ကြီးကို စုံစမ်းချေ-ဟု စေ၏၊ အမတ်ကြီးသွား၍ ထိုပုဂ္ဂိုလ်ကို ပါဠိ, အဋ္ဌကထာ, ဋီကာ ကျမ်းဂန်ခက်ရပ်ခက်ဆစ် မေးမြန်းစုံစမ်းသည်၊ မေးမြန်းစုံစမ်းတိုင်း ပင်ရရမိမိရှိ၍ မင်းအားအကြောင်းပြန်ကြားသဖြင့် ထိုကျောင်းကို ထိုပုဂ္ဂိုလ်အား တင်လှူလေ၏၊ ယခင်စဉ်ကအကြောင်းကိုစွဲ၍ ဆူးတွင်းပစ်ဆရာတော်-ဟုတွင်သည်၊ ရဟန်းမည်ကားရှင်နာဂိတမည်လေသတည်း။

### ပင်းယ၌ကျမ်းပြုဆရာများ

၁။ မင်းဆရာဖြစ်လျှင် "သဒ္ဒသာရတ္ထဇာလိနီ" သဒ္ဒါငယ်ကျမ်းကို စီရင်၍ ယခုထက်တိုင်ထင်ရှားရှိ၏၊ ထို့ကြောင့် သဒ္ဒသာရတ္ထ- ဇာလိနီကို ရှင်နာဂိတပြုသည်-ဟု ပိဋကသမိုင်းများတွင် ဆိုလေသည်။

[ထိုဆရာလက်ထက် ဓုရန္ဒစ်ပါးတွင် စာပေသင်ကြားသော ဂန္ထဓုဇ ရဟန်းများလည်းအများရှိ၏၊ ကမ္မဋ္ဌာန်းဘာဝနာ စီးဖြန်းသော သက်ကြီး

ရွှယ်ရင့်ဝိပဿနာဓုရ ရဟန်းများလည်း တထောင်လောက်များသည်-ဟူ၍၊ အလုပ်အကျွေးအဘကိုလည်း သူဌေးအရာပေး၍ ချီးမြှောက်သဖြင့် ယခုထက်တိုင် သူဌေးရွာ သာစည်-ဟုတွင်သတည်း။]

၂။ ကစ္စာယနဝဏ္ဏနာကို ပင်းယမြို့အဘယဂိရိတောင်တွင်ဟံသာဝတီ ဆင်ဖြူများရှင် မြေးတော် မင်းရဲကျော်စွာ ကျောင်းနေ ရှင်မဟာဝိဇိတာဝီ ပြုသည်၊ဝါစကောပဒေသကိုလည်း ၎င်းဆရာ ပင်ပြုသည်။

၃။ သဒ္ဒဝုတ္တိကို ပင်းယရှင်သဒ္ဓမ္မဂုရု ပြုသည်။

ဤသို့အစရှိသည်ဖြင့် ပင်းယ၌ကျမ်းပြုဆရာတို့ ကျမ်းဂန်များစွာပြုစုကြ၏။

[သက္ကရာဇ် ၆၈၅-ခုနှစ်တွင် တစီးရှင်သားတော်အသင်္ခယာစောယွန်း စစ်ကိုင်းကြီးကိုအုတ်မြို့တည်တော်မူသည်၊စစ်ကိုင်းတွင်စီရင်ပြုစုသော ကျမ်းဂန်မရှိ။]

ဆူးတွင်းပစ်ဆရာတော်အကြောင်းပြီး၏။

---

## ၃၂-သတိုးမင်းဖျားလက်ထက် ရှင်သွမ်းရှင်ပျက်တို့ မဆိုးသွမ်းဝံ့ခြင်းအကြောင်း

သက္ကရာဇ် ၇၂၆-ခုနှစ် ကဆုန်လ စစ်ကိုင်းပျက်သည်၊ နယုန်လ ပင်းယပျက်သည်၊ တပေါင်းလ အဝကို သတိုးမင်းဖျားတည်တော်မူသည်၊ ထိုရောအခါ မြစ်ညာဝတွင် နဝရတ်ရွှေဘောင်နှင့်နေ၍ မြို့တည်မည်ဟု စီရင်တော်မူစဉ် ညည့်ဝယ်ဤသို့အိပ်မက်မြင်သည်။

၁။ မြို့ရာအရပ်၌လက်ပံပင်ကြီးတပင်ရောက်၏။

၂။ အထက်ဖျား၌ ဆဒ္ဒန်ဆင်ပျံနား၏။

၃။ ခက်မလေးဖြာ၌ ပရိက္ခရာရှစ်ပါးနှင့်တကွ ရဟန္တာ ၄-ပါးနေ၏။

၄။ အပင်ရင်း၌ ခြသေ့ စောင့်၏။

၅။ အမြစ်ဖျား၌ နဂါးစောင့်၏။

၆။ ခက်မ ၄-ဖြာတွင်နေသော ရဟန္တာ ၄-ပါးကို ဂဠုန်သုတ်ယူလေ၏။

ဤအိပ်မက်ခြောက်ပါးကိုမြင်မက်သည်ကို ပတူကြီးသယ်ရာဇာဘတ်ရ၏။

၁။ လက်ပံပင်တို့သဘောသည် သုံးနှစ်တကြိမ်ထူးလွန်၍ စည်ပင်သကဲ့သို့ ၃-နှစ်တကြိမ် ရွှေပြည်တော်ထူးလွန်၍ သာယာစည်ပင်မည်။

၂။ ဗုဒ္ဓဟူးသား ဤမြို့ကိုတည်မည်။

၃။ လေးမျက်နှာ သာသနာတော်ထွန်းလင်းမည်။

၄။ ရန်သူအပေါင်းတို့ကြောက်ရွံ့ခန့်ညားမည်။

၅။ ဤပြည်ဝယ် အဆုံးစွန်သောမင်းသည် စနေနံဖြစ်မည်။

၆။ တနင်္ဂနွေသား မင်းပြုသောအခါ သာသနာတော်ကို အထူးသဖြင့်သုတ်သင်မည်—

ဟူ၍ အိပ်မက်ခြောက်ပါးကို အစဉ်အတိုင်း ဘတ်ရာတွင် သုံးနှစ်တကြိမ်ထူးလွန်၍ သာယာစည်ပင်မည်ဟူသည်ကား ဤပြည်သည်သုဉ်ဖျင်းသည်ပင်မရှိ၊အဖန်တလဲလဲသာယာစည်ပင်မည်ဆိုလိုသည်၊အဆုံးစွန်သောမင်းသည် စနေနံဖြစ်မည်ဟူသည်ကား စနေနံမင်း လက်ထက်ပြောင်းလဲမှ ဤပြည်သုဉ်ဖျင်းမည်၊တပါးနံမင်းတို့လက်ထက်ပြောင်းလဲသော်လည်း ဤပြည်မသုဉ်မဖျင်းနိုင်ဟု ဆိုလိုသည်၊ဤစကားများသည် ရာဇဝင်တွင်အထင်အရှားရှိလျက်ပင် အဓိပ္ပါယ်အထူးကိုသတိထားစေလို၍ ထုတ်နုတ်ရေးသားလိုက်သည်။

ပတူကြီးသယ်ရာဇာကား ဗေဒင်၌အလွန်လိမ်မာ၏၊ လောကဗဟုသုတများစွာရှိ၏၊ပိဋကကျမ်းဂန်မှာ အတန်အရာသာ၊ ထို့ကြောင့်ဗေဒင်နည်းကိုမှီ၍ လောကီဒီပနီကျမ်းကို စီရင်သည်၊လိင်အံ့ဝိဘတ် အနေအထားမသင့်သည့်အရာများသည်-ဟူ၍ ပညာရှိတို့ဆိုကုန်သည်။

သတိုးမင်းဖျားလက်ထက်စစ်ကိုင်းချောက်တွင် ရှင်ပျက်တယောက်သည်မှုံသည်မ ငွေနှံ့ထားသည်ကိုပျက်ကွက်လေသော် မင်းကိုယ်တိုင်စစ်၍ ရဟန်းဖြစ်လျက် ပျက်ကွက်ရာသလော-ဟု လက်တော်ဖြင့်ကွပ်ပြီး

လျှင် နန်းကြမ်းပေါက်ကချလေ၏၊ ထိုအကြောင်းကိုကြား၍ ရှင်ပျက် ရှက်သွမ်းများ အထင်အရှား မဆိုးမသွမ်းဝံ့ကြလေ။

သတိုးမင်းဖျားကို''သတ္တဝေါနာမ ဥတ္တရာပါရရာဇကုမာရော'' ဟု ဇာလိနီဋီကာတွင်ပါ၍စီသည်၊ ထို့ကြောင့်''သတ္တဝ''ကို သတိုးဟုမဟာ သကျသီဟသမိုင်းတွင် စတုတ္ထရတနာပုရမြို့တည် နန်းတည် ဆဒ္ဒန်ဆင် မင်းသခင် မင်းတရားကြီးအမတ် မဟာဓမ္မသင်္ကြံ ဖွဲ့ဆိုရေးသားလေ သည်၊နော်ရထာမင်းစောကို''အနုရုဒ္ဓဒေဝေါ''ဟု စူဠဝင်တွင်ပါ၍စီ သကဲ့သို့မှတ်လေ။

ရှင်သွမ်းရှင်ပျက်တို့မဆိုးသွမ်းဝံ့ခြင်းအကြောင်းပြီး၏။

---

## ၃၃-မင်းကြီးစွာစော်ကဲလက်ထက်ထင်ရှားသော မထေရ် ၃-ပါးအကြောင်း

### လောကသာရဆုံးမစာပြုဆရာတော်

သက္ကရာဇ် ၇၃၀-ပြည့်နှစ်တွင် မင်းကြီးစွာစော်ကဲ မင်းဖြစ်တော်မူ ၏၊ ပြည်ထဲချမ်းငြိမ်း သာယာမည့် အကြောင်းနိမိတ်ဖြစ်စိမ့်သော၄ါ ထမ်းရွက်ယပ်ကိုင်၍နန်းတက်တော်မူသည်၊ ထိုအခါအထက်ရခိုင်မှာ နေစဉ်ညီနောင်သုံးပါးမင်းဖြစ်မည်ကို အိပ်မက်မြင်သော ဆရာဘုန်း ကြီးက မင်းဖြစ်လျှင်ပင်ငါ့ကိုမေ့လေသည်-ဟုနှလုံးမသာရှိသဖြင့် ဘုန်း တော်ကြီး၍သက်တော်ရှည်လိုသော် အနောက်တောင်ထောင့်၌ စည်း ခုံတည်လေ-ဟုမှာလိုက်၏၊ မင်းကြီးစွာလည်း သက္ကရာဇ် ၇၄၅-ခုနှစ် တွင် အဝရွှေစည်းခုံကို တည်တော်မူ၏။

ယင်းရဲကျောက်ဆောင်အနီးတွင် ရှေးကရှိသော မုဋ္ဌောဘုရားကို ရေတိုက်၍ပြိုလေသော် ဓာတ်တော်ကြုတ်ကို ရောဝတီမြစ်ဝယ်ရှိသော ရောပထနဂါးမင်းရ၍ ကိုးကွယ်သိမ်းထားသည်၊ ရွှေစည်းခုံတည်မည့် ကာလတွင်မှ ဒါဌာနာဂမထေရ်အား ကြုတ်နှင့်တကွ ဓာတ်တော်ငါး ဆူကိုနဂါးမင်းပေးအပ်လာ၍ ထိုမထေရ်ကမင်းကြီးစွာမှာ ဆက်လျှင် နှစ်ဆူကိုယင်းရဲမုဋ္ဌောတွင် ဌာပနာသည်၊ သုံးဆူကိုရွှေစည်းခုံတွင် ဌာ ပနာသည်-ဟူ၍စာဟောင်းစာတမ်းရှိသည်။

ရွှေစည်းခုံတည်မိတွင်ပင် အဝမြို့လုံး ထိတ်ထိတ်လန့်လန့်ရှိချေ၏၊ ထိုအကြောင်းကို ရခိုင်ဆရာကြားလေသော် ငါ့ရဟန်းသားဖြစ်သည့်၊ မသင့်ချေ-ဟု အဝသို့လာ၍ကုက္ကိုပင်, ဆင်ကျုံးမော်ကွန်း, သရပါတံခါး, ရတနာ့ဂူတည်၍ရွှေစည်းခုံနှင့်ပြိုင်သည်တွင်မှ အထိတ်အလန့်မရှိ ပြေငြိမ်း၏၊ မင်းကြီးစွာလည်း ဆရာတော်အား များစွာပူဇော်သက္ကာ ပြုတော်မူ၏၊ "မဟာသယ်ရာဇာ" ဟူသော တံဆိပ်နာမံကိုလည်း လှူတော်မူ၏၊ ထိုရခိုင်ဆရာတော်ကား ဂါမဝါသီအန္တယ် သယ်ရာဇာသားတည်း၊ လဇ္ဇီပေသလမဟုတ်ဖြစ်၍ သာသနာတော်ဆက် ဆရာစဉ်သို့ မဝင်လေ။

[ရခိုင်မှာမင်းသားသုံးပါးကိုစာပေချစဉ်ကပင် လောကသာရဆုံးမစာကို ရခိုင်ဆရာတော်ပြုသည်၊ ရခိုင်ကပြုခဲ့၍ အဝသို့လာရာတွင် ဆက်သည်လည်းဆိုကြသည်။]

### သိကြားမင်းသေ၍စည်တီးသောရှင်ခေမာစာရ

အိမ်နိမ့်လက်ထက်ကစားသောအမြင့်မြို့တွင် ကျောင်းကြီးဆောက်လုပ်၍ ကိုးကွယ်ရင်း ထိုမြို့ဆရာကိုထီးဖြူနှင့်တကွ တင်လှူတော်မူသည်၊ သာသနာပိုင်လည်းအပ်တော်မူသည်၊အဝမြို့ဒန့်တောအရပ်တွင်လည်း စည်းခုံနှင့်ကျောင်းတည်တော်မူသည်။

တည်သောအကြောင်းကား—

ထိုကာလစကားကျောင်းက စာပေကျမ်းဂန်တတ်မြောက်၍ ထွက်ခဲ့သော ပရက္ကမအန္တယ်ဝင် မနာပြင်ငါးဆူအရပ်တွင် ကျောင်း၌နေသော ရှင်ခေမာစာရသည် ညဉ့် ၂-ချက်တီးကျော်အချိန် တိတ်ဆိတ်လှသည့်အခိုက် ဘုရားမှာ ဆွဲထားသောစည်ကြီးကို အချက်များစွာတီးခတ်စေ၏၊ နန်းတော်ကကြား၍ ဘုန်းကြီးပျံသလောဟု မေးလာသည်တွင် ဘုန်းကြီးပျံသည်မဟုတ်၊သိကြားမင်းသေ၍ စည်တီးသည်ဟု ရဟန်းများက ဆိုလိုက်သည်ကို အဘယ့်ကြောင့် သိကြားမင်းသေကြောင်းကိုသိသနည်းဟုတဖန်မေးလာပြန်၍ဘုရားနိဗ္ဗာန်ဝင်တော်မူခါနီး၌ သာသနာတော်ကို စောင့်ရှောက်ပါမည်-ဟု သိကြားမင်းဝန်ခံပြီးလျက် သာသနာတော်ကို ဆောင်ရွက်သောငါတို့အား မစောင့်ရှောက်ပါသောကြောင့် သိကြားမင်းသေသည်ဖြစ်မည်ဆိုပေသည်-ဟုရဟန်း

များကဆိုကြောင်းကို မင်းမှာလျှောက်ကြားလျှင် သဒ္ဓါကြည်ညို၍ ဝမ်းဘဲအင်းမြောက်ဘက်ဒန့်တောအရပ်တွင်ကျောင်းဆောက်၍ရှင်ခေမာစာရအားတင်လှူ၏၊ စည်းခုံနှင့် သိမ်လည်းသမုတ်၏၊ ထိုစည်းခုံနှင့်ကျောင်းတော်ကိုရည်၍ရာဇဝင်တွင် အဝဒန့်တော စည်းခုံနှင့်ကျောင်းတော်ဟုအလှူစာရင်းသွင်းလေသည်၊ ထိုဆရာကား သထုံဆက် သီဟိုဠ်နွယ်လဇ္ဇီပေသလဖြစ်၍ သာသနာဆက် ဆရာစဉ်သို့ဝင်၏။

### မင်းသားကိုခြေနှင့်ကန်သောဆရာတော်

ဘုရင်မင်းကြီးစွာလက်ထက် အသက် ၉-နှစ်ရွယ် သားတော်မင်းဆွေ, ၇-နှစ်ရွယ်သားတော်မင်းသိဒ္ဓတ်တို့ကို ပင်လယ်ကျေးသဃ်ရာဇာမှာအပ်၍ စာသင်ရလေ၏၊ သဃ်ရာဇာလည်း ပိဋက, ဗေဒင်တတ်လှသောကြောင့် မင်းသားတို့ ဇာတာကိုမြင်လျှင် အလျှင်မင်းဖြစ်စေလို၍''သိဒ္ဓံ နမော ဗုဒ္ဓါယ၊အအာ၊ဣဤ၊ဥဦ၊ဧဩ၊အံအား''ဟုစ၍ သင်စေ၏။မင်းဆွေ ၁၂-နှစ်ရွယ်ရှိသောအခါကိုယ်ကအအူထွက်၍ အဝမ္ဘိအလုံးကိုရစ်ပတ်မိသည်-ဟု သန်းယိမ်းချိန်တွင် အိပ်မက်မြင်လျှင် ဆရာတော်ကိုနိူး၍ ပြန်ပြောလေ၏၊ ဆရာတော်လည်း ကြားခြင်းထ၍ မင်းသားကိုခြေနှင့်ကျောက်သည်၊ တုံးလုံးလည်းလေ၏၊ အရှင်ဘုရားသို့စဉ်တိုင်အောင်ပြုဘိသည်-ဟု မင်းသားဆိုသည်ကို ငါပဉ္စင်းပျို ငါးဝါရကတောင်ဘီလူးပရက္ကမမှာ စာသင်သည့်ကာလ လေ့လာရာတွင် ငါဦးထုပ် ကျလေသည်ကို ငါခြေနှင့်နင်းမိ၍ မင်းဆရာဖြစ်မည် မချွတ်ပြီ၊ မင်းဆရာဖြစ်လျှင် တံတားဦးကိုယက်မလျှိုအမိုးနှင့်တံတားလုပ်မည်-ဟု အဓိဋ္ဌာန်ရှိသည်၊ မင်းသားမြင်သော အိပ်မက်အလို မကြာမတင်မင်းဖြစ်မည်၊ မေ့အံ့စိုး၍ ငါခြေနှင့်ကျောက်သည်၊ မင်းဖြစ်လျှင် ငါဓိဋ္ဌာန်သည့်အတိုင်းလုပ်ပါ-ဟု ဆရာတော်ကဆို၏၊ မင်းသားလည်း စိုးတော်မမူပါနှင့်၊ အလိုတော်အတိုင်းပြီးစီးစိမ့်မည်လျှောက်၏၊မင်းဖြစ်၍ပုဂံရွှေစည်းခုံသို့အဖူးအမြော်ရောက်သောနေ့ညဉ့်တွင် မင်းခေါင်ခံလေ-အိပ်မက်မြင်သောကြောင့် ''မင်းခေါင်'' ဟူ၍ တံဆိပ်နာမံ ခံတော်မူ၏။ ဆရာတော်နှင့်ချိန်းချက်သည့်အတိုင်းလည်း တံတားဦးကို ယက်မလျှိုအမိုးနှင့်တံတားလုပ်တော်မူ၏၊ ဆရာတော်ဆိုသမျှစကားကိုနာခံ၍ အမွေ

အနှစ်နှင့် ကျောင်းတံစိုးကိုလည်း စွန့်တော်မူ၏၊ ထိုဆရာလည်း လဇ္ဇီ ပေသလမဟုတ်၍ သာသနာဆက်ဆရာစဉ်သို့မဝင်။

မင်းကြီးစွာစော်ကဲလက်ထက်မထေရ် ၃-ပါးအကြောင်းပြီး၏။

---

## ၃၄—ရာဇာဓိရာဇ်အဝသို့ဆန်တက်ရာ စာကြိုသူမြတ် တားဆီး၍ပြန်ရကြောင်း

သက္ကရာဇ် ၇၆၆-ခုနှစ်တွင် ရာဇာဓိရာဇ်သည် ကတ္တူ, လွှန်းကြင်, ကျရွပ်, ထက်ရပ်အစင်းသုံးထောင်, ဗိုလ်တသိန်းခြောက်သောင်း, အမတ်ဒိန်မနိရွတ်,သမိန်ဖြတ်စ, သမိန်အဝနိုင်,သမိန်အဲပရဲ၊ သည်စစ်သူကြီး ၄-ယောက်နှင့်တကွ ပဲခူးကသည်ရေဝန်းတိုင်အောင် ရေကြောင်းဆန်လာ၏၊ ထိုရောအခါ ဘုရင်မင်းခေါင်လည်း မှူးကြီးမတ်ခိုင် အပေါင်း, ရဟန်းသံဃာ အပေါင်းနှင့် တကွ ရာဇာဓိရာဇ်ကို ပြန်လေအောင် နှုတ်ရေးလက်ရေးဖြင့် ဘယ်သို့စီရင်သော် သင့်မည်နည်း-ဟု တိုင်ပင်တော်မူ၏၊ မှူးတော်မတ်တော်,ဆရာတော်အပေါင်းလည်း မည်သို့မျှမဆို တိတ်တဆိတ်သာနေကြ၏၊ ပင်းယကျောင်းတွင် နေသောအသက် ၃၁-နှစ်, ပဉ္စင်း ၁၁-ဝါရသော စာကြိုသူမြတ် တပါးမူကား ရာဇာဓိရာဇ်ကိုသာ မဆိုနှင့်ဦး၊ ဇမ္ဗူဒိပ်မြေအပြင်ဝယ် ရှိလေသမျှမင်းအပေါင်းပင် လာစေကာမူ နှုတ်ရေးဖြင့် ပြန်လေအောင် ငါစွမ်းနိုင်၏-ဟု ဆို၏။

ဘုရင်မင်းခေါင်လည်း အလွန်အားရတော်မူ၍ အစွမ်းရှိတိုင်း မိန့်တော်မူပါ-ဟုတောင်းပန်၏၊ စာကြိုသူမြတ်လည်း ရာဇာဓိရာဇ်ကိုမြင်လိုကြောင်းနှင့်မေတ္တာစာဆက်သွင်း၍ခွင့်ရလျှင် ရာဇာဓိရာဇ်နှင့် တွေ့ဆုံ၍ချေငံသာယာဆန်းကြယ်စွာသောတရားစကားဖြင့် ပြောဟောဆုံးမ၍ ပဲခူးရောက်အောင် ပြန်လည်စေ၏၊ ဤသို့ဂုဏ်ကျေးဇူး အထူးနှင့်ပြည့်စုံသော ဗေဒင်,ပိဋက တတ်မြောက်လှစွာသော စာကြိုသူမြတ်သည် ပုဂံဂိုဏ်းလေးစုတွင် ရှေးသာသနာဝင် ရှင်အရဟံဂိုဏ်းအဆက်အနွယ် လဇ္ဇီပေသလ သိက္ခာကာမဖြစ်၍ သာသနာဆက် ဆရာစဉ်သို့ဝင်သည်။

ပုဂံအောက် စာကြို့အရပ်က ပင်းယမှာ စာပေသင်လာ၍ ပင်းယတွင် မင်းခေါင်ကြီး အမတ်ရာဇနန္ဒသင်္ကြံက ရွှေစည်းခုံ ဘုရားအနီးဆောက်လုပ်သော အထက်ကျောင်း-ဟု ခေါ်ကြသော ကျောင်း၌နေသောကြောင့် ပင်းယစာကြို့သူမြတ်-ဟုထင်ရှားသည်၊မိုးညှင်းမင်းတရားလက်ထက် သက္ကရာဇ်ဖြိုသင့်ကြောင်းကို စာကြို့သူမြတ်, မင်းကျောင်းသူမြတ်တို့က လျှောက်သည်-ဆိုသော စကားတွင်လည်း ထိုပုဂ္ဂိုလ်ပင်ဖြစ်သည်။

ရာဇာဓိရာဇ်ကိုစာကြို့သူမြတ်တားဆီး၍ပြန်ရကြောင်းပြီး၏။

---

## ၃၅–မိုးညှင်းမင်းတရားသက္ကရာဇ်ကိန်း ဖြိုခြင်းအကြောင်း

သက္ကရာဇ် ၇၈၈-ခုနှစ်တွင် ပုဂံနွယ်ရိုးနေနတ်ဖြစ်သော မိုးညှင်းမင်းတရားမင်းဖြစ်တော်မူ၏၊ ထိုမင်းလက်ထက် သိဃိုဠ်ရောက်ကြီး, သိဃိုဠ်ရောက်ငယ် မထေရ်နှစ်ပါး သီဟိုဠ်ကျွန်းကလာရောက်ကြ၍ မြန်မာတိုင်းနိုင်ငံ၌ သီဟိုဠ်သာသနာ သက်ဆင်းကြောင်းကို ယခင်အောက်သာသနာဆက် စကားက ပြခဲ့ပြီ။

ထိုရှေအခါ သက္ကရာဇ် ၈၀၀-ပြည့်နှစ်တွင် သက္ကရာဇ်ဖြိုကိန်းရောက်သည်၊ မဖြိုသော်မသင့်ချေ-ဟူ၍ စာကြို့သူမြတ်, မင်းကျောင်းသူမြတ်တို့ကလျှောက်သည်၊ မိုးညှင်းမင်းတရားလည်း ဖြိုကိန်းရောက်၍ မဖြိုသော်အကျိုးအပြစ်အဘယ်သို့ရှိသနည်း-ဟုမေးတော်မူ၍ပညာရှိတို့သည်ဖြိုကိန်းရောက်လျက်မဖြိုချေသော် ပြည်ရွာမငြိမ်မသက် သတ္တဝါတို့မချမ်းသာ-ဟူ၍ သင်္ကေတ[၁]ကျမ်းဆရာတို့ဆိုကုန်သည်၊ သက္ကရာဇ်ဖြိုသော မင်းတို့လည်း အသက်မရှည်၊ ဖြိုသည့်နှစ်တွင်ပင် အနိစ္စရောက်မြဲဖြစ်သည်-ဟုလျှောက်ကုန်၏၊မိုးညှင်းမင်းတရားလည်း သတ္တဝါတို့ချမ်းသာမည်ကိုသိလျက် ငါသို့သောမင်းသည် သေဘေးကိုကြောက်၍ မဖြိုနေချေသော်ကမ္ဘာကြေသော်လည်းဥဒါန်းမကြေပြောပစရာဖြစ်လေတော့မည်-ဟု မိန့်တော်မူ၍ ပိဋကတတ်, ဗေဒင်တတ်သော ပညာရှိ အ

---

၁။ သင်္ကေတ-အမှတ်အသား။

ပေါင်းနှင့် တိုင်ပင်တော်မူပြီးလျှင် သက္ကရာဇ် ၁၀၀-ပြည့်တွင် ၇၉၀-ခု ဗသျှုဆိဒြမုနိကိန်းဖြင့်ဖြို၍ ၂-ခုတည်ထားတော်မူသည်။

တောင်ဘီလူးအရပ်တွင် ရွှေဝမည်မှန်း နန်း၏လက်ျာ လဟာမြေပြင် ငွေစင်ဈေးဝယ် ကြီးကျယ်စွာသော မဏ္ဍပ်ကနား၌ မင်းသား, မင်းသမီး, မင်းမြေးမင်းဆွေ,မင်းမျိုးမင်းစဉ်, စော်ဘွားစော်ခံ,မှူးကြီးမတ်ရာ,ဗိုလ်ပါထက်ဝန်း, ရဟန်းပုဏ္ဏား ပရိသတ်လေးပါးတို့အလယ်တွင် ထီးဖြူကနက် မင်းခမ်းမင်းဆောင်ကျင်းပလျက်ထိမ်းမှတ်ဟောင်းသက္ကရာဇ်ကိုဖြို၍ ထိမ်းမှတ်သစ် သက္ကရာဇ် ၂-ခုတည်ထားတော်မူသည်၊ ရွှေငွေရတနာ, ဆင်,မြင်း, ကျွဲ,နွား, အဝတ်အစား,စပါးဆန်ရေမကြွင်း များစွာလည်း စွန့်ကြဲတော်မူသည်-ဟူ၍ တောင်တွင်းမင်း သိရိဇေယျသူရကျောင်းကျောက်စာတွင် ဆိုသည်။

ဤစကားတွင် စာကြို့သူမြတ်ကား ယခင်ကဆိုခဲ့သောပင်းယအထက်ကျောင်းနေ ပဉ္စင်းကျော်ပင်၊မင်းကျောင်းသူမြတ်ကား ပုဂံမင်းကျောင်းပုဂ္ဂိုလ်တည်း၊ ထိုဆရာများသည် ရှေးသာသနာ့ဝင် အရှင်အရဟံအဆက်အနွယ် လင်္ကာပေသလ သိက္ခာကာမ ဖြစ်ရကား-သာသနာဆက် ဆရာစဉ်၌ဝင်၏၊ မင်းမှု, ဗေဒင်မှုစကားများကို ပြောဆိုသည်မှာ သာသနာရေး,တိုင်းရေးပြည်ရေး မလွှဲမကင်းသာ တရားနှင့်လျော်ညီရုံမျှပြောဆိုသောကြောင့် အပြစ်မရှိ။

မိုးညှင်းမင်းတရားသက္ကရာဇ်ကိန်း ဖြိုခြင်းအကြောင်းပြီး၏။

---

## ၃၆-ထူပါရုံဒါယကာနရပတိကြီးမင်းဖြစ်ခြင်း အကြောင်း

သက္ကရာဇ် ၈၄၄-ခုနှစ်တွင် ထူပါရုံဒါယကာနရပတိကြီး ရတနာပုရ ရွှေဝမြို့ကြီး၌ မင်းဖြစ်တော်မူ၏၊ ထိုမင်းဆရာတော် ရှင်သဒ္ဓမ္မဋ္ဌိတိတပည့် ရှင်မဟာသာမိနှင့် အဘော်ရဟန်းသုံးပါး, သီဟိုဠ်မင်းဆရာ ရှင်သာရိပုတ္တရာထံ သိက္ခာတင်ယူနေထိုင်သော ရှင်သဒ္ဓမ္မစာရီနှင့် သီဟိုဠ်က ရဟန်းသံဃာတို့ကို ပင့်ဆောင်ခဲ့သဖြင့် မြန်မာတိုင်းနိုင်ငံ၌ သီဟိုဠ်သာသနာသက်ဆင်းကြောင်းကို ယခင်အောက် သာသနာဆက်

စကားကပြခဲ့ပြီ၊ ထိုဆရာတို့သည် နောက်သာသနာ၀င် သီဟိုဠ်အဆက် အနွယ် လဇ္ဇီပေသလဖြစ်ပေရကား သာသနာဆက် ဆရာစဉ်သို့ ၀င် လေသတည်း။

ထူပါရုံဒါယကာနရပတိကြီး မင်းဖြစ်ခြင်းအကြောင်းပြီး၏။

---

## ၃၇–ရေငုံဘုန်းတော်ကြီးနှင့်ရှင်မဟာအရိယ၀ံသ, ရှင်သဒ္ဓမ္မကိတ္တိတို့အကြောင်း

### စာတတ်သော်လည်းတတ်မှန်းမသိသောမထေရ်

ထူပါရုံဒါယကာ နရပတိမင်းကြီးလက်ထက်ဆီက ရတနာပုရ အ၀ပြည်ထဲတွင် ကျမ်းဂန်တတ်မြောက်လှသောရှင်မဟာအရိယ၀ံသဆရာ ကျော်စောထင်ရှားစွာဖြစ်၏၊ထိုဆရာကား ပင်းယစကားခုနစ်ကျောင်း မှရဟန်းကောင်းရဟန်းမြတ်တို့က သက်ဆင်းခဲ့သောပုဂံရှေးသာသနာ, နောက်သာသနာအနွယ်အဆက်အ၀င်ပေတည်း၊ ထိုဆရာသည် ပင်း ယစကားကျောင်းကပင်ပါဠိ,အဋ္ဌကထာ, ဋီကာကျမ်းဂန်များကိုသင် ကြား၍ မိန်းမကိုယ်၀န်ဆောင်တရွက်ခန့် ရွက်ဆောင်လောက်အောင် နှုတ်တက်အာဂုံရွက်ဆောင်ပါလျက် ကျမ်းဂန်တတ်သည်,စာပေတတ် သည်-ဆိုသည့်သဘောကိုပင်မသိသေး၍ စစ်ကိုင်းအရပ်၀ယ် ကျမ်းဂန် တတ်သည့်ဆရာများထံ နည်းနာခံမည်-ဟုစစ်ကိုင်းသို့ကူးလေ၏။

. ထိုရောအခါ ပုညစေတီမြောက်တွင် ကျမ်းဂန်အလွန်တတ်သော ရေငုံဘုန်းတော်ကြီး အထင်အရှားရှိသည်၊ လိုလိုရာရာ ဟုတ်ဟုတ် ညားညား စကားမပြောလို၍ ရေကိုငုံ၍နေလေ့ရှိသောကြောင့် ရေငုံ ဘုန်းကြီး- ဟု တွင်သတည်း၊ ရှင်မဟာ အရိယ၀ံသလည်း ထိုရေငုံ ဘုန်းကြီးထံစာ၀ါတောင်းမည်-ဟုဆည်းကပ်သည်၊ ၂-ရက်တိုင်အောင် စကားမပြောရ၊ ၀တ်ဖြည့်၍သာပြန်ခဲ့ရသည်၊ ၃-ရက်မြောက်သောနေ့ သားရေနွယ်ကိုခေါက်သည်တွင်မှအသံကိုကြားရ၍ ရေကိုထွေးပြီးလျှင် မေးမြန်းသဖြင့် စာ၀ါတောင်းမည်-ရောက်ကြောင်းကိုဆိုသော် သင် ကြားလေ့ကျက်ဘူးသော ကျမ်းဂန်များကိုမေးသည်တွင် မသင်ကြားမ

လေ့ကျက်ဘူးသောသင်ရိုးကျမ်းဂန်ပင်မရှိပြီဟုဆရာကဆိုသည်ကိုကျမ်းဂန်တတ်သည်, စာတတ်သည်-ဆိုသည့်အကြောင်းကိုမသိပါသေးသောကြောင့်ရောက်ပါသည်ဆိုလျှင် ငါ့မှာစာသုံးဝါပို့ရသည်၊ မွန်းယိမ်းလျှင်ပုညစေတီသို့တက်၍ တံမြက်ဝတ်လည်းပြုရသည်၊ မအားမလပ်ပြီ၊ သို့သော်လည်း စာတတ်မှန်းမသိ-ဆိုသည်ကို တံမြက်ဝတ်ပျက်ပစေဦး၊ ဋီကာလက်သန်းကို သင်တော့-ဟု စာဝါပေး၍ ဋီကာလက်သန်းကို သင်ရသည်။

### ၃-ရက် စာတက်ပြီးဆရာကကျမ်းပြုစေခြင်း

ရေငုံဘုန်းကြီးလည်း နည်းနာနယအထူးထူးအပြားပြား ပြသသင်ကြားတော်မူသည်၊သုံးရက်မြောက်အောင်သင်ကြားပြီးလျှင် ပြသသည့်နည်းအတိုင်းဆင်ခြင်၍နှစ်ရက်,သုံးရက်မလာနေသည်၊ ကျမ်းဂန်တတ်သည်, စာတတ်သည် ဆိုသည့်အကြောင်းကို သတိရမှ အကြောင်းကိုလျှောက်မည်-ဟု ရှင်မဟာအရိယဝံသလည်းလာ၏၊ ရေငုံဘုန်းကြီးကလည်း ပင်းယပုဂ္ဂိုလ်သည် သုံးရက်မြောက် စာသင်ပြီးလျှင်မလာ၊ မကျန်းမမာရှိလေသလော၊ ပုညစေတီ အရှေ့မြောက် မန်ကျည်းပင်တောတွင်တည်းကျောင်းဆောက်၍နေသည်-ဟုဆိုသည်၊သွား၍ ကြည့်ရှုမေးမြန်းကြပါချေဟု စာသင်တပည့်တို့ကိုစေ၏၊ထိုကအလာနှင့်သည်ကစေသူတို့အသွားခရီးအကြားတွင်တွေ့ကြ၍အတူလာကြသဖြင့်ဆရာအထံသို့ရောက်သော် ၂-ရက် ၃-ရက်မလာကြောင်းကိုမေးသည်တွင် ပြသပေးသောနည်းကိုမှီ၍ ဆင်ခြင်ကြံစည်သောကြောင့် စာတတ်သည်-ဆိုသည့်အကြောင်းကို သိရပေပြီ-ဟုလျှောက်၏၊ ရေငုံဘုန်းကြီးကလည်း ယင်းသို့တပြီးကားဋီကာလက်သန်းကိုအရင်းအစနှစ်ကန့်ပတ်လောက်သင်ကာမျှဖြင့် စာတတ်ပေသည်၊ကျေးဇူးကိုဆပ်ပေ၊ ဋီကာလက်သန်းကိုပင် ဖွင့်လေ-ဟုဆို၏။

ရှင်မဟာအရိယဝံသလည်း ဆရာဆိုတိုင်း ဋီကာလက်သန်းအဖွင့်မဏိသာရမဉ္ဇူသာကျမ်းကိုစီရင်၏၊ ပုညစေတီ အရှေ့မြောက်ချောက်တွင်နေ၍စီရင်သည်၊ စာပေလည်းပို့ချတော်မူသည်၊ တပည့်သံဃာ အများပြန့်ပွားစည်ပင်သည်-ဟူ၏။

အမှား ၂—ချက်ပြနိုင်သူဆုရခြင်း

မဏိသာရမဥ္ဇူသာကျမ်းကိုစီရင်စဉ် ငြိုးသမျှကို လပြည့်,လကွယ် ရှစ်ရက်သီတင်းနေ့တိုင်း ပုညစေတီရင်ပြင်တွင် သံဃာအများနှင့် ဘတ်နာကြ၏၊ ထိုရောအခါပုဂံကဘုရားပူထိုးရှိခိုးမည်လာသည့်ပုဂ္ဂိုလ်တဦးလည်းအစွန်ကနေ၍နာလျက်''ဧ,ဧ''ဟူ၍နှစ်ကြိမ်တိုင်အောင် ဆိုသည်ကို မှတ်သားရသည်၊ တည်းနေသည့် အရပ်ကိုလည်း မေးစေသည်၊ ကျောင်းသို့ရောက်၍ မှတ်ရာတွင် ကြည့်ရှုဆင်ခြင်သော် တချက်မှာ ဝါကျထပ်သည်၊တချက်မှာ''ဣမိဂန္ထိ''စွဲရမည်ကို''ဣဒံဂန္ထိ''အစွဲပျက်သည်ကို မြင်လေ၍ ဧ,ဧ-ဆိုသော ပုဂ္ဂိုလ်ကိုပင့်ရလေသည်၊ရောက်လျှင် ဤသို့မိန့်ဆို၏၊ ငါ့ရှင်....ဤကျမ်းကိုငါသည်သာမည်မပြု၊လူသံ,ငှက်သံစဲ မှည့်ကို ပုရပိုက်ကိုဖွင့်၍ရေးသည်၊ လူသံ,ငှက်သံကြားမှနေ့ကိုပုရပိုက် အုပ်၍နေသည်၊ သို့စဉ်ကြိုးစားအားထုတ်ပါသည်ကို ဧ,ဧ-ဆိုပြန်ရလေသည်၊ ဤသို့မိန့်ဆိုလျှင် ဧ,ဧ-ဆိုသောပုဂ္ဂိုလ်ကလည်း ဤသို့လျှောက်၏၊ အရှင်ဘုရား စီရင်ပြုစုသောကျမ်းသည် ဆိုဘွယ်အများပင်မရှိပေ၊ သူတယောက်သည် ကျောက်စစ်ကို ဆုပ်၍ တိုက်နံ့ရံကိုပစ်သော် တစ္ဆေမကျန် တိုက်နံ့ရံကိုချည်းမှန်လေသကဲ့သို့ မိန့်ဆိုသမျှစကားသည် အလိုရှိအပ်သော အနက်အဓိပ္ပါယ်သို့ချည်းရောက်ပလေသည်၊ ဝါကျတချက်ထပ်သည်၊အစွဲတချက်ပျက်သည်ကိုသာ ဧ,ဧ-ဆိုပေသည်-ဟု လျှောက်လျှင် အားရနှစ်သက်ရှိတော်မူ၍ ကိုယ်တွင်သုံးသောဒုကုဋ်ကိုပေးတော်မူသည်၊ ငါ့ရှင်ကိုငါပူဇော်သည်မဟုတ်၊ ငါ့ရှင်ဂုဏ်ကိုသာ ငါပူဇော်သည်-ဟု ထိုပုဂ္ဂိုလ်ခံဝံ့အောင်လည်း မိန့်တော်မူသည်၊ နောက်လည်း ဘုရင်မင်းခေါင်အားပြောကြား၍ တံဆိပ်အလှူတော်ခံရသည်-ဟု အစဉ် စကားရှိသည်။

တရံရောအခါ ဘုရင်မင်းခေါင်ကျောင်းတော်သို့ ထွက်၍ တရားနာတော်မူသည်၊ တရားဟောပြီးသည့်အဆုံးတွင် စစ်ကိုင်း ယာဉ်ခွန်ကို ချမ်းသာပါစေအလှူခံတော်မူသည်၊ ဘုရင်မင်းခေါင်လည်းလှူတော်မမူ၊ ဘောင်တော်စီး၍အပြန်တွင် ရွှေကြက်ယက်ဝယ်ဘောင်တော်တက်မကို မိကျောင်းခဲ၍ မရွေ့နိုင်ရှိချေသည်၊ ယာဉ်ခွန်ကို အလှူခံတော်မူသည့် အတိုင်းလှူပါ၏-ဟု ဟစ်ကြော်၍လှူစေသည်တွင်မှ ဘောင်တော်တက်မ

ကို မိကျောင်းလွှတ်လေသည်-ဟူ၏၊ တကြိမ်ထွက်တော်မူရာတွင်လည်း ကျောင်းတော်အနီးဗောဓိပင်အခက်ကို စီးတော်ဆင်မယာဥ်သာ ချိုး စားလေလျှင်ထိုအရပ်တွင်ပင် ဆင်မလည်းလေသည်၊ဆရာတော်သစ္စာ ပြု၍ မေတ္တာရေသွန်းမှ ပကတိချမ်းသာသည်၊ ဘုရင်မင်းခေါင်လည်း ဆင်မတစီးဘိုးတန်အောင်ကျောင်းတော်ကမြစ်ဆိပ်သို့သွားသည့်လမ်း ကို ကျောက်ဖျာခင်းစီ၍ လှူတော်မူသည်-ဟူ၏။

[အရာတိုင်းမှာပင် စကားစဥ် စာဟောင်း စာတမ်းရှိသည်ကိုသာ ဆို သည်ဟုမှတ်ပါကုန်။]

### ရှင်မဟာအရိယဝံသပြုသောကျမ်းဂန်များ

ရှင်မဟာအရိယဝံသသည် မဏိသာရမဥ္ဇူသာ, မဏိဒီပ, ဂန္ထာ- ဘရဏ, မဟာနိဿယ, ဇာတကဝိသောဓနကျမ်းများကိုစီရင်၏။

၁။ အဘိဓမ္မတ္ထသင်္ဂြိုဟ်ကို လက်သန်းအဋ္ဌကထာဆိုသည်။

၂။ ထိုအဋ္ဌကထာ၏ အဖွင့်ကို ဋီကာလက်သန်း[၁]ဆိုသည်၊ ထိုဋီကာ သည် အဖွင့်အပြသိသာခြားနားလှသောကြောင့် ''ဋီကာလှ'' ဟူ၍ ရှေးသူဟောင်းတို့ခေါ်ဝေါ်ကုန်သည်၊ထိုဋီကာကို သင်ရာ တွင် ရှင်မဟာအရိယဝံသကျမ်းဂန်တတ်လေသောကြောင့် ရှင် မဟာအရိယဝံသတွင်စ၍ ''ဋီကာကျော်'' ဟု ယခုထက်တိုင် အောင်တွင်သည်။

၃။ မဏိသာရမဥ္ဇူသာကား ထိုဋီကာကျော်၏ အဖွင့်ကျမ်းတည်း။

၄။ မဏိဒီပကားဒွါရကထာမူလဋီကာ၏ အဖွင့်ကျမ်းတည်း။

၅။ ဂန္ထာဘရဏကား ဥပသာရနိပါတ်တို့၏ အနက် အနေအ ထားကိုဆိုသော သဒ္ဒါကျမ်းတည်း။

၆။ မဟာနိဿယကား မူလဋီကာနှင့် အနုဋီကာကို စပ်ယှဥ်၍ ဖွင့် သော နိဿယကျမ်းတည်း။

၇။ ဇာတကဝိသောဓနကား ဇာတ်ဆယ်စောင်ကို ပုဒ်ပါဠိ အဆစ် အဖုသုတ်သင်သော ဂဏ္ဌိကျမ်းတည်း။

---

၁။ ဋီကာလက်သန်း-ဋီကာလှ,ဋီကာကျော်,အဘိဓမ္မတ္ထ ဝိဘာဝနီ(အတူတူ။)

## ရှင်သဒ္ဓမ္မကိတ္တိ

လေးကျွန်းမြေအရပ်၌ နေသော ရှင်သဒ္ဓမ္မကိတ္တိလည်း ရှင်မဟာအရိယဝံသထံ စာပေကျမ်းဂန်သင်ကြား၍ တတ်မြောက်လျှင် ရှင်မဟာအရိယဝံသကပြုသွန်၍ ဇေတဝန်ကျောင်းတော်သို့ပြောင်းရွှေ့လျက်စာပေပို့သနေထိုင်သည်၊ ရေငုံဆရာကြီး,ရှင်မဟာအရိယဝံသ, ရှင်သဒ္ဓမ္မကိတ္တိတို့ကား ပုဂံရွှေသာသနာရှင်အရပ်ဟံ အဆက်အနွယ်, နောက်သာသနာရှင် ဆပ္ပဒတို့အဆက်အနွယ်သာသနာဝင်ပေတည်း။

ရေငုံဘုန်းကြီးနှင့် တပည့် ၂-ပါးတို့အကြောင်းပြီး၏။

---

## ၃၈-ဒုတိယမင်းခေါင်လက်ထက်တောင်တွင်းကြီး ရှင်မဟာသီလဝံသရောက်လာကြောင်း

သက္ကရာဇ် ၇၄၂–ခုနှစ်တွင် ဒုတိယမင်းခေါင် မင်းဖြစ်တော်မူ၏၊ “သိရီသုဓမ္မရာဇာ ဓိပတိ” တံဆိပ်နာမံခံတော်မူသည်၊ ထိုမင်း လက်ထက် တောင်တွင်းကြီးက ရှင်မဟာသီလဝံသရောက်လာ၏၊ သက္ကရာဇ် ၇၄၅-ခုနှစ်တွင် ပါရမီခဏ်း,ဗုဒ္ဓါလင်္ကာရ,တောင်တွင်းလင်္ကာ၊သည်ပျို့သုံးစောင်ကိုယူဆောင်၍လာသည်တွင် ထူပါရုံဘုရားအရှေ့မြောက်ယွန်း ရတနာဗိမာန်ကျောင်းကို တင်လှူတော်မူ၍ ကျမ်းဂန်ပို့သသင်ကြားစေ၏၊ “ကြောင်းရိပ်ခိုသည်၊ ပုဂ္ဂိုလ်များနောက်၊ ရှစ်ဆက်မြောက်”ဟု ကျောက်စာတွင်ဆိုသောကြောင့် ထိုကျောင်းနေပုဂ္ဂိုလ်ရှစ်ဆက်မြောက်တည်း၊ ထိုအရှင်ကား သက္ကရာဇ် ၇၁၅–ခုဘွား၊ အသက် ၃၀-ပြည့်တွင် အဝသို့လာသည်ဟူ၍ စာတမ်းများတွင်ဆိုသည်၊ရှင်ရဋ္ဌသာရကား ၇၃၀-ပြည့်ဘွား၊အဝတွင်ပင်နေရင်းဖြစ်သည်၊ ရှင်သီလဝံသကရှင်ရဋ္ဌသာရထက် ၁၅-နှစ်ကြီး၏၊ထိုဆရာနှစ်ပါးသည် ပျို့,ကဗျာ, လင်္ကာလေ့လာ၏၊ ရှင်သီလဝံသကား နေတ္တိနိဿယနှင့် ပရာယနဝတ္ထု၊ ဤဓမ္မဝတ်စာနှစ်ကျမ်းကိုလည်းပြု၏၊ ရှင်ရဋ္ဌသာရပြုသော ဓမ္မဝတ်ကျမ်းမရှိ၊ ဘုရားမြစ်တားတော်မူသော ပျို့, ကဗျာ, လင်္ကာကို လေ့လာအားထုတ်သည်ဖြစ်၍ ထိုဆရာ ၂-ပါးကို ရှေးသာ့သ

နာ၀င်, နောက်သာသနာ၀င် သံဃာသို့မသွင်းကြ၊ ဆရာစဉ်စာတမ်း ရှစ်စောင်၌လည်း ထိုဆရာတို့ဆရာစဉ်သို့၀င်ကြောင်းကိုမဆို။

ရှင်မဟာသီလ၀ံသရောက်လာကြောင်းပြီး၏။

---

## ၃၉-ပျို့,ကဗျာ,လင်္ကာကို ဘုရားမြစ်တားတော်မူခြင်းအကြောင်း

ပျို့,ကဗျာ,လင်္ကာကို ဘုရားမြစ်တားတော် မူကြောင်းကား လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဒသဘာတိက မင်းညီနောင်တကျိပ်တို့အား ဂင်္ဂါ၌မျောလာ၍ရသော ပုဇွန်လက်မကိုလုပ်သော အာဏိကမည်သော မုရိုးစည်သည်ရှိသတတ်၊ထိုမုရိုးစည်၏ အသံကား တဆယ့်နှစ်ယူဇနာ တိုင်အောင်ကြား၏၊ ကာလလျှား၍ ထိုမုရိုးစည် ပေါက်ခွဲသော် ရွှေ,ငွေစသည်ဖြင့်လုပ်သော မယ်နန္ဒင့်နှက်၍ ထေးဖာကုန်၏၊ ထေးဖာဘန်များလတ်သော် တဆယ့်နှစ်ယူဇနာ တိုင်အောင်အသံကြားနိုင်သော .အာဏိကမည်သော မုရိုးစည်၏ နဂိုစည်ခေါင်းသည် ကွယ်ပျောက်လေ၍ ထေးဖာသောမယ်နမျှသာကြွင်းလေရကား တဆယ့်နှစ်ယူဇနာ အရပ်ကိုထားဘိ၊ အနီးအပါး အရပ်တွင်မှလည်း အသံကိုမကြားစေနိုင်လေ၊ထိုအာဏိကမည်သောမုရိုးစည်ကွယ်ပျောက်လေသကဲ့သို့နောင်သောအခါ ဆန်းကြယ်သောအက္ခရာရှိသောကဗျာသည်တို့ဘွဲ့စီအပ်သော ဂီတစကားကိုသာ သင်ကြားကုန်၍ လေးပါးသောနက်နဲခြင်းဖြင့် နက်နဲသော လောကုတ္တရာအကျိုးကို ပြီးစေနိုင်သော သုညတပဋိသံယုတ်ဒါနှင့် စပ်သော ဘုရားဟောပရိယတ္တိ ကျမ်းဂန်တို့ကွယ်လေကုန်လတ့်။

ထို့ကြောင့် ဆန်းကြယ်သော အက္ခရာ ရှိသော ကဗျာသည်တို့ဘွဲ့စီအပ်သော ဂီတစကားတို့ကို မသင်မကြားကုန်ဘဲ ဘုရားဟောပရိယတ္တိကျမ်းဂန်တို့ကိုသာ သင်ကြားကုန်အံ့-ဟူ၍ သင်တို့ နှလုံးထားအပ်၏-ဟု သဠာယတန သံယုတ် အာဏိကသုတ်၌ ဟောတော်မူသည်၊ သုတ်ကိုယ်ပါဠိအနက်အစုံကိုအမရပုရမြို့တည်နန်းတည်ဆဒ္ဒန်ဆင်မင်းသခင် ဆင်ဖြူများရှင်မင်းတရားကြီးလက်ထက်တော်က နိုင်ငံတော် အ

တွင်းရဟန်းသံဃာတော်တို့အမိန့်တော်နှင့်ဝါစုဂ္ဂတရအောင်လေ့ကျက်ဆောင်ရွက်ကြရသည်။

ဆဒ္ဒန်ဆင်မင်းသခင် ဆင်ဖြူများရှင် မင်းတရားကြီးဘုရားအိမ်ရှေ့မဟာဥပရာဇာကို ကျွန်းငယ် ၄၄-ကျွန်းနှင့်တကွ ရခိုင်လေးရပ်ကိုသိမ်းစေတော်မူသောအခါ စာပေပိဋကကိုမပျက်မစီးလုံခြုံစွာ ဆောင်ယူခဲ့စေ-ဟု အမိန့်တော်ပြန်၍ ရခိုင်လေးရပ်တွင်ရှိသမျှ စာပေပိဋကကိုအကုန်အစဉ် ဆောင်ယူခဲ့စေသည်၊ ဝိနည်းပါဠိတော် ငါးကျမ်းစေ့ရုံမျှစာပေပိဋကမရမပါ၊ ပျို့,ဘတ်စာ အပြိန်အဖျင်း,စာနုပ်စာသိမ်မျှသာပါသည့်အရာလည်း ယခင်အာဏာကသုတ်နှင့်အညီပင်ဖြစ်သည်မှတ်လေ။

ပျို့ကဗျာလင်္ကာကိုဘုရားမြစ်တားတော်မူခြင်းအကြောင်းပြီး၏။

---

## ၄၀-ဒုတိယမင်းခေါင်လက်ထက်သိမ်သမုတ်တော်မူရာ ရှင်မဟာသီလဝံသ,ရှင်ရဋ္ဌသာရမထေရ် ၂-ပါးတို့မပါမဝင်ရကြောင်း

သက္ကရာဇ် ၇၄၂-ခုနှစ်၊ နန်းတက်သော ရှမ်းဈေးလမ်းမအရှေ့မနော်ရမ္မဥယျာဉ်နှင့် မနီးမဝေးတွင် သိမ်တော်သမုတ်ရသည်၊ သိမ်မြောက်ကဘုရားလည်း တည်သည်၊ ထိုသိမ်ကို ဒုတိယမင်းခေါင်သိမ်-ဟုတွင်၏၊ ရွှေစည်းခုံတောင် ကျုံးတဖက်ကသိမ်ကိုကား ပဌမမင်းခေါင်သိမ်-ဟု တွင်သည်၊ ဒုတိယမင်းခေါင် သိမ်သမုတ်သည်ကာလအခြားဆရာသံဃာများက သီချင်းသည်တို့ပါလျှင် ငါတို့မလာမလိုက်ပြီဆိုသောကြောင့် ရှင်သီလဝံသ,ရှင်ရဋ္ဌသာရတို့သိမ်သမုတ်ရာမပါဝင်ရ-ဟူ၍ ဆရာစဉ်ဆက် ဥဒါန်းစဉ်ရှည်ပြောဆိုကြသည်။

ဟံသာဝတီဆင်ဖြူများရှင် မင်းတရားကြီး အဝသို့ ရောက်တော်မူသည့်ကာလ စစ်ကိုင်း ရှင်တိသာသနဓဇအကျော်ကိုတွေ့၍ ရှင်ရဋ္ဌသာရထံ နည်းနာခံဘူး သလော-ဟုမေးတော်မူသည်တွင် မခံဘူးကြောင်းကိုပြောဆိုသော် အဘယ့်ကြောင့်မခံသနည်းဟုမေးပြန်သည်ကို ရှင်ရဋ္ဌသာရတို့သည် ရပ်ကြီး ပြည်မ အလေ့အလာ အားကြီးသောကြောင့် မခံသည်-ဟု ဆိုကြောင်းကိုလည်း ယခုထက်တိုင် ပြောဆိုကြသည်၊ သာသ

နာတော်ရေးကို အရှည်မြော်ထောက်၍ အဂတိ ၄-ပါး မလားဘဲအစဉ်စကားရှိသည်၊ အစဉ်စာတမ်းရှိသည်များကိုသာရေးသားရသည်။

သိမ်သမုတ်ရာ၌တွင်ရှင်သီလဝံသ,ရှင်ရဋ္ဌသာရတို့မပါဝင်ရကြောင်းပြီး၏။

---

## ၄၁-ရွှေနန်းကြော့ရှင်လက်ထက်ရှင်သဒ္ဓမ္မကိတ္တိ, ရှင်မဟာသျှုတော်ကြီးတို့အကြောင်း

### ရှင်မဟာသျှုတော်ကြီးထံစာသင်ခြင်း

သက္ကရာဇ် ၈၆၃-ခုနှစ်တွင် ရွှေနန်းကြော့ရှင် နရပတိမင်းဖြစ်တော်မူ၍၊ ''သိရိတြိ ဘဝနာဒိတျ နရပတိ ပဝရ မဟာဓမ္မရာဇာဓိပတိ'' တံဆိပ်နာမံခံတော်မူသည်၊ ထိုမင်းလက်ထက် ဇေတဝန်တိုက်ရှင်သဒ္ဓမ္မကိတ္တိထံ ရှင်တိသာသနဓဇ စာပေသင်၍နေ၏၊ ပုဂံကလည်း စာပေပို့သပြီးသော ရဟန်းကြီးတဦး ရောက်လာ၏၊ ရှင်သဒ္ဓမ္မကိတ္တိလေးကျွန်းမြေတွင် နေစဉ်ကပင် အဝပြည်ထဲမှာ စာပေပို့သမည်-ဟုရောက်လာသတည်း၊ ရှင်သဒ္ဓမ္မကိတ္တိစာပေပို့သသော အသံကိုကြား၍ကျောင်းအောက်က နာခံသော် ပုဂံသင်ရိုးနှင့်မတူ၊ ကျမ်းရိုး ဂန်ရိုး, အထွက်,အတက်,စုဒ်,စောဒနာ,အာဘော်,အခြေအတင်ထူးခြား၍ထိုရဟန်းကြီး၏နားတွင် ကျေးသံ, ငှက်သံကဲ့သို့ထင်လေလျှင် သည်အရှင်ထံငါလည်း စာပေသင်ကြားဦးမည်၊ သို့ရာတွင် သည်အရှင်သည် ငါ့အောက်ငယ်ဟန်ရှိသည်၊ ငါ့ထက်အကြီးမြှောက်၍ သင်မည်ဟုကြံပြီးမှကျောင်းထက်သို့တက်၍ အရိုအသေဝတ်ပြုလျက်နေသည်ကို ရှင်သဒ္ဓမ္မကိတ္တိက အရှင်သည်ကျွန်ုပ်ထက်ကြီးဟန်ရှိသည်-ဟုဆိုလျှင်အရှင်ဘုရားကိုအကျွန်ုပ်ထက်အကြီးအရာထား၍ စာသင်လိုပါသည်-ဟုခွင့်တောင်း၍စာသင်လေ၏၊ကျမ်းရိုး ဂန်ရိုး,အထွက်,အတက်,စုဒ်,စောဒနာ,အာဘော်,အခြေအတင်ပြသပြောဆိုသမျှကိုလည်း အသေအချာမှတ်သား

---

၁။ အဂတိ ၄-ပါး--ဆန္ဒာဂတိ-ချစ်သဖြင့် မလားအပ်သည်သို့လားခြင်း၊ဒေါသာဂတိ-မုန်းသဖြင့် မလားအပ်သည်သို့လားခြင်း၊ မောဟာဂတိ-မိုက်သဖြင့်မလားအပ်သည်သို့လားခြင်း၊ ဘယာဂတိ-ကြောက်သဖြင့် မသွားအပ်သည်သို့လားခြင်း။

ထားလေ၏၊ ရှင်သဒ္ဓမ္မကိတ္တိလည်း ထိုရဟန်းကြီးကို ကြည်ညိုလေး မြတ်တော်မူ၍ "ရှင်မဟာသူတော်ကြီး"ဟုခေါ်ဝေါ်သည်၊ထိုရောအခါ တပျက်သာ မြို့ကလာသော သာမဏေ ၁၀-နှစ်ရွယ် ရှင်တိသာသန ဓဇလည်း စာပေရရမိမိရှိသည်နှင့် ရှင်သဒ္ဓမ္မကိတ္တိ လေးမြတ်ချီးမြှင့်၍ အတူတကွပင်ရှိသတည်း။

### သိုဟန်ဘွား အဝင္ခနန်းတက်ခြင်း

"အစွန်းငါးခု၊ဗသျှုအင္ဂ၊ဒီဃသက္ကရာဇ်၊ရောက်လစ်သောခါ၊တရာ သီတည်း၊ ကုံတွင်ချည်းလျှင်၊ ဝေးစည်းတခု၊ ပေါင်းလုနီးနီး၊ မိုဃ်းစည် တီးသို့"—

ဟူ၍ဆိုသော သက္ကရာဇ် ၈၈၅-ခုနှစ်က အစမူလျက် အဝပြည်ထဲ မသာမယာရှိသည်နှင့် ၈၈၈-ခုတိုင်လျှင် ၈-ငယ်သုံးခု မြန်မာပြည် သည်ဥသျှစ်ထု ကိန်းသို့ရောက်သဖြင့် မိုးညှင်းဇလုံသား သိုဟန်ဘွားကို ရွှေဝနန်းတင်လေ၏၊ သိုဟန်ဘွားလည်း ရဟန်းတို့မှာ မယားသား မရှိဘဲလျက် တပည့်တပန်းထား၍ အခြွေအရံ ဆည်းပူးကြသည်၊ ပုန် ကန်သောင်းကျန်းသော်လည်း ပုန်ကန်သောင်းကျန်းနိုင်ဘွယ် ရှိသည်၊ ရဟန်းတို့ကိုဘမ်းဆီး၍ သတ်မှသင့်မည်ဟုကြံပြီးလျှင် တောင်ဘီးလူး လယ်ပြင်တံတားဦးမြောက် ကန်ဘောင်ရိုး အရှေ့ဘက်၌ မဏ္ဍပ် အဆောင်ဆောင်ဆောက်စေပြီးမှ ကျွဲ,နွား,ဝက်,ကြက်သတ်စေ၍ဆွမ်း လုပ်ကျွေးမည့်အဟန်နှင့်စစ်ကိုင်း,ပင်းယ,အဝပတ်လည်တွင် ရဟန်းတို့ ကိုပင့်ခေါ်၍ တပည့်သံဃာနှင့်တကွ မဏ္ဍပ်ဝယ်နေစေပြီးမှ ဆင်မြင်း ဗိုလ်ပါဝန်းရံ၍ သတ်လေသည်၊တထောင့်သုံးရာကျော်သေလေသော- ဟူ၏၊ ပဋ္ဌင်းရဟန်းပင် သုံးရာ့ခြောက်ဆယ်ကျော်သည်၊ ပါဠိ,အဋ္ဌက ထာ, ဋီကာကျမ်းဂန်ကျနသော ကျမ်းတတ်ပုဂ္ဂိုလ်ပင် သုံးကျိပ်ကျော် ပါလေသတည်း၊ရဟန်းတို့ကိုသတ်ပြီးလျှင် စာပေကျမ်းဂန်များကို မီး တိုက်လေ၏၊ စေတီပုထိုးများကိုတူးဖို၍ ဌာပနာကိုယူလေ၏၊ ထိုအခါ သက္ကရာဇ်၉၀၁-ခုနှစ်တွင်ကြယ်တံခွန်ထန်းတဖျားခန့်ပြသည်၊ရွှေစည်း ခုံဘုရားလည်း မျက်ရည်ယိုလေသည်-ဟု ရာဇဝင်ရှိ၏၊

## ရှင်သဒ္ဓမ္မကိတ္တိတို့ တောင်ငူသို့ကြွခြင်း

ထိုရောအခါ ရှင်သဒ္ဓမ္မကိတ္တိသည် ပင့်ခေါ်ရာမလိုက်မပါ၊မဟာသူတော်ကြီး, ရှင်တိသာသနဓဇတို့နှင့်တကွ တောင်ငူသို့သွားလေ၏၊ထိုအခါ ရှင်ရဋ္ဌသာရပြည်သို့ ထွက်သွားကြောင်းကို အချို့စာတမ်းများတွင်ဆိုသည်။

[ရာဇဝင်မှာ ၈၈၅–ခုနှစ်ကပင် ပြည်ဘုရင်သတိုးမင်းစောပြည်သို့ပင့်ဆောင်လေသည်ဆိုသော စကားနှင့်မညီ။]

ရှင်သဒ္ဓမ္မကိတ္တိလည်း တောင်ဘက်ကရှမ်းရှိသောကြောင့် စစ်ကိုင်းဘက်သို့သွား၍ ကျောက်တလုံးမှာမှ ကူးရသည်၊လမ်းခရီးတွင်သီတင်းသုံးဘော်ရဟန်းချင်း ပေးလှူသော်လည်း ဝတ်မွတ်ကြသောအခါဖြစ်၍ မယူ၊ဆွမ်းမဘုဉ်းပေးရ၊ ခရီးအကြားသစ်ပင်များတွင် အငွေ့နှင့်ခြောင်းခြောင်းပင် ဆွမ်းထုပ်ရှိသည်ကိုတွေ့မှ ဆွမ်းဘုဉ်းပေးရသည်၊ အချို့ကနတ်ဆွမ်းဟုဆိုသည်၊အချို့ကလှူသည်ကိုမယူသောကြောင့် ယူစေလို၍လူတို့ဆွဲထားခဲ့သည်-ဟုဆိုသည်၊ တောင်ငူကပင် နတ်ဆွမ်းရကြောင်းကျော်စောနှင့်သည်။

တောင်ငူသို့ရောက်လျှင် မဟာသူတော်ကြီး နည်းနာရမြောက်အောင် ရှင်သဒ္ဓမ္မကိတ္တိထံ သင်ကြားပြီးမှ ရှင်သဒ္ဓမ္မကိတ္တိ လွန်လေသည်၊ ရှင်တိသာသနဓဇလည်း တောင်ငူသို့ရောက်မှ ပဉ္စင်းခံ၍ ဆရာမရှိသည့်နောက် မဟာသူတော်ကြီးထံမှာ သင်ကြားရသည်၊အဆစ်အဖုတွေ့၍ အငြင်းအခုံရှိလျှင် ဆရာရှိစဉ်က ရေးထားလိုက်ကြသော သင်ရိုးကျမ်းရိုးနှင့်တိုက်ဆိုင်၍ ညီညွတ်ရာမှတ်ယူကြသည်၊ ရှင်တိသာသနဓဇ နည်းနာရမြောက်အောင် သင်ကြားပြီးမှ မဟာသူတော်ကြီးတောင်ငူတွင်ပင် လွန်လေသည်။

ရှင်သဒ္ဓမ္မကိတ္တိ,ရှင်မဟာသူတော်ကြီးတို့အကြောင်းပြီး၏။

---

## ၄၂-ရှင်တိသာသနဓဇအကြောင်း

သက္ကရာဇ် ၉၁၂-ခုနှစ်တွင် ဆင်ဖြူများရှင် မင်းတရားကြီးဟံသာဝတီကို စိုးအုပ်တော်မူမှ ရှင်တိသာသနဓဇ ဟံသာဝတီသို့ ရောက်

သည်၊ ထိုနောက် အသက် ၄၃-နှစ်ရှိမှ သက္ကရာဇ် ၉၁၃-ခုနှစ်တွင် မိုးမြိနရပတိလက်ထက် စစ်ကိုင်းသို့ တဖန်ရောက်ပြန်၍ ဇေတဝန်ကျောင်းတိုက်အနီး စကားဥမင်တွင် နေသည်၊ ရှင်မဟာအရိယဝံသဂိုဏ်းဝင် ဇေတဝန်ဘုန်းကြီးမှာလည်း တက်သက်ဆည်းကပ်သည်၊ ထိုရောအခါ ဇေတဝန်ဘုန်းကြီးနာ၍ ငါ့အရာကို ဟံသာဝတီကရောက်လာ၍ ဥမင်မှာတည်းနေသော ပုဂ္ဂိုလ်အား အပ်မည်-ဟု ကြံဆဲတွင် ရှင်တိသာသနဓဇ ဤသို့အိပ်မက်မြင်သည်။

၁။ ညဥ့်ဦးယံတွင်လူကောင်ကိုမြင်မက်သည်။
၂။ သန်းခေါင်ယံတွင် လူကောင်ကို ဥမင်တွင်းသို့သွင်းမက်သည်။
၃။ မိုးသောက်ယံတွင်လူသားကိုဓားနှင့်လှီး၍စားရမက်သည်။

ဤသို့အိပ်မက်မြင်သည်ကို ပြန်ပြောမှ အိပ်မက်မြဲသည်, အကျိုးပေးသည်-ဟု ထုံးစံရှိသည့်အတိုင်းအပါးတွင်အိပ်သော တပည့်သူငယ်ကိုနှိုး၍ပြန်ပြောသည်၊ ၈၀၉-ခုနှစ်ကပင် ငါတို့အဝကခွာချေ၍ ယခုမှရောက်စသာဖြစ်သည်၊ သို့စဉ်မြင်မက်သောအိပ်မက်၏ အကျိုးကိုခံရမည်လော,မခံရလော-ဟု အောက်မေ့ပြီးလျှင် ပရိတ်မေတ္တာရွတ်၍နေခိုက် စောစောကပင် ဇေတဝန်ဘုန်းကြီးက ခေါ်လာ၍လိုက်ရသည်၊ ရောက်လျှင် ငါ့အရပ်ကိုသူမြတ်အုပ်ချုပ်မှ ရှေ့သို့စည်ပင်မည်၊ကံမကုန်မီ ငါပေးအပ်တော့သည်-ဟူ၍ ဇေတဝန်ကျောင်း အရပ်ကိုပေးအပ်တော်မူသည်၊ ရှင်တိသာသနဓဇလည်း ဇေတဝန်ကျောင်းတိုက်ကို အုပ်ချုပ်၍ စာပေကျမ်းဂန်ပို့သသင်ကြားသည်၊မိုးမြိနရပတိ, စလင်းနရပတိမင်းနှစ်ဆက်လည်း ကိုးကွယ်ချီးမြှင့်သည်၊၉၁၆-ခုနှစ်လည်း ဟံသာဝတီဆင်ဖြူများရှင် အဝကိုအလိုတော်ပြည့်လျှင် ဇေတဝန် ရွှေကျောင်းဆောက်၍ တင်လှူတော်မူသည်၊ "တိသာသနဓဇ"ဟူသော တံဆိပ်ကိုလည်း အပ်တော်မူသည်၊ဤသို့ဆရာစဉ်စာတစောင်တွင်ဆိုသည်။

## ရှင်ဥတ္တမကျော်ထံစာသင်ခြင်း

ရှင်တိသာသနဓဇ၏ အကြောင်းတနည်းကား—

တောင်ငူမြို့တွင် အမတ်သားတယောက် အဘမရှိသည့်နောက် အတွင်းတော်မှာ ထမ်းရွက်ရသည်၊ဦးရီးကျောင်းနေရဟန်းလည်းရှိသည်၊

ထိုအခါဦးရီးဆရာထံသွားပါချေ၊ အမောင် ဦးရီးသည် လူကိုမြင်လျှင် ကောင်းစားမည်,မကောင်းစားမည်ကိုသိတတ်လှသည်-ဟုအမိကဆို၍ ဦးရီးဆရာကျောင်းသို့ သွားလေသော် ထိုသူ အသွင်အပြင် အဟန်အပန် လက္ခဏာကိုကြည့်ရှု၍ လူဖြစ်လျှင် မူးမတ်ဖြစ်မည်၊ ရဟန်းဖြစ်မူကား သူမတူနိုင်ပြီ-ဟုဦးရီးဆရာမိန့်ဆိုသည်ကို မှတ်နာ၍ အိမ်သို့ရောက်လျှင် အမိကိုပြောဆို၏၊ ရဟန်းပြုရအောင် မင်းမှာခွင့်ပန်၍ ရဟန်းပြုလေ၏၊ ရဟန်းပြုပြီးလျှင် စာပေကြိုးစားအားထုတ်သင်သည်၊ ခုနစ်ဝါရလျှင်ပင် ကျမ်းဂန် တတ်မြောက်စွာ၍ တိသာသနဓဇ-ဟု ကျော်စောထင်ရှား သည်၊ တောင်ငူမြို့တွင် သင်ကြားကာနှင့် မရောင့်ရဲ၍ ပုဂံ, ပင်းယ, စစ် ကိုင်း,အဝမှာ သင်ကြားဦးမည်ဟုလာခဲ့သော် တောင်တွင်းကြီးသို့ ရောက်လေ၏။

ထိုရောအခါ ရှင်ဥတ္တမကျော်လည်း တောင်တွင်းမြို့တွင် စာပေပို့ သ၍နေသည်၊ကျောင်းအနီးသို့ရှင်တိသာသနဓဇရောက်၍ ထိုကျောင်း သို့ဝင်လေ၏၊ ရှင်ဥတ္တမကျော်က မည်သည့်ရပ်ရွာက မည်သည့် အ ကြောင်းနှင့် လာကြောင်းကို မေးလျှင် ယခင်ကြံစည်သမျှ အကြောင်း မျိုးကိုပြန်ပြော၏၊ သင်ဘူးသောကျမ်းစာကို မေးပြန်သည်တွင်လည်း သင်ဘူးသမျှကျမ်းဂန်ကိုပြောဆို၏၊ ထိုအခါတွင် ရှင်ဥတ္တမကျော် နေတ္တိ ဋီကာကြည့်နေခိုက်ဖြစ်၍ နေတ္တိဋီကာကို ရှင်တိသာသနဓဇ လက်သို့ ကမ်း၍အနက်သမ္ဗန်စေသည်၊ ဝိဂ္ဂဟ်ဝစနတ္ထပါသည်များကို ဓာတ်ရ, ပစ္စည်းရကောက်စေသည်၊ စာစပ်ကျမ်းရိုးဆိုစေသည်၊ မြင်းလျှင်စိုင်းသ ကဲ့သို့ မတွန့်မတို မရပ်မဆိုင်း မှန်ကန် ဖြောင့်မတ်သည်ကို ရှင်ဥတ္တမ ကျော်ကြားသိလျှင် အလွန်နှစ်သက်သည်၊တောင်ငူ ရှင်တိသာသနဓဇ·· သိပြီ၊ ပုဂံ,ပင်းယ,စစ်ကိုင်း, အဝသို့မသွားနှင့်တော့၊ ငါ့တွင်ပင် သင်ဦး တော့-ဟုမိန့်ဆိုသည်။

ထိုသို့မိန့်ဆိုသော်လည်း ရှင်တိသာသနဓဇ နှလုံးအထူးမရှိ၊ သည် ပုဂ္ဂိုလ်လည်း သူမတူနိုင်အောင်တတ်သည်ဖြစ်မည်၊ငါ့ဦးရီးဆရာလည်း ရဟန်း ပြုမူသူမတူနိုင်ပြီ-ဟုမိန့်ဆိုဘူးသည်၊သည်ပုဂ္ဂိုလ်ထံတွင် သင်ဦး မည်ဟုကြံ၍ရှင်ဥတ္တမကျော်ထံမှာ၃-နှစ်သင်ကြားသည်၊ရှင်ဥတ္တမကျော် ကလည်း အမောင်ကိုသူမတူနိုင်ပြီ၊ စာပေပို့သလေတော့ဟုခွင့်ပြု၏။

## မင်းကြီးအားဝက်အမြုတေကိုစိစစ်ပြခြင်း

ရှင်တိသာသနဓဇလည်း တောင်ငူသို့မပြန်ဦးဘဲ ကြံရင်းရှိသည့်အတိုင်း ပုဂံသို့သွားလေ၍ ပုဂံတွင်ကျမ်းဂန်တတ်သော ဆရာများနှင့်ဆွေးနွေးပြောဟောပြီးမှ စစ်ကိုင်း,အဝသို့လာ၍ ပုညစေတီတောင်ချောက်ဝယ်ခေမင်္ဂလာဘုရားစရပ်တွင် တည်းနေ၏၊ ဇေတဝန်ဆရာ အထံသို့လည်း ဆည်ကပ်၍ကျမ်းဂန်ဆွေးနွေး၏၊ ဇေတဝန်ဆရာလည်းနှစ်သက်၍အလိုရှိသမျှကျမ်းဂန်ကို ထုတ်ယူကြည့်ရှုပါ-ဟုခွင့်ပြု၏၊ထိုအခါတွင်ဇေတဝန်ဘုန်းကြီးမကျန်းမမာရှိ၍ ရှင်တိသာသနဓဇကို ဇေတဝန်ကျောင်းတိုက်ကိုအပ်မည်ဟုအကြံရှိသည်၊ ထိုရှင်တိသာသနဓဇလည်းထိုညဉ့်တွင်ပင် ယုန်ရိုးကိုဘုဉ်းပေးရသည်-ဟု အိပ်မက်မြင်၍ တောင်ငူမှာဖြစ်လျှင် အိပ်မက်အကျိုးကိုခံရမည်၊ သည်အရပ်မှာကား ငါမှန်းလည်းသူမသိ၊ သူမှန်းလည်းငါမသိဟုအောက်မေ့ပြီးလျှင် ကျိန်းပြန်လေ၏။

လင်းအားကြီးတွင် အသားနှင့်တကွယုန်ရိုးကို ဘုဉ်းပေးရသည်-ဟု အိပ်မက်တဘန်မြင်ပြန်လျှင် အကျိုးကိုမချွတ်ခံရမည်-ဟု အောက်မေ့ပြီးမှ ထ၍မျက်နှာသစ်ပြီးသော် ပရိတ်မေတ္တာပြု၍ စစ်ကိုင်းသို့ဆွမ်းခံဝင်သည်၊ဇေတဝန် ဘုန်းကြီးကလည်း မိုးသောက်လျှင် တောင်ငူပုဂ္ဂိုလ်ကိုခေါ်ပါချေ-စေ၍ ဆွမ်းခံဝင်သည့်အခိုက် ခေမင်္ဂလစရပ်ကစေလိုက်သူငဲ့လင့်နေနှင့်သည်၊ ဆွမ်းခံပြန်မှလိုက်၍ရောက်လျှင် ဇေတဝန်ဘုန်းကြီးက သံဃာများမျက်မှောက် ဇေတဝန်ကျောင်းတိုက်ကို အပ်သည်၊ သံဃာများလည်း ဝမ်းမြောက်ဝမ်းသာရှိကြသည်၊ဇေတဝန်ဘုန်းကြီးလွန်လျှင် ဇေတဝန်ကျောင်းသို့တက်နေ၍ စာပေကျမ်းဂန်ပို့သသည်၊နန်းတော်သို့ပင့်၍ မပြတ်တရားနာသည်။

တရံရောအခါ မင်းမှာ ဝက်အမြုတေ[၁]ရသည်ကို မွေတော်စစ်-ဟု ရတနာပန်းတောင်းနှင့် အရိုအသေကိုးကွယ်သည်၊ ရှင်တိသာသနဓဇနန်းတော်သို့ဝင်ရာတွင်ရတနာပန်းတောင်းနှင့်ပြသည်ကို လက်ဝါးပေါ်တွင်တင်၍သာကြည့်သည်၊ ပူဇော်တော်မမူ၊ မင်းကလည်း ဆရာတော်

၁။ အမြုတေ—အမတေ (အတူတူ)။

မယုံ-ဟု အမှတ်ရှိ၍ မိဋ္ဌာန်တော်မူလျက် ဥဿျောင်တော်မှာနားစေသည်၊ ရတနာပန်းတောင်းမှာလည်းနားစေသည်၊ ထိုသို့ပြုခိုက်ဝယ် ဆရာတော်က ပကာရေသွင်းခွဲစေ-မိန့်တော်မူ၍ ပကာရေသွင်းခွဲသည်တွင် ဝက်အမြုတေကိုလက်ဖြင့်ဆုပ်ထားပြီးမှ ယခင်ကနည်းမိဋ္ဌာန်စေ၍ လက်ကိုဖြန့်သော် မိဋ္ဌာန်ရာသို့မသွားဘဲ ပကာရေသို့ဆင်း၍ နေလေသည်၊ သည်အကြောင်းကိုမြင်ရာတွင်မှ မွေတော်မဟုတ်၊ ဝက်အမြုတေဖြစ်သည်ဟူ၍သိကြသည်၊ ကိုးကွယ်တော်မမူသင့်၊ တန်ခိုးရှိသောဝတ္ထုဖြစ်၍ အဆောင်အရွက်သာ ပြုတော်မူသင့်သည်-ဟု ဆရာတော်လည်းမိန့်တော်မူ၏။

ထိုအကြောင်းကိုစွဲသဖြင့် ထိုကစ၍ မင်းအဆက်ဆက် စေတီပုထိုးတည်မည်-ဟုဓာတ်တော်,မွေတော်ရွေးချယ်ရန်ရှိလျှင် ဇေတဝန်ကျောင်းတိုက်က ရဟန်းငါးကျိပ် မြေနန်းတော်သို့ပင့်၍ ဓာတ်တော်,မွေတော်ရွေးချယ်စေမြဲ ထုံးစံဖြစ်သည်-ဟူ၍စာဟောင်းစာတမ်းရှိ၏။

ရှင်တိသာသနဓဇအကြောင်းပြီး၏။

---

## ၄၃—ရဟန်းတော်များဦးထုပ်ဒေါက်ချာ,တရပတ် ဆောင်းကိုင်ကြကြောင်း

ဇေတဝန်ကျောင်းနေ ရှင်တိသာသနဓဇလည်း အရွယ်ကြီးလျှင်အာနာပါနကမ္မဋ္ဌာန်းကိုစီးဖြန်းတော်မူသဖြင့် ညဥ့်အခါ တံငါတို့လှေဓာတ်သံကိုငြီးငွေ့၍တောဝင်တော်မူပြီးလျှင် လောကမှန်ကင်း ဘုရားအနီးကျောင်းတွင်နေတော်မူသည်။

[ယခုဆိုသော တိသာသနဓဇသည် ဟံသာဝတီ ဆင်ဖြူများရှင် မြေးတော် တောင်ငူရောက်မင်းတရားသားတော် မင်းရဲကျော်စွာ အဝတွင်စိုးအုပ်ခနစဉ်ကဖြစ်ဟန်ရှိသည်။]

ဇေတဝန်နှင့်လောကမှန်ကင်းသည် တန္ဓယ်ထည်းတည်း၊ ရှင်မဟာအရိယဝံသအနွယ်, ပုဂံ ရှေ့သာသနာ, နောက်သာသနာ အဝင်အပေါ်ချည်းဖြစ်သည်၊ ရှင်တိသာသနဓဇလက်ထက်ကစ၍ ဦးထုပ်ဒေါက်ချာမဆောင်း၊ တရပတ် အဖြူအနီမကိုင်၊ဟံသာဝတီရောက်မင်း ဘိုးတော်

လက်ထက် လေသာကျောင်းဆရာတော်က ဆောင်းကိုင်ရမည်နှိုးဆော် သည်တွင်မှ ရှင်တိသာသနဓဇ အဆုံးအမအမူအကျင့် ယိုယွင်းဖောက် ပြားလေသည်။

[ရှင်တိသာသနဓဇအကြောင်းစကား ၂-ရပ် မညီမညွတ်ရှိသည်၊ ရှေ့ စကားမှာ တပျက်သာမြို့ရှင်တိသာသနဓဇ၊ နောက်စကားမှာ တောင်ငူ ရှင်တိသာသနဓဇ-ဟူ၍ သီးသန့်ခြားနားလေ၊ ရှင်တိသာသနဓဇ ၂-ပါး ဖြစ်မှ စကားသင့်မြတ်သည်၊ စာဟောင်းစာတမ်း အဆိုအမိန့်ကောင်းလှ သည်နှင့် စေ့စုံအောင်ရေးလိုက်သည်။]

ဇေတဝန်ဆရာတော် ရှင်တိသာသနဓဇ အန္တယ်အဆက် တပည့် သားမြေးကား အရာမကများပြားစွာ၏၊ ထူးလွန်၍ ကျမ်းဂန်တတ် မြောက်သည့်တပည့်များကား—

၁။ တိုင်းကြီးရွာသားညီနောင်သုံးပါး,

၂။ စာသင်ပွဲ၌ ထိုးထွင်းနိုင်သည်-ဟူ၍ စိန်ကျောက်-ဟု ခေါ်ဝေါ် တော်မူသော ရှင်ဝရဗာဟု လည်းတပါး,

၃။ မြေဒူးမြို့သား မြေဒူးကျောင်းပုဂ္ဂိုလ်လည်းတပါး,

ဤငါးပါးတည်း၊ဟံသာဝတီဆင်ဖြူများရှင် ဈေးသဘင်ကျောင်းနှင့် ဘုရားကို ဆောက်လုပ်တော်မူ၍ ကျောင်းတင်သင့်သော ပုဂ္ဂိုလ်ကို ရှင်တိသာသနဓဇအား ဘယ်သူမြတ်နှင့်သင့်သနည်းဟုမေးတော်မူသည် တွင် ငါ့တပည့် မြေဒူးကျောင်း ပုဂ္ဂိုလ်နှင့်သင့်၏၊ အဘယ့်ကြောင့် နည်း-ဟူမူကား ပဋ္ဌာန်းဋီကာတွင် ပစ္စာဝါရအဖွင့်၌"သာမာနေန္တိ" ပုဒ်ကိုမေးမြန်းသောအခါ မှတ်သားလောက်အောင် စာသင်ပွဲတွင်ဆို ပေသည်၊ဤသို့စသဖြင့် ကျမ်းဂန်ကျနသောကြောင့်သင့်သည်ဟုဆိုလျှင် ၉၁၇-ခုနှစ်တွင် ဈေးသဘင်ကျောင်းကို မြေဒူးကျောင်း ပုဂ္ဂိုလ်အား တင်လှူတော်မူသည်။

ရဟန်းတော်များဦးထုပ်ဒေါက်ချာ,တရပတ်ဆောင်းကိုင် ကြကြောင်းပြီး၏။

---

## ၄၄-ညီတော် သတိုးမင်းစောကိုဘုရင်ခံအရာ ပေးအပ်ကြောင်း

သက္ကရာဇ် ၉၁၇-ခုနှစ်တွင် ဆင်ဖြူများရှင်မင်းတရားကြီးညီတော် သတိုးမင်းစောကို သမီးတော်ကြီးနှင့်တကွ အဝတွင် ဘုရင်ခံအရာပေး

အပ်တော်မူ၏၊ အဝဘုရင်သတိုးမင်းစောလည်းဆင်ဦးအရပ်တွင်ဘုရားနှင့်ကျောင်း ဆောက်လုပ်တော်မူသည်၊ ဆင်ဦးအရပ် မည်သည်ကား မင်းမွေးတောင်ကစ၍ ဥတေနမင်း၏ ဆင်တော်စီစဉ်သော် အဝက တာနှစ်ထောင်ခန့် တဘက်ဆွဲတောင်တိုင်အောင်ဆင်ဦးစီစဉ်မိသည်-ဟု သမုတ်ကြသောအရပ်ကို ဆင်ဦးအရပ်ဆိုသည်၊ ထိုဆင်ဦးကျောင်းတော်ကို ဘယ်သူမြတ်နှင့်သင့်မည်နည်း-ဟု ရှင်တိသာသနဓဇအား သတိုးမင်းစော မေးတော်မူသည်၊ ငါ့တပည့်ကြီး ဝရဗာဟုနှင့်သင့်၏-ဆိုလျှင်ဆင်ဦးကျောင်းတော်ကိုရှင်ဝရဗာဟု အားတင်လှူတော်မူသည်၊ ကျောင်းလည်း ဆင်ဦးကျောင်း, ပုဂ္ဂိုလ်လည်း ဆင်ဦးဆရာတွင်လေသည်။

သတိုးမင်းစော ပျက်သည့်နောက် ငါးဆူဒါယကာကပင့်၍ ဆင်ဦးဘုရင်ဆရာ ဟံသာဝတီသို့ ရောက်လေ၏၊ ဟံသာဝတီကမှ တောင်ငူသို့ ရောက်ပြန်၏၊ ငါးဆူဒါယကာကနန်းလွဲ၍ ဟံသာဝတီတွင် တောင်ငူဘုရင်မင်းပြခိုက် ယိုးဒယားသားတို့ ချီလာသောကြောင့် စွယ်တော်, သပိတ်တော်ကစ၍ ရွှေဘုရား, ငွေဘုရား, စာပေကျမ်းဂန်များနှင့် ဆရာတော်စုကိုရွှေ့တည်စေ၍ တောင်ငူသို့ပြောင်းပြီးလျှင် တောင်ငူတွင် ရွှေနန်းတည်သည်၊ ထို့ကြောင့် ငါးဆူဒါယကာ တောင်ငူဘုရင်ကို တောင်ငူ ရွှေနန်းတည်-ဟု ခေါ်ဝေါ်ကြသည်၊ တောင်ငူပြာသာဒ်ကျောင်းကိုလည်းဆင်ဦးဘုရင်ဆရာအားတင်လှူတော်မူသည်၊ တောင်ငူမိဖုရားလည်း ဆွမ်းဝတ်တည်၍ လုပ်ကျွေးသည်။

ဆရာတော်အလုပ်အကျွေးပဉ္စင်းငယ်အားလည်း ဆွမ်းဝတ်တည်ပါမည်-ဟု မိဖုရားကလျှောက်သည်ကို ပဉ္စင်းငယ်သည် အပျိုအရွယ်သာဖြစ်သည်၊ ငါ့ကိုလှူလျှင် ငါ့တပည့် ဘုဉ်းပေးတော့သည်ဟုမိန့်ဆို၍ ဆွမ်းဝတ်မတည်ရလေ၊ လာဘ်သပ်များလျှင်စာသင်ပျက်မည်စိုး၍ဆီးတားတော်မူသတည်း၊ အလုပ်အကျွေးပဉ္စင်းငယ်လည်း စာပေကျမ်းဂန်သင်၍ တတ်မြောက်လျှင် ပင်းယဥမင်တွင် လေးဆက်မြောက်နေပြီးမှ ၁၀၀၁-ခုနှစ်တွင် သာလွန်မင်းတရား ဘုံစံကျောင်းကိုဆောက်လုပ်၍ ဆင်ဦးဘုရင်ဆရာ တပည့်အလုပ်အကျွေးပဉ္စင်းငယ်အား တင်လှူတော်မူသည်၊ "မဟာရတနာဃရ" ဟူသောတံဆိပ်နာမံလည်း ပေးအပ်

တော်မူသည်၊ထိုရှင်မဟာရတနာဃရလည်း''သိရီသုဓမ္မမဟာရာဇာဓိပတိ''ဟူသောသာလွန်မင်းတရားတံဆိပ်နာမံတော်ကို ဆန်း,အလင်္ကာ, သဒ္ဒါ,နေတ္တိနည်းဖြင့် တန်ဆာဆင်လျက် အထူးထူးအပြားပြား ဖွင့်၍ ''ရာဇိန္ဒရာဇာနာမာဘိဓေယျဒီပနီကျမ်း''ဟု ပြုစုစီရင်သည်၊ ထိုကျမ်းတွင်ပြင်ဆင်ရန် ရှိသည်များကို သာလွန်မင်းတရားက လျှောက်ထား၍ တောင်ဘီလာဆရာတော်သုတ်သင်ပြင်ဆင်ရသည်။

သက္ကရာဇ် ၉၂၀-ခုနှစ်တွင် ဥမင်သုံးဆယ် အနောက်တောင်ယံ၌ ရှင်တိသာသနဓဇ အရည်ကင် တောဝင်တော်မူသည်၊ တိုင်းကြီးသား ညီနောင်သုံးပါးတွင် အကြီးကိုအရာတော်နေစေ၍ သံဃာများကို စာပေသင်ကြားပို့သရသည်၊ သတိုးမင်းစောလည်း ထို ဒုတိယဇေတဝန်ဘုန်းကြီးကို သဒ္ဓါကြည်ညိုတော်မူသည်။

သတိုးမင်းစောကိုဘုရင်ခံအရာပေးအပ်ခြင်းအကြောင်းပြီး၏။

---

## ၄၅-လျှောင်ကြီးလှုပ်သဖြင့်ရွှေသာလျှောင်းဘုရား ပြိုပျက်ခြင်းအကြောင်း

သက္ကရာဇ် ၉၅၂-ခုနှစ်တွင် လျှောင်ကြီးလှုပ်၍ရွှေသာလျှောင်းဘုရား ပြိုလေသည်ကို ဌာပနာတိုက်ကိုဖွင့်၍ ပူဇော်ပြီးမှ မင်းရဲကျော်စွာ အသစ်ထပ်မံတည်ပြန်သည်၊ ဒုတိယဇေတဝန်ဘုန်းကြီးကိုလည်း ကျောက်စာအသစ်စီ၍ ထိုးမှတ်စေသည်၊ ညောင်ရမ်း မင်းတရားလက်ထက်လည်း ဘထွေးတော် သတိုးမင်းစော ဆောက်လုပ်သော လေးထပ်ကျောင်းကိုတင်လှူတော်မူသည်၊ အနောက်ဘက် လွန်မင်းတရားလက်ထက်လည်း မင်းဝံအရပ်၌ လေးထပ်ကျောင်း ဆောက်လုပ်၍ ဒုတိယ ဆရာကိုပင် တင်လှူတော်မူသည်၊ ညီတော်အလတ်လည်း ဇေတဝန်ကျောင်းကို ၃-ဆက်မြောက်နေ၍ စာပေကျမ်းဂန် ပို့သသည်၊ ညီတော်အထွေးလည်း လောကမှန်ကင်းကျောင်းကို နှစ်ဆက်မြောက်နေ၍ စာပေကျမ်းဂန်ပို့သသည်၊နောက်လည်း မင်းဝံလေးထပ်ကျောင်းကို နှစ်ဆက်မြောက် နေပြန်ရသည်၊ ဤကား ရှင်တိသာသနဓဇ တပည့်ကျမ်းတတ်ဆရာ ငါးပါးအကြောင်းတည်း။

[ဤစကား၌ တိသာသနဓဇ နှစ်ပါးတွင် သက္ကရာဇ် ၇၇၀-တပျက်သာ မြို့ဝယ်ဘွားသော တပျက်သာမြို့သား ရှင်တိသာသနဓဇကိုယူမှတ်လေ။]

ညောင်ရမ်း မင်းတရားလက်ထက် စစ်ကိုင်းရွှေဥမင်ကျောင်းဝိနည်းဓိုရ်ဆရာ, မဟာမြတ်မုနိ အရှေ့လက်ျာဘိနန်းသူ ကျောင်းဆရာ, လေးထပ်ကြီးကျောင်းတူးရွှင်းခြေဆရာ, တောင်ဘီလာပဌမဆရာများလည်း ရှင်တိသာသနဓဇအကျော် တပည့်ချည်းပင်ဖြစ်သည်၊ကျယ်လွန်းအံ့စိုး၍ မဆိုပြီ။

ရွှေသာလျောင်းဘုရားပြုပျက်ခြင်းအကြောင်းပြီး၏။

---

## ၄၆=အဝမြို့ကို ၂-ကြိမ်မြောက် တည်ထောင်၍ညောင်ရမ်း မင်းတရားမင်းပြုကြောင်း

သက္ကရာဇ် ၉၆၁-ခု၊ တပေါင်းလဆန်း ၁၂-ရက်သောကြာနေ့ ရတနာပုရရွှေဝမြို့ကြီးကို နှစ်ကြိမ်မြောက် တည်ထောင်၍ ညောင်ရမ်း မင်းတရားမင်းပြုတော်မူ၏၊"သီဟသူရမဟာဓမ္မရာဇာ" တံဆိပ်နာမံခံ တော်မူသည်၊ သက္ကရာဇ် ၉၆၄-ခု၊ တန်ခူးလပြည့်ကျော် ၂-ရက် သောကြာနေ့ကစ၍ မဟာမြတ်မုနိဘုရား လေးထပ်ကျောင်းတည်မည့် အရာကို မြေနိမ့်၍ဖို့ရသည်၊ ရွှေကြိုးဖြင့်တမျဉ်းချ၍ ပတ္တမြားလုံးရေ ၁၀၀-စီသော ရွှေတူးရွှင်းကိုကိုင်တော်မူလျက် ကိုယ်တော်တိုင် စတော်မူသည်၊အိမ်ရှေ့မင်းနှင့်မင်းညီမင်းသားများလည်း ရွှေတူးရွှင်းကိုကိုင်၍ စကြရသည်၊ဆွေတော်မျိုးတော်,မှူးတော်မတ်တော်အပေါင်းလည်း ငွေတူးရွှင်းကိုကိုင်၍တူးကြရသည်၊ ဘုရားနှင့်ကျောင်းရာမြေကို ပယ်ဖွဲ့သော် အချင်းငါးပယ်,အမြင့်သန်းခြောက်တောင်ကို၂၉-ရက်နှင့်အပြီးတိုင်၏၊ ယင်းသို့မှအချင်းအစောက် ခုနစ်ဆယ့်ငါးတောင်ရ၍လျက် ရွှေအုတ်, ငွေအုတ်အခြေအမြစ်စ၍ တည်လုပ်တော်မူသည်၊ လေးထပ် ကျောင်းကိုလည်း တောင်ဘီလူးပဌမဘုန်းကြီးကိုရည်၍ ဆောက်လုပ်တော်မူသည်၊ ဘုရားကိုလည်း ထီးမတင်မီ,ကျောင်းကိုလည်း ဆရာမတင်မီ သိန်းနီမြို့သို့ချီတော်မူသည်၊ အပြန်တွင် နတ်ရွာစံတော်မူလေသည်။

ညောင်ရမ်းမင်းတရား မင်းပြုကြောင်းပြီး၏။

## ၄၇–သားတော်အကြီးကောင်းမှုတော်များကို ထပ်မံလုပ်ဆောင်ကြောင်း

### ရှင်မဟာရာမအား လေးထပ်ကျောင်းကိုတင်လှူခြင်း

သက္ကရာဇ် ၉၆၇-ခုနှစ်၊ တပေါင်းလပြည့်ကျော် ၁၃-ရက်နေ့၊ သားတော်အကြီးမဟာဥပရာဇာမင်းဖြစ်တော်မူ၏၊ "မဟာဓမ္မရာဇာ" တံဆိပ်နာမံခံတော်မူသည်၊ ခမည်းတော်၏ ကောင်းမှုတော်ဘုရားမပြီးသည်ကို လုပ်တော်မူ၍ သက္ကရာဇ် ၉၆၈-ခုနှစ် နယုန်လပြည့်နေ့ ရွှေထီးတင်တော်မူသည်၊ တံတိုင်းနှစ်ထပ်ကျောင်းရံလေးဆယ်နှင့်တကွ ကြီးကျယ်လှစွာသော လေးထပ်ကျောင်းကိုလည်း ပြီးပြေအောင်လုပ်ဆောင်တော်မူ၍ အထက်ရည်ရင်းတောင်ဘီလူး ပဌမဘုန်းကြီး လွန်လေသည်နှင့်တူးရွှင်းခြေတောင်နေဘုန်းကြီးကိုကိုယ်တိုင်တော်လျှောက်မည်-ဟု နန်းတော်သို့ ဆွမ်းဘုဥ်းပေးပင့်ရသည်၊ ၂-ကြိမ်တိုင်အောင်မလာ၊ ၃-ကြိမ်တွင်မှ ကြွသင့်ကြောင်းကို သံဃာများလျှောက်သည်တွင် ရဋ္ဌပိဏ္ဍနဆွမ်းကို မစားလို၍ ငါမလိုက်သည်၊ သံဃာများအလိုရှိမူကား လိုက်တော့မည်ဆို၍ ဆွမ်းဘုဥ်းပေးပင့်သည်ကို ဝန်ခံလေသည်။

ဘုန်းတော်ကြီးကြွတော်မူလာလျှင် စေတီအကြားနှင့် ကျောင်းအကြားကိုကြွတော်မူခဲ့ပါ-လျှောက်ရမည်ဟု မင်းအမိန့်တော်ရှိသည့် အတိုင်းလျှောက်ကြလျှင်လမ်းမနှင့်ပင်ဖြစ်သည်၊လာမည်ဟုမိန့်ဆို၍နောက်တနေ့လျှောက်ချက်အတိုင်းကြွသဖြင့် နန်းတော်သို့ရောက်သော် စေတီအကြားနှင့် ကျောင်းအကြားကို ကြွတော်မူခဲ့ပါဟု မင်းကလျှောက်သည်၊ တရားမင်းမြတ် အမိန့်တော်ရှိသည်ဆို၍လာခဲ့ပါ၏ဟု ဘုန်းကြီးကမိန့်ဆိုသည်၊ ကျောင်းလည်းကြီးကျယ်သာယာသည်၊ စေတီနှင့် မနီးမဝေး အာရုံ, အာရမ္မဏိကတော်သင့်လှသည်၊ သူတော်ကောင်းတို့မွေ့လျော်ဘွယ်ရှိလှသည်-ဟု မင်းကလျှောက်သည်ကို အမိန့်တော်အတိုင်းမှန်ပေ၏၊ တောခနေရဟန်းနှင့်မူကား သမင်ကိုလင်းလွှား ပြသကဲ့သို့ရှိသည်-ဟု ဘုန်းကြီးကမိန့်ဆိုသည်တွင် ဘုန်းတော်ကြီးကိုကျွန်ုပ်ကျောင်းမဘိတ်ပါသေး-ဟုမင်းကဆိုသည်ကို ဘိတ်သော်လည်း မနေနိုင်ပါ-ဟု ဘုန်းကြီးဆို၍ စကားစဲလျှင် ဆွမ်းကပ်သည်၊ ဘုဥ်းပေးပြီးလျှင်တရားဟော၍ကြွလေသည်။

တူးရွှင်းခြေတောင်နေဆရာ လေးထပ်ကျောင်းမှာ မနေလိုကြောင်းကို အတတ်သိတော်မူ၍ အထပ်ထပ်ပင့်သော် ဘုန်းတော်ကြီးပင်ပန်းတော့မည်၊ မပင့်နှင့်တော့၊ ကျောင်းတော်နှင့်သင့်လျော်သည့် ပုဂ္ဂိုလ်ကို ညွှန်တော်မူပါ-ဟူ၍ သာ လျှောက်တော့-ဟု အမိန့်တော် ရှိ၍ လျှောက်လျှင် တူးရွှင်းခြေအရပ်တွင်ပင် နေသော ရှင်မဟာရာမကို ကျမ်းဂန်လည်းတတ်သည်၊သာသနာကိုလည်း ရွက်ဆောင်လေ့ရှိသည်၊ ဟု ညွှန်တော်မူသည့် အတိုင်း တူးရွှင်းခြေတောင်နေ ရှင်မဟာရာမ အားလေးထပ်ကျောင်းကို တင်လှူတော်မူသည်၊ "မဟာသင်္ဃနာထ" တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်၊ ကျောင်းရံလေးဆယ်တွင် အရှေ့မြောက်ထောင့်ကျောင်းနေ ဝရာဘိသင်္ဃနာထပုဂ္ဂိုလ် မဏိကုဏ္ဍလဝတ္ထုကို စီရင်သည်၊ အနောက်တောင်ထောင့် ကျောင်းနေ ပုဂ္ဂိုလ်လည်း သတ္တရာဇဓမ္မဝတ္ထုကိုစီရင်သည်။

### ဘားမဲ့,ဘားတမေ့စသောမွန်ဆရာတော်များ

ထိုရောအခါ ဟံသာဝတီငါးဆူဒါယကာ တောင်ငူရောက်မင်းတရားက နိဿယည်းမေးသည်တွင် မရ၍နှင်ထုတ်လိုက်သောဘားမဲ့အကျော်, အာစာရအကျော်-ဟုသမုတ်ခေါ်ဝေါ်သော မွန်ဘုန်းကြီးတို့ကို ဆရာပြု၍လောကမှ၃ ကိုးကွယ်တော်မူ၏၊ သက္ကရာဇ် ၉၆၇-ခု၊ လယ်ကြီးအရပ်တွင်ပြာသာဒ် ၃-ဆောင်နှင့် ကျောင်းတော်ဆောက်လုပ်၍ဘားမဲ့အကျော်ကို တင်လှူတော်မူသည်၊ ထိုမွန်ဘုန်းကြီးတို့အားကား လူမှုလူရာ,ဗေဒင်ဆေးမှု, အင်းအိုင်ယတြာ,လေ့လာတတ်ကျွမ်းကြ၏၊ ပရိယတ်,ပဋိပတ်ကိုအလေးအမြတ်မပြုကြ၊ ထို့ကြောင့် ထိုမွန်ရဟန်းတို့လည်း ယခင်ကပြခဲ့သော ရာမညတိုင်း သာသနာဆက်ခုနစ်ပါးသို့မဝင်၊ သာသနာဆက်စကားတွင် နည်းအဋ္ဌကထာနှင့် အညီ လဇ္ဇီပေသလသိက္ခာကာမရဟန်းကောင်းရဟန်းမြတ်ကိုသာ သွင်းအပ်သည်-ဟုမှတ်လေ။

သက္ကရာဇ် ၆၇၃-ခုနှစ်တွင် ခမည်းတော်မင်းတရားကြီးတဲတော်ကိုဖျက်၍ မဟာမြတ်မုနိဘုရားအရှေ့ကိုစဉ်လျက်လေးကျောင်းဆောက်လုပ်တော်မူသည်၊ တောင်စွန်ကျောင်းကို တောင်ငူ သတိုးဓမ္မရာဇာ

ဆရာ၊ သည့်မြောက်ကျောင်းကိုဘားတမော့မွန်ဆရာ၊ သည့်မြောက်ကျောင်းကိုလင်္ကာဘိနန်းသူဆရာ၊ မြောက်စွန်ကျောင်းကို တောင်ငူမိဖုရားဆရာအားတင်လှူတော်မူ၍ ပစ္စည်းလေးပါး ထောက်ပံ့တော်မူသည်၊ စာပေလည်းသင်ကြားပို့သကြရသည်၊ သည့်ဆရာလေးပါးတွင် လင်္ကာဘိနန်းသူဆရာ သာလွန်၍ကျမ်းဂန်တတ်မြောက်သည်၊ တိသာသနဇောတ, တိလောကဂရု-စသော ပုဂ္ဂိုလ်ကျော်များ သင်ကြားကြသည်။

### ဆီးတောဆရာတော်

ရှေးအထက်သက္ကရာဇ် ၇၀၀-ကျော် ဒုတိယမင်းခေါင် လက်ထက် ဆိကထင်ရှားစွာသော ဆီးတောဘုရင်ဆရာသည် စလင်းမြို့အသည်ကြီးသားဖြစ်သည်၊မင်းခေါင်ညီတော်သတိုးကျော်စွာစလင်းမြို့ကိုစား၍ စလင်းမှာနေစဉ် သတိုးကျော်စွာ မိဖုရားသည် ထိုအသည်ကြီးသား ၅-နှစ်ရွယ်ကိုယူ၍ မွေးစားတော်မူသည်၊ သတိုးကျော်စွာလွန်သည့်နောက် သားသမီးတစုလုံးကိုခေါ်၍ မိဖုရားအဝသို့လာရာတွင် ထိုအသည်ကြီးသားလည်းပါသည်၊ အရွယ်ရောက်လျှင် မိဖုရားက ရဟန်းပဉ္စင်းပြု၍စာပေကျမ်းဂန် တတ်မြောက်သောအားဖြင့် ထင်ရှားကျော်စောလှသည်ဖြစ်၍ ဒုတိယ မင်းခေါင်လည်း ကိုးကွယ်တော်မူသည်၊ နောက်သားတော်နန်းကြေ့ရှင်နရပတိလည်း မင်းဝံလေးထပ်မြေရာတွင် ရွှေကျောင်းဆောက်လုပ်၍ တင်လှူတော်မူသည်၊ ကျောင်းတော်ပတ်လည်ဆီးပင်များ၍''ဆီးတောရွှေကျောင်း,ဆီးတောဆရာ''ဟုတွင်သည်၊ ၈၈၈-ခုနှစ်တွင် အဝတီမ်းယိမ်းလျှင် ဇလုံသားသိုဟန်ဘွား, ခုံမှိုင်းသားမိုးဗြဲစား, စစ်ကိုင်းနရပတိ၊ ဤမင်း၃-ဆက်တို့အခါ ၂၅-နှစ်တွင် သိုဟန်ဘွားလက်ထက်ဆီးတောဆရာကို အုန်းဘောင်စော်ဘွားကပင့်ဆောင်၍ အုန်းဘောင်မင်း ဆရာဖြစ်လေသည်၊ အုန်းဘောင်ခုံမှိုင်းသားမိုင်းဗြဲစား အဝမှာဆင်း၍မင်းပြုလာသည်တွင်လည်း အုန်းဘောင်ကပင့်ခဲ့၍အဝမှာပင်ကိုးကွယ်သည်၊၉၁၆-ခုနှစ် ဟံသာဝတီဆင်ဖြူများရှင် သိမ်းတော်မူ၍စစ်ကိုင်းနရပတိဟံသာဝတီသို့ပါသည့်နောက် အဝကိုညီတော်သတိုးမင်းစော မင်းပြုရသည်ကာလလည်း သတိုးမင်းစောကိုးကွယ်တော်မူသည်၊ သတိုးမင်းစောလက်ထက် ၉၃၁-ခုနှစ်

တွင် ဆီးတောဆရာလွန်လေသည်၊ ဤသို့ဘုရင်မင်း ခြောက်ဆက်တိုင် အောင်ဆရာချည်းဖြစ်၍ ဆီးတောဘုရင်ဆရာ-ဟုတွင်လေသည်။

[ဆီးတောဆရာ, ဆီးတောရွှေကျောင်းဆရာ, ဆီးတောဘုရင်ဆရာ-ဟုအမည်သုံးပါးတွင်သည်-ဆိုလိုသည်။]

ထိုဆီးတောဘုရင်ဆရာလွန်သောအခါ စလင်းမြို့မှာတောင်ဘီလာ ပုဂ္ဂိုလ်ကျော်မယ်တော်ကိုငါ့ဆီးတောဘုရင်ဆရာဝင်၍နေမည်-ဆိုလာ သည်-ဟု မယ်တော်အိပ်မက်မြင်လေသည်နှင့် သန္ဓေနေ၍ ဆယ်လ ခြောက်လျှင် သက္ကရာဇ် ၉၄၀-ပြည့်နှစ် ကြာသပတေးနေ့တွင်ဘွားမြင် သည်၊ထိုနောက် တဆဲ့သုံးနှစ်ရွယ်ရှိလျှင် ရှင်ပြု၍စာပေသင်သည်၊ငါးဆူ ဒါယကာ သားတော်မင်းကြီး နောက်ပင့်၍ပြည်သို့ ရောက်လျှင်သာမ ဏေကျော်-ဟုထင်ရှားသည်၊ ၉၅၄-ခု တဆဲ့ငါးနှစ်ရွယ်တွင် ဝေဿန္တရာပျို့ကိုစပ်ဆိုသည်၊၉၅၉-ခုရန်နိုင်မှူးမင်းဖြစ်သည့်နှစ် ပြည်မြို့တွင် ရန်နိုင်မှူးကပဥ္စင်းခံသည်၊ အနောက်ဘက် လွန်မင်းတရားတိုက်၍ပြည် မြို့ပျက်သည့်နောက် အဝသို့ပင့်ဆောင်၍ ၎င်းမင်းတရားပင် ကိုးကွယ် တော်မူသည်၊ ပဲခူးသို့ ၎င်းမင်းတရားစုံသောအခါလည်း ပဲခူးသို့ပါ ရသည်၊ ၉၇၇-ခုနှစ်တွင် ညီတော်စလင်းစား မင်းရဲကျော်စွာ သုံး ကြိမ်တင်လျှောက်မှ မင်းရဲကျော်စွာက ကိုးကွယ်ရသည်၊ ၉၇၉-ခု၊ စစ် ကိုင်းမြစ်နား လေးထပ်ကျောင်းကို မင်းရဲကျော်စွာ ဆောက်လုပ်သည်၊ ၉၈၃-ခု၊ ထိုကျောင်းကို တင်လှူတော်မူသည်၊ "တိပိဋကာလင်္ကာရ" တံဆိပ်နာမံလည်း သာလွန်မင်းတရားကြီးက ပေးအပ်တော်မူသည်၊ သက္ကရာဇ် ၁၀၀၀-ပြည့်၊တပေါင်းလပြည့်နေ့ သက်တော် ခြောက် ဆယ်ပြည့်တောင်ဘီလာတောသို့ဝင်တော်မူသည်၊သက္ကရာဇ် ၁၀၀၂-ခုနှစ်တွင်တောင်ဘီလာကျောင်းတော်ကိုတင်လှူတော်မူသည်၊သက္ကရာဇ် ၁၀၁၂-ခု အသက် ၇၂-နှစ်တွင်လွန်တော်မူသည်။

သားတော်အကြီးကောင်းမှုတော်များကိုထပ်မံလုပ်ဆောင်ကြောင်းပြီး၏။

---

## ၄၈=ပုဂ္ဂိုလ်ကျော် ၂-ပါး, ၃-ပါးတို့အကြောင်း

### ရှင်ကရဝိက

မြစ်နားလေးထပ်ကျောင်းကို ဖွဲ့ဆိုသော လေးထပ်ကျောင်းတည် သမိုင်းကို "မင်းရဲကျော်စွာတိ ဝိဿုတော၊ ဓမ္မရာဇဿ ကဏိဋ္ဌော"စ

သောဂါထာအဦးထားလျက် ရှင်ကရဝိက စပ်ဆိုစီရင်သည်၊ ရှင်ကရဝိက-ဟူသည်ကား သာလွန်မင်းတရားလက်ထက် တက်ထွန်းလျှံဝါရှိ မော်ကွန်းသုံးပိုဒ်ဆက်၍-"ဖြူရိပ်ဖြန့်လွှား၊ လူ့ဘုရားလျှင်၊ လေးပါးတန်ခိုး၊ နေ့တိုင်းဘိုးလျက်-ဟု ရှင်ဘုရင်ကို လူ့ဘုရား-ဟု ထောမနာသောစာဆိုရှင်ကရဝိကပင်တည်း၊ ၎င်းမော်ကွန်း ၃-ပိုဒ်ကို ထန်းရွက်ညွန့်ရှည်နှင့် ရေး၍ ဆက်သည်၊ ရွှေကျည်တောက်နှင့်သွတ်၍ ခေါင်းရင်းတော်တွင် အမြဲထားသည်-ဟုစာဟောင်းရှိသည်။

## တောင်ဘီလာပုဂ္ဂိုလ်ကျော်

တောင်ဘီလာပုဂ္ဂိုလ်ကျော်ကားပြည်မြို့မြောက်နန္ဒင်းရွှေကျောင်း သီဟိုဠ်ရောက် ရှင်အတုလစံသ အနွယ်တော်တည်း၊ ပြည်မြို့နန္ဒင်းရွှေကျောင်း၌ သီတင်းသုံးနေတော်မူကတည်းကပင် ကျမ်းဂန်အလွန်တတ်မြောက်တော်မူ၍ ပြည်ပဋ္ဌင်းကျော်-ဟု ကျော်စော ထင်ရှားတော်မူသည်။

စစ်ကိုင်းမြစ်နား လေးထပ်ကျောင်းတွင် နေတော်မူစဉ်က အဋ္ဌသာလိနီကျမ်းဦးဂါထာနှစ်ဆယ့်အဖွင့်ကျမ်းရိုး"ဝိသတိဝဏ္ဏနာ"ကိုစီရင်သည်၊ ထိုနောက်မင်းရဲကျော်စွာ တောင်းပန်၍ "ရသဝဓုနဝတ္ထု"ကိုလည်း စီရင်သည်၊ တောဝင်၍ တောင်ဘီလာကျောင်းတွင်နေတော်မူမှ "ဝိနယာလင်္ကာရဋီကာ"ကိုစီရင်သည်၊သာလွန်မင်းတရားမေးတော်မူသမျှကိုဖြေတော်မူသော အစုစုစကား အမေးတော်ပုံလည်း ယခုတိုင်ထင်ရှားရှိသည်၊ အနောက်ဘက် လွန်မင်းတရားပြည်မြို့ကပင့်ဆောင်ခဲ့၍ အဝသို့ ရောက်တော်မူလျှင် မဟာမြတ်မုနိအရံတွင် သုဓမ္မာစရပ်၌နေတော်မူသည်၊ ထိုကာလ လေးထပ်ကျောင်း မဟာသင်္ဃနာထဆရာတော်ကိုသာသနာပိုင် အပ်တော်မူသည်၊ စာပေ ကျမ်းဂန်လည်းတတ်မြောက်လှသည်ဖြစ်၍ တောင်ဘီလာ ပုဂ္ဂိုလ်ကျော်လည်း ဆည်းကပ်၍ ကျမ်းဂန်ဆွေးနွေး နေတော်မူသည်၊ ဆရာတော်လည်း အလွန်နှစ်သက်တော်မူသည်၊

## အဝပဋ္ဌင်းကျော်နှင့်ပြည်ပဋ္ဌင်းကျော်

ထိုအခါအဝတွင် ရှင်အရိယာလင်္ကာရလည်း ကျမ်းဂန်အလွန်တတ်သသူအဝပဋ္ဌင်းကျော်-ဟု ကျော်စော ထင်ရှားသည်၊ တောင်ဘီလာ

ပုဂ္ဂိုလ်ကျော်လည်း ကျမ်းဂန်အလွန်တတ်သသူ, ပြည်ပဋ္ဌင်းကျော်-ဟု အလွန်ကျော်စော ထင်ရှားသည်၊ သိက္ခာဝါလည်း ခုနစ်ဝါစီသာရကြသည်၊ ပြည်ပဋ္ဌင်းကျော်ရောက်လာကြောင်းကို အဝပဋ္ဌင်းကျော်ကြား၍ တောတွင်းမှာသာ ကျော်လိမ့်မည်၊ မင်းနေပြည်မှာမကျော်လေရာ-ဟု အဝပဋ္ဌင်းကျော်ကဘားတမေ့ဆရာတော်ထံပြောဆိုလျှင်"မပုပ်ဘဲကို မပေါ်၊မဟုတ်ဘဲကိုမကျော်" ဟူ၍သူဟောင်းတို့ဆိုရိုးရှိသည်၊မဟုတ်ဘဲကိုကျော်ဘိမည်လောဟု ဘားတမေ့ ဆရာတော်ဆိုသည်။

ပညာရှိရောက်သည်ကိုသွား၍ ပြောဟောလည်ဆယ်ချင်သည် ဆိုပြန်လျှင် ကိုယ်တိုင်သွား၍မသင့်၊အာဂန္တုကဖြစ်ပလေသည်၊အကြောင်းကိုသိလိုလျှင် ဂါထာဗန္ဓဘွဲ့စီ၍ မေးသော် သိရတော့မည်ဟု ဘားတမေ့ဆရာတော် ဆိုသည့်အတိုင်း အဝပဋ္ဌင်းကျော်က တွေ့မြင်ချင်ကြောင်း,သိက္ခာဝါ အသက်အရွယ်မည်မျှရှိကြောင်းများကို ဂါထာဗန္ဓဘွဲ့၍မေးသည်၊ ပြည်ပဋ္ဌင်းကျော်ကလည်း တွေ့မြင်ချင်ကြောင်း သိက္ခာဝါ အသက်အရွယ် မည်မျှရှိကြောင်းများကို ဂါထာဗန္ဓဘွဲ့၍ ဖြေသည်၊ ပုဂ္ဂိုလ်ကျော်နှစ်ပါး အမေးအဖြေဟု စကားစဉ်ပင်ရှိသည်၊ပဋ္ဌင်းကျော်နှစ်ပါးအကြောင်းကို အနောက်ဘက် လွန်မင်းတရားကြီးတော်မူ၍ ပဋ္ဌင်းကျော်နှစ်ပါးနှင့် သည့်ပြင် ကျမ်းဂန်တတ်သော ပုဂ္ဂိုလ်တို့ကို လေးထပ်ကျောင်းတော်မှာ လည်ဆယ်ပြောဟောကြပါစေဟု မင်းတရားကြီးက လျှောက်၍ ကျောင်းတော်မှာ ဆရာတော်ကြီးရှေ့ လည်ဆယ်ပြောဟောကြရသည်။

ဓာတုကထာဋီကာကိုပြောဟောကြရာတွင်အဝပဋ္ဌင်းကျော်ကိုပြည်ပဋ္ဌင်းကျော်က နှစ်ကြိမ် သာပလေသည်ဟု လေးထပ်ဆရာတော်ကြီး မိန့်တော်မူသည်၊ ပရိသတ်အစည်းအဝေးကြီးတွင်လည်း လေးထပ်ဆရာတော်ကြီး ဤသို့ဆိုစမှတ်ပြုတော်မူသည်၊ ဂန္ထန္တရနှင့်စပ်သည်ကို တိပိဋကာလင်္ကာရကိုမေးလျှင် ဝါးခွဲသကဲ့သို့ရှိပေသည်၊ ဝိဂ္ဂဟဝစနတ္ထနှင့်စပ်သည်ကို အရိယာလင်္ကာရကိုမေးလျှင် မိုယ်းသေး မိုယ်းဖွဲ့ကျသကဲ့သို့ရှိပေသည်ဟုပုဂ္ဂိုလ် ၂-ပါး သတ္တိအထူးကို ဆိုစမှတ်ပြုတော်မူသည်။

သာလွန်မင်းတရား လက်ထက်ရောက်မှ ပြည်ပဥ္စင်းကျော်ကို''တိပိဋကာလင်္ကာရ'' အဝပဥ္စင်းကျော်ကို ''အရိယာလင်္ကာရ'' တံဆိပ်လှူတော်မူသည်၊ အဝပဥ္စင်းကျော်အား ကောင်းမှုတော်ကြီး ဒက္ခိဏဝန်ကျောင်းကို တင်လှူတော်မူမည်ဟု ခန့်ရံတော်မူသည်ကို မတင်မီ ခင်လွန်လေ၍ ကျမ်းဂန်တတ်သော တပည့်ရင်းပုဂ္ဂိုလ်ကို အရိယာလင်္ကာရတံဆိပ်ကိုအပ်၍ တင်လှူတော်မူသည်။

ပုဂ္ဂိုလ်ကျော် ၂-ပါး, ၃-ပါးတို့အကြောင်းပြီး၏။

---

## ၄၉-သာလွန်မင်းတရားကြီး ဒုတိယရာဇာဘိသေကကို ခံတော်မူခြင်းအကြောင်း

သက္ကရာဇ် ၉၉၆-ခုနှစ်တွင် ရတနာပုရဝယ် သာလွန်မင်းတရား အထွတ်အမြတ်သို့ရောက်တော်မူသည်၊ သိရိဓမ္မာသောကမင်းကြီးထုံးစံသို့လိုက်၍ ဘိသိက်မခံဦးဘဲ လေးနှစ်ပတ်လုံး ပြည်ရေးရွာမှုကို စီရင်တော်မူပြီးမှ သက္ကရာဇ် ၉၉၇-ခုနှစ်တွင် ဒုတိယရာဇာဘိသေက ခံတော်မူ၍၊''သိရိသုဓမ္မရာဇာ မဟာဓိပတိ''တံဆိပ်နာမံလည်းခံတော်မူသည်၊ ဟံသာဝတီပြည်ကြီး၏ အနောက်မြောက်ယွန်း အောင်မြေအရပ်ဝယ် သာယာကြီးကျယ်စွာသော တဲနန်းတော်၌ စံတော်မူစဉ် မွန်မျိုးမတ်ရဟန်းရှင်လူတို့က မြန်မာရဟန်းများကို စာပေကျမ်းဂန်မတတ်မသိဆိုကြသောစကားကိုကြားတော်မူ၍ အသက် ၃၀-ကျော် ၄၀-ရွယ် ပိဋက, ဗေဒင်, လောကဝတ်, ဓမ္မဝတ်တတ်ကျွမ်းလိမ်မာသောပုဂ္ဂိုလ် ၂-ပါး, ၃-ပါးကို ဟံသာဝတီသို့လာပါစေဟု လေးထပ်ဆရာတော်ထံ သာလွန်မင်းတရားက လျှောက်လိုက်သည်။

လေးထပ်ဆရာတော်ကလည်း အမိန့်တော်အတိုင်း တိပိဋကာလင်္ကာရ,တိလောကာလင်္ကာရ, တိသာသနာလင်္ကာရ၊ ဤလင်္ကာရ ပုဂ္ဂိုလ်ကျော် ၃-ပါးကို နောက်ပါရဟန်း ၁၀-စီနှင့် စေတော်မူလိုက်သည်၊ ဟံသာဝတီသို့ရောက်လျှင် ရွှေမော်ဓောဘုရားရှင်ရှေ့တွင် တဲကျောင်း ၃-ကျောင်းဆောက်၍ ကျမ်းဂန်ပို့သတော် မူရသည်၊ သီတင်းလပြည့်နေ့ ရံခါလည်း ရွှေမော်ဓော သုဓမ္မာ စရပ်တွင်

ကျမ်းဂန်တတ်သည့် မွန်ဆရာတို့နှင့် ကျမ်းဂန် လည်ဆယ်ပြောဟောတော်မူရသည်၊ မွန်ဆရာတို့လည်း မြန်မာရဟန်းတို့သည် ကျမ်းဂန်တတ်ကျွမ်းကြပေ၏၊ ဉာဏ်ပညာကြီးကျယ်ကြပေ၏-ဟု ချီးမွမ်းကြကုန်သည်၊ မွန်မူးမတ်ရဟန်းရှင်လူတို့လည်း မြန်မာရဟန်းတို့ အစွမ်းသတ္တိကိုထင်ရှားသိကြကုန်သည်၊ သက္ကရာဇ် ၉၉၆-ခုနှစ်တွင် အဝသို့မင်းတရားကြီးဆန်တော်မူ၍ ပုဂ္ဂိုလ်ကျော် ၃-ပါးပြန်မည်ရှိသည်တွင် တိလောကဂရုမွန်ဆရာတော်ကို အဖူးအမျှော် တောင်ဘီလာ ပုဂ္ဂိုလ်ကျော်တက်လျှင် တိလောကဂရု ဆရာတော် ဤသို့ မိန့်ဆိုတော်မူသည်၊ အဝသို့ရောက်လျှင် တိပိဋကာလင်္ကာရ ပုဂ္ဂိုလ်သည် သူများအလျှင်ကျောင်းရလိမ့်မည်ဟုမိန့်ဆိုသောကြောင့် ပုဂ္ဂိုလ်ကျော်က အဘယ်ကိုမြင်၍ မိန့်ဆိုသနည်းဟုလျှောက်သည်တွင် ပုဂ္ဂိုလ်ကျော်သည် ဆွမ်းပန်းအခံသွားလာရာ ဝါးခြမ်း ကြိမ်ခြမ်းပင်ရသော်လည်း ဆောင်ယူခဲ့၍ ကျောင်းကိုမပြတ်ချည်နှောင်ကွပ်ညှပ်ပြင်ဆင်သည်၊ ကျောင်းကိုပြင်လေ့ရှိသော ရဟန်းတို့သည် ကျောင်းရလွယ်သည်-ဟု ရှေးဆရာကြီးတို့ဆိုကြသည်-ဟုမိန့်တော်မူသည်၊ တိလောကဂရုဆရာတော်မိန့်တော်မူသည့်အတိုင်းလည်းမှန်သည်၊ မြစ်နားလေးထပ်ကျောင်းကို သူများအလျှင်ရတော်မူသည်။

သာလွန်မင်းတရားကြီး ဒုတိယ ရာဇာဘိသေကခံခြင်းအကြောင်း ပြီး၏။

---

## ၅၀-သားတော်အမြင့်မြို့စားရှင်တရုပ်အကြောင်း

သက္ကရာဇ် ၁၀၀၉-ခုနှစ်တွင် ညီတော်မင်းရဲကျော်စွာလွန်၍ မရှိလျှင် သားတော်အမြင့်မြို့စားရှင်တရုပ်သည် လူသွမ်းလူပျက်တို့ စကားကို နာယူ၍ နံနက်လေးချက်တီးကျော်တွင် နန်းတော်သို့ ဝင်သည်၊ မြေနန်းရှေ့သို့ရောက်မှ ပြောင်းသေနတ်သံ ပေးသည်၊ တိုက်စည်တီးသည်၊ အသံကိုကြား၍ ကြည့်ရှုစေသော် အမြင့်စားအတတ်ပင်ဖြစ်ကြောင်းကိုသိ၍ အတွင်းဝန်နန္ဒဇေယျက ယခုပင်အလျှင်ထွက်တော်မူမှ သင့်မည်ဟုလျှောက်သောကြောင့် တမုတ်ကြီးငါးသွယ်နှင့်သီ၍ကွမ်းခွက်တော်တွင်အမြဲထားသောအဘိုးအတိုင်းမသိထိုက်သောလက်ဝတ်တော်

များကိုယူ၍ ခြေလျင်ပင် နန္ဒဗေယျတဘက်, ရာဇယော်ဓာတဘက်မ၍ အနောက် တံခါးသို့ ထွက်တော်မူသည်၊ ဝင်းတော်ပြင်သို့ ရောက်မှ မြင်းစီး၍ ကလေးတံခါးကထွက်လေသည်၊ သားတော်များကိုလည်း ပါနိုင်သမျှသင်းပင်းနှင့် လေးထပ်ကျောင်းသို့ လိုက်လာလှည့်-ဟူ၍ အပေါက်မှူးကို စေတော်မူသည်၊ ယင်းသောအခါသားတော်မင်းပုဖြူ, မင်းကုသနှင့်၊ အနောက်ပေါက်သို့ နောက်တော်တွင်ပါသည်-ဟုရာဇဝင်မှာဆိုသည်။

လူတယောက်မျှမသိစေရ၊ တကိုယ်တည်းသာ နန်းတော်အနောက်တံခါးကသည် ဝင်မနား တံခါးကိုထွက်၍ ငွေစင်ချောင်းနားသို့ ရောက်လျှင် ငွေစင်ဝယ် ရေရှိသည့်ကာလဖြစ်၍ မကူးတည့်နိုင်၊ သာမဏေ တပါး လှေနှင့် ဆွမ်းဝတ်ယူမည် လာသည်ကို တွေ့လေသော် တောင်ဘက်သို့ချပါဟုဆိုသည်၊ သာမဏေကလည်း၊ အဘိုးကိုချ၍ နေလျှင် ဆွမ်းဝတ်နေမြင့်တော့မည်-ဟုညည်းညူသောကြောင့်လက်စွပ်ပေးမည်ဟု အကြိမ်ကြိမ်အပန်းတကြီးဆိုမှ တောင်ဘက်သို့ပို့သည်၊ လှေထက်သို့ တက်သည်တွင် မင်းတရားကြီးကိုယ်တော်တုန်ယင်သည်ကို အဘိုး ချမ်းသလော-ဟု သာမဏေက မေးသည်၊ တောင်ဘက်သို့ရောက်မှ သာမဏေကို ပြောရာသမျှပြော၍ လေးထပ်ကျောင်းသို့ ပို့စေသည်-ဟု ဆရာစဉ်စာတမ်းများတွင် ဆိုသည်၊ သဘောသင့်ရာ ဆင်ခြင်၍ မှတ်ရမည်။

### မင်းတရားကြီးကို သံဃာတော်များစောင့်ရှောက်ရခြင်း

လေးထပ်ကျောင်းသို့ရောက်လျှင် ဆရာတော်နှင့် ပြောဟောပြီးမှ လူဆိုးလူသွမ်းတို့မဝင်သာအောင် ထီးရိုးကိုင်ကာ တပည့်တော်များကို ဆီးတားပါစေ-ဟု ဆရာတော်ကိုလျှောက်သည်၊ ဆရာတော်ကလည်း ငါရဟန်းသားဖြစ်သည်၊ မည်သို့အထူးမကြံသာ၊ စံကျောင်းသူတော်ကို ပင့်ပါရစေဦးဆို၍ စံကျောင်းဆရာတော်ကိုပင့်စေသည်၊ရောက်လျှင်မင်းတရားကြီးက ယခင်လျှောက်မြဲလျှောက်သည်ကို သားဆိုး ပုန်စားလေသည် အရာနှင့် ရဟန်းပြုထွက်ရှိသလော၊ကြက်သရေတိုက်၌ နေတော်မူဟုဆို၍ ကြက်သရေတိုက်မှာနေတော်မူသည်၊ စံကျောင်းဆရာတော်

လည်း ဆွမ်းမခံ၊ ကြွင်းကျန်သမျှ ရဟန်း, သာမဏေကိုခေါ်၍ ထီးရိုးတောင်ဖွေးနှင့် ကျောင်းတော်သို့ လူတယောက်မျှမဝင်ရအောင်စောင့်စေသည်။

ငါးဆူလယ်ကြီးတောင်ဘီလူးစသောပင်းယတံတားဦးတွင် ရဟန်းအပေါင်းတို့ကိုလည်း အလျင်ရောက်စေ-ဟု အပြင်းခေါ် ရသည်၊ ရောက်နှင့်သမျှ ရဟန်းလေးရာကျော်ငါးရာကို ကျောင်းတံခါးလေးမျက်နှာက ထီးရိုးတောင်ဖွေးနှင့်ဆီးဆို့ရသည်၊ နောက်ရောက်လာသော ရဟန်းတထောင်ကျော်တို့လည်း တုတ်တောင်ဖွေးနှင့် ညောင်စင်လမ်းက ဆီးဆို့နေရသည်၊ ယင်းသို့မှမင်းညီမင်းသားမှူးတော် မတ်တော်မှုထမ်းရာထမ်းတို့ အစုံအညီရောက်လာကြသည်၊ ထိုသက္ကရာဇ် တော်သလင်းလပြည့်ကျော် ၅-ရက်ကသည်၊သီတင်းကျွတ်လပြည့်ကျော် ၅-ရက်နေ့တိုင် တလကျော်ခန့်ရှိမှအတွင်းသားတို့လုပ်ကြသဖြင့် ရှင်တရုပ်ကို အလိုတော်ပြည့်သည်၊ နောက်လေးထပ်ကျောင်းတွင်ပင် ခုနစ်ရက်နေတော်မူပြီးမှ ရွှေနန်းတော်သို့ဝင်တော်မူသည်။

တလာကျော်ပတ်လုံး ကျောင်းတော်ဦးမှာ သင်္ဃာများ စည်းဝေး၍ ပရိတ်ရွတ်သည်ကို မင်းတရားကြီးမပြတ်နာတော်မူသည်၊ ပရိတ်ရွတ်သည့်သင်္ဃာတော်တို့အားလည်း စားတော်ကွမ်း တစီ နှစ်စီ ကိုယ်တိုင်ကပ်လှူတော်မူသည်ကို အများသံဃာတို့လက်နှင့် လှမ်းယူကြသည်၊ သံဃာတော် တဦးမူကား-ဒုကုဋ်နှင့်သာခံယူသည်၊ တနေ့ သဥ္စလည်း ဤသို့လျှောက်သည်၊ ကျွန်ုပ်မှာဘယောင်းချေစရာ မရှိပါ၊ ဘယောင်းချေချင်ပါသည် လျှောက်သည်ကို သံဃာတော်များတိမ်း၍နေကြသည်၊ ဒုကုဋ်နှင့် ကွမ်းခံသည့်သံဃာတော်တဦးက ရဟန်းတို့မှာဘယောင်းချေလေ့မရှိကြဆိုသည်တွင် ဘယောင်းချေလေ့ရှိသည်မှတ်၍လျှောက်သည်ဟုဆိုသည်။

### ရေနဲနတ်စက်ရောင်

တနေ့သဥ္စလည်း သံဃာတော်တို့တွင် ဗေဒင်ဂဏန်းမှတ်သားသသူရှိပါသလော မင်းတရားကြီးမေးတော်မူသည်၊ ရဟန်းတော်တို့ ဗေဒင်ဂဏန်းမလေ့မကျွမ်းချေ၊ ရေနဲမြို့ကနေလာသည့် ပဥ္စင်းပျိုတဦးကား-

ဗေဒင်ဂဏန်းလေ့လာမှတ်သားဟန်ရှိသည်-ဟု သံဃာတော်တို့ဆိုလျှင် ထိုပဉ္စင်းကိုခေါ်၍မေးမြန်းသည်တွင် ရဟန်းတော်ကဗေဒင်ကိုများများ မတတ်ပါ၊ ကာလကြီးတခုကိုသာ တတ်သည်-ဟု ဆိုသည်၊ ကာလကြီး ကိုပင် ချပါတော့ဆို၍ချသော် ကာလကြီးအလိုစိုးရိမ်တော် မမူနှင့်၊ သီတင်းကျွတ်လပြည့်ကိုအောင်မြင်တော်မူမည်ဆိုသည့်အတိုင်း မှန်လေ သည်၊ထိုပဉ္စင်းပျိုလည်း ဝမ်းဘဲအင်းစံ မင်းတရားလက်ထက်''ရေနဲနတ် စက်ရောင်''ဟု ကျော်စောထင်ရှားစွာဖြစ်ပေသည်၊ ရွှေစည်းခုံဘုရား အနီးအရှေ့မြောက်တွင် မုတ်မှန်ကင်းနှင့် ယွန်းကျောင်းဆောက်၍ တင် လှူတော်မူသည်၊ ''ဓမ္မနန္ဒဓမ္မရာဇဂုရု'' တံဆိပ်နာမံလည်း ပေးအပ် တော်မူသည်။

### သာလကာ တလင်ပန်း ပင်ပန်းကာ တယောက်မ

ထိုသက္ကရာဇ်သီတင်းကျွတ်လပြည့်ကျော် ၁၄-ရက်နေ့ လေးထပ် ကျောင်းဆရာတော်,၊ စံကျောင်းဆရာတော်နှင့် ဆရာတော်အပေါင်း ကိုနန်းတော်သို့ပင့်၍ ဆွမ်းလုပ်ကျွေးတော်မူသည်၊ တရားတော်ကို လည်းနာတော်မူသည်။

ထိုအခါမင်းတရားကြီး ဤသို့အမိန့်တော်ရှိသည်။

၁။ လေးထပ်ကျောင်းဆရာတော်သည် သံသရာ ဆရာတော်ဖြစ် သည်။

၂။ စံကျောင်းဆရာတော်သည် ပစ္စုပ္ပန်ဆရာတော်ဖြစ်သည်—

ဟု အမိန့်တော်ရှိကြောင်းကို ရာဇဝင်မှာဆိုသည်။

၁။ လေးထပ်ဆရာတော် ရဟန်းပီလှပေသည်။

၂။ စံကျောင်းဆရာတော်လည်းစစ်သူကြီးဘို့ကောင်းလှပေသည်— ဟုအမိန့်တော်ရှိကြောင်းကို ဆရာစဉ်စာများတွင် ဆိုသည်။

[နောင်တော်ဘုရားသားတော်သခင်ပုကို ညီတော် မင်းရဲကျော်စွာ သမီးတော် ခင်မလှစံဖြိုးနှင့် စုံဘက်တော်မူသည်တွင်လည်း လေးထပ် ကျောင်းဆရာတော်ကို သံဃာတော်နှင့်တကွပင့်၍ ပရိတ်နာတော်မူသည်။ စံကျောင်းဆရာတော် မပါချေ၊ ''သာလကာ တလင်ပန်း ပင်ပန်းကာ တယောက်မ''ဟူသော ရှေးသူဟောင်းတို့ ဆိုရိုးအတိုင်းဓမ္မဝတ်ချွတ်သော အားဖြင့် ဖြစ်လေသည်။]

ပရိတ်ရွတ်ပြီးဆုံးလျှင် မင်းကိုချည်ကိုခွေ၍ထားသည်ကို အထက်က ကွမ်းကပ်တော်မူသောအခါ ဒုကုဋ်နှင့်ခံစမှတ်ပြုသောသံဃာတော်က မင်းကိုချည်ကို လည်မှာစွပ်ပါတော့ဆိုသည်ကို မင်းတရားကြီးကြား တော်မူလျှင် သည်သံဃာတော်သည် စကားကျစ်လစ်သည်၊ အပြုအမူ ပြေပြစ်သည်၊ ငါလေးထပ်ကျောင်းမှာနေသည်ကာလ ကွမ်းကပ်သည် ကိုလည်း ဒုကုဋ်နှင့်ခံသည်၊ ဘယောင်းတောင်းသည်ကိုလည်း အခြား သံဃာတို့တိမ်း၍နေသည်၊ သည်သံဃာတဦးသာ ထောက်ခံပြောဟော သည်-ဟု သဒ္ဒါကြည်ညိုတော်မူ၍ လေးထပ်ကျောင်းတော် အနောက် တွင် အမတ်တဦးကဆောက်သောရွှေကျောင်းကို တင်လှူတော်မူသည်။

[စံကျောင်းဆရာတော်မှာ အသက်ရှည်မည်အကြောင်းကို ကြံဆောင် ပါဆို၍ မင်းကိုအသက်ရှည်အောင်သာဆည်းဆို့ကာရံသည်၊ တဘက်သား သေကြေအောင်မပြု၊အာဏာတ္တိပယောဂ မပါသည်ဖြစ်၍ အာပတ်လွတ်၏၊ ဒုဋ္ဌဂါမဏိမင်းဘေးကလွတ်စိမ့်သောငှါ သဒ္ဒါတိဿမင်းကို ရဟန္တာတို့ ကာယ်ဆယ်သော မဟာဝင်ထုံးစံအတိုင်းဖြစ်သည်။]

လေးထပ်ကြီးဆရာတော်သည် တူးရွှင်းခြေအနွယ်ပုဂံရွှေသာသနာ နောက်သာသနာ အဝင်အပါဖြစ်သည်၊ အခြားတပါးအမှတ်မဲ့ဂိုဏ်း သံဃာတို့၏ ပစ္စည်းလေးပါးကိုမသုံးဆောင်၊ ရေကိုမျှ မသောက်ရ အောင်သွားလေရာရာ ကရား,သားရေနွယ်လွယ်၍သွားကြစမြဲတည်း။

## ကျောင်းတိုက်ကြီး ၄-တိုက်

သရေခေတ္တရာရသေ့ပြည်တွင်းဝယ် ဒွတ္တပေါင်မင်းကြီး ကောင်းမှု တော်ဘုရားခြောက်ဆူတွင် သရမာစေတီပုံကိုယူ၍ တည်တော်မူသော ရာဇမဏိစူဠ စေတီဝန်းကျင်လေးမျက်နှာ ပြုပ္ပါဝန်,ဒက္ခိဏာဝန်, ပစ္ဆိ မာဝန်,ဥတ္တရာဝန် ကျောင်းကြီးလေးကျောင်းတွင် ဥတ္တရာဝန်ကျောင်း ကိုလောင်မီးကျ၍ ကျန်၃-ကျောင်းကို ပါဠိအဋ္ဌကထာဋီကာကျမ်းဂန် တတ်လှစွာသောဆရာတော်တို့အား တင်လှူတော်မူသည်၊ ဂုဏ်သတ္တိ နှင့်ထိုက်လျော်အောင် တံဆိပ်နာမံလည်းပေးတော်မူသည်၊ ဥတ္တရာ ဝန်ကျောင်းကို အသစ်ဆောက်လုပ်၍ ငါးထပ်ဒါယကာ မင်းတရား လက်ထက်မှတင်လှူသည်။

သိမ်သမုတ်တော်မူမည်ကြံတော်မူ၍ ဆရာတော်အပေါင်းနှင့် တိုင် ပင်တော်မူသည်တွင်ကောင်းမှုတော်ကိုလည်းထီးမတင်ရသေး၊ကျောင်း

တော်များကိုလည်း မလှူရသေး-ဟူ၍ ဆိုင်းလင့်တော်မူသည်နှင့် နတ်ရွာစံ၍ သိမ်မသမုတ်မိလေ၊ ကျောင်းကြီးလေးကျောင်းဆရာတော်လေးပါး အနက် ဒက္ခိဏာဝန်ဆရာတော် သုတ်တိုင်းအစွေသမ္မန်ခြောက်ပါးလှည့်၍ သဒ္ဒါရှစ်ဆောင် နိဿယကိုစီရင်သည်၊ ပစ္ဆိမာဝန်ဆရာတော်ဉာဏ်ပါဌ်ကို သမ္ဗန်ခြောက်ပါးဖွင့်၍ ဝိဂြိုဟ်ဝစနတ္ထအရကောက်နှင့်တကွဉာဏ်ကျမ်းရိုးကိုစီရင်သည်။

အမြင့်မြို့စားရှင်တရုပ်အကြောင်းပြီး၏။

---

## ၅၁—သားတော်မင်းရဲရန္တမိတ်မင်းလက်ထက် တရုပ်စစ်ရောက်ခြင်းအကြောင်း

သက္ကရာဇ် ၁၀၁၀-ခုနှစ်တွင် သားတော်မင်းရဲရန္တမိတ် မင်းဖြစ်တော်မူ၍၊ ''သိရီနန္ဒဓမ္မရာဇာပဝရာဓိပတိ'' တံဆိပ်နာမံခံတော်မူသည်၊ ခမည်းတော်စံနေသော ရာဇမဏိစူဠာသဘင်နန်းတော်ကို ကောင်းမွန်စွာကျောင်းဆောက်လုပ်၍ တိလောကာလင်္ကာရဆရာတော်အား တင်လှူတော်မူသည်၊ ယခင်အထက်ကပြခဲ့သော အလင်္ကာရပုဂ္ဂိုလ်ကျော် ၃-ပါးအဝင်တည်း၊ စစ်ကိုင်းလေးထပ်ဘုံသာတုလွတ် ကျောင်းတော်ကိုလည်း ဒါဌာနာဂရာဇဂုရုဆရာတော်အားတင်လှူတော်မူသည်၊ ထိုဆရာတော်သည် ဉာဏ်ရှစ်ဆောင်အဖွင့် ''နိရုတ္တိသာရမဥ္ဇူသာကျမ်း'' ကိုစီရင်၏၊ သက္ကရာဇ် ၁၀၁၂-ခုနှစ် တပေါင်းလတွင် စစ်ကိုင်းသော တာပန်နတ် ၉၉—ပါးပြောင်းသွားတော့မည်— အိပ်မက်ပေးသည် ဟူ၍ ပြည်သူပြည်သားတို့ ပူဇော်ကြသည်-ဟု ရာဇဝင်ရှိသည်၊ နတ်တို့ပြောင်းသွားခြင်းမဟုတ်၊ နိမိတ်စကားသာဖြစ်သည်၊ ထိုကာလတရုပ်စစ်ရောက်၍ သာသနာရေးမငြိမ်မဝပ်ရှိချေသည်။

တရုပ်စစ်ရောက်ခြင်းအကြောင်းပြီး၏။

---

## ၅၂-ညီတော်ပြည်မင်းလက်ထက်နန်းကျောင်း ဆရာတော် ၂-ပါးအကြောင်း

သက္ကရာဇ် ၁၀၂၃-ခုနှစ်တွင် ညီတော်ပြည်မင်း မင်းပြုတော်မူ၍၊ ''မဟာပဝရဓမ္မရာဇလောကာဓိပတိ'' တံဆိပ်နာမံခံတော်မူသည်၊ ထို

အခါဇာတာတော် မသန့်သည်ဟူ၍ ယခုမြောက်နန်း ကျောင်းရာတွင် သက်ငယ် နန်းဆောက်လုပ်ပြီးလျှင် ဘုံသာ၀တီသမုတ်၍ ယာယီစံ တော်မူသည်၊ မြောက်နန်းဆောင်ကို ယာယီနန်းရာတွင် မြောက်နန်း ကျောင်းဆောက်သည်၊ တောင်နန်းဆောင်ကိုလည်း မြို့အရှေ့ယွန်းတွင် တောင်နန်းကျောင်းဆောက်သည်၊ ပြီးလျှင်စစ်ကိုင်းအိမ်ရှေ့ကျောင်း အဂ္ဂမဟာလက်ာရ ဆရာတော်အား မြောက်နန်းကျောင်းကို တင်လှူ တော်မူသည်၊ ထိုဆရာသည်သဒ္ဒါနိဿယ, အဘိဓမ္မတ္ထသင်္ဂြိုဟ်နိဿယ, အဘိဓမ္မတ္ထသင်္ဂြိုဟ်ကျမ်းရိုး,မာတိကာ,ဓာတုကထာ, ယမိုက်,ပဋ္ဌာန်း အရကောက်များကိုစီရင်သည်။

မြောက်နန်းကျောင်းဆရာတော်တပည့် ကျောင်းရံနေရှင်ဇိနာရာ-မအား အိမ်ရှေ့မင်းက တံတားဦးလယ်ပြင်တွင် ဆောက်သောလယ် ပြင်ရွှေကျောင်းကို တင်လှူတော်မူသည်၊ မြောက်နန်းကျောင်းဆရာ တော်တပည့် ချင်းတွင်းရွာနေ ရှင်ဂုဏာဂန္ဓအားလည်း တံတားဦးတွင် မှန်စီကျောင်းဆောက်၍ တင်လှူတော်မူသည်၊ ပဋ္ဌမ မှန်စီဆရာတော် ဟူ၍ ကျော်စောထင်ရှားစွာ၏၊ အဝပြည်ထဲက စာပေသင်ကြားပြီးမှ ဗဒုံမြို့ကျေးဆီးပင်တွင် ချင်းတွင်းဇာတိရပ်ရွာမှာ နေထိုင်လာသည်၊ ပစ္စည်းပစ္စယလှူဒါန်းပေးကမ်းမည့်သူနည်းပါး၍ ဆင်းရဲငြိုငြင်သည်၊ထို အခါချင်းတွင်းရွာတွင် မောက်ဆိုသူမှာ အမြက်ကျောက်ကောင်းရှိ သည်ကို မင်းကသိမ်းယူ၍ ချင်းတွင်းမောက်ကျောက်-ဟု ကျော်စော ထင်ရှားသည်၊ လိုအခိုက် မြောက်နန်းဆရာတော်က ချင်းတွင်းရွာမှာ အမြက်ကျောက်သာမဟုတ် ပိဋကတ်အိုးတလုံးလည်း အသုံးအဆောင် မရရှိလေသည်-ဟုမင်းနားကြားအောင်ပြောဆိုရာတွင် ရှင်ဂုဏာဂန္ဓကို ပင့်၍ ကိုးကွယ်တော်မူသည်-ဟု အထင်အရှားစကားစဉ်ရှိသည်။

မောင်းထောင်ရှင်ဂုဏာသာရ,ပလိုင်းရှင်သုဇာတတို့လည်း ရှင်ဂုဏာ-ဂန္ဓအနွယ် စာသင်တပည့်ဖြစ်သည်၊ တရံရောအခါ ရဟန်းသံဃာပရိ သတ်ဘောင်တွင် အဂ္ဂမဟာလက်ာရတို့လည်း ငါတို့မရှိလျှင် ကျမ်းဂန် တတ်ပြုချေတော့မည်-ဟု တောင်ဘီလာ ဆရာတော်က မြောက်နန်း ကျောင်းဆရာတော်ကို အပျော်အပါးမိန့်တော်မူသည်ကို အရှင်ဘုရား တို့မရှိလျှင် ကျွန်ုပ်တို့ပင် ကျမ်းတတ်ပြုရမည်-ဟု စကားစဉ်ရှိသည်၊ ယခု

ကား ကျွန်ုပ်တို့ကျမ်းတတ်မဟုတ်ပါသလော လျှောက်သည်ဟူ၍လည်း ပြောဆိုကြသည်၊ ပြည်မင်းတရားတောင်းပန်၍ ရာဇဝင်ချုပ်လည်းပြု သည်၊ယခုထက်တိုင် မြောက်နန်းကျောင်းရာဇဝင်-ဟု ခေါ်ကြသည်။

မြောက်နန်းကျောင်းဆရာတော်သည် ပြည်မင်းအမတ်နေမျိုးနော် ရထာသား အမတ်မျိုးဖြစ်သည်၊ တရုတ်ရောအခါ ရဟန်းလူထွက်ဖြစ် သော သတိုးမင်းကြီးသည် မှူးမတ်အဆောင်အရွက် အခင်းအကျင်း နှင့် ကျောင်းတော်သို့လာ၍ ဆရာတော်နှင့် စကားစမည် ပြောဟော ကြရာသည်တွင် အဆောင်အရွက် အခင်းအကျင်းကိုပြ၍ အရှင်ဘုရား လူဖြစ်လျှင် ဤမျှလောက်မှူးမတ်စည်းစိမ်ကို ရလိမ့်မည်-ဟု ဆိုသည်ကို ဤမျှလောက်သော စည်းစိမ်သည် ငါတို့အိမ်သာ တခါတက်ကိုမျှမတန် လေ၊ အိမ်သာတကြိမ်တက်လျှင်ပင် အသုဘကမ္မဋ္ဌာန်း များစွာပွား သည် မဟုတ်တုံလော-ဟု ဆရာတော်ကချေဆိုသည်ဟူ၍လည်း အစဉ် စကားရှိသည်။

[ဤသို့ဆိုသောစကားများသည်၊ ဆရာစဉ်စကားမုချမဟုတ်ပေ၊ဥပစာ အားဖြင့်သွင်း၍ ရှေးဆရာတို့အမူအကျင့် အနေအထိုင်ကိုမှတ်ဘွယ်ရှိသဖြင့် သာ ဆိုလိုက်သည်။]

နန်းကျောင်းဆရာတော် ၂—ပါး အကြောင်းပြီး၏။

---

## ၅၃-သားတော်နရာဝရမင်းလက်ထက်လူထွက်မည်ပြုသော ပဍ္ဍင်းပျို့တဦးအကြောင်း

သက္ကရာဇ် ၁၀၃၄-ခုနှစ်တွင်သားတော်အိမ်ရှေ့မင်းနရာဝရ ရွှေနန်း တက်၍ ဥကင်သဖွင့်တော်မူ၏၊"မဟာသီဟသူရဓမ္မရာဇာ" တံဆိပ်နာ မံခံတော်မူသည်၊ ထိုမင်းလက်ထက် ရွှေစည်းခုံ မြောက်စောင်းတန်း အနီးတွင် ဇေတဝန်ခြေတိုင်ကျောင်းဟု ခေါ်ဝေါ်သောကျောင်းဝယ် စာပေသင်သော ပဍ္ဍင်းပျို့တဦးသည် ကျမ်းဂန်တတ်လျက် အရွယ်ပျို သည်နှင့် ပျိုစိတ်သို့လိုက်၍ လူဝတ်လဲမည်ကြံသဖြင့် ဝတ်စားတန်ဆာ ယူလျက် အဘော်ရဟန်းများနှင့် ယင်းရဲဆိပ်သို့လာကြသော် ရဟန်း အဖြစ်နှင့် ဘုရားကိုရှိခိုးဦးမည်ဟု လိုဏ်တွင်းသို့ဝင်၍ ရှိခိုးပူဇော်သည်၊ ထိုအခိုက်တွင် တကာမတယောက်သည် လိုဏ်ပြင်က ရေချမ်းသွန်း၍

ဤကောင်းမှုဖြင့် ဆင်းရဲနှင့်ငရဲပါကင်းလို၍၊ ဖြစ်လေတိုင်းသောဘဝ၌လည်းလူထွက်မယားမဖြစ်ပါလိုဟု ဆုတောင်း၏။

ထိုသို့ဆုတောင်းသံကို ထိုပဥ္ဇင်းပျို ကြားလေလျှင် အံ့ဘွယ်သရဲငါလည်းလူထွက်မည်လာသည်၊တကာမလည်းပြင်ကဆုတောင်းသည်၊ မေးရစေဦးကြံ၍ လိုဏ်ပြင်ထွက်ပြီးမှလူထွက်မယားမဖြစ်ပါလို-ဘယ့်ကြောင့်ဆုတောင်းသနည်းဟုမေးလျှင် တကာမက ဤသို့ဆို၏၊ လူထွက်မယားမဖြစ်ပါလို ဆုတောင်းသည်ကား လူမိုက်မယား မဖြစ်လို-ဟုဆိုလိုသည်ဆိုသော် လူထွက်လျှင်ပင် မိုက်လေတော့သလောမေးပြန်၍ လူထွက်သောရဟန်းသည် ဘယ့်ကြောင့် မမိုက်ဘဲ ရှိတော့မည်နည်း၊ ရဟန်းမည်သည်ကား သူလှူသော အဝတ်အစား, သူလှူသော အရိပ်သခ်မ်းကို သုံးဆောင်စားသောက်၍ ချမ်းသာစွာ နေထိုင်ရပေသည်၊ စာပေကျမ်းဂန် သင်ကြားလိုသော်လည်း သင်ရ၏၊မသင်လိုလျှင်လည်း သက်န်းကြီးကိုခြေကန်ကာသာ အိပ်လိုသမျှ အိပ်နေရသည်၊ ထိုသို့စည်လျက် သူ့ကျွန်ခံဦးမည်၊ မယားကျွန်ပြု၍ လုပ်ကျွေးဦးမည်၊ လူထွက်သောရဟန်းထက်မိုက်သောလူမရှိပြီ၊ လူမိုက်မယားဖြစ်ချေက ကျွန်ုပ်မဆင်းရဲပြီလောဟု တကာမဆိုသည်ကိုကြားလျှင် ထိုပဥ္ဇင်းပျိုသည် သတိသံဝေဂ[1]ရသဖြင့် ယင်းရဲတံခါးပြင်သို့ထွက်၍ ကြံမှိုင်ကာရပ်လျက်နေ၏။

ထိုအခိုက်တွင် ဝတ်စားတန်ဆာ ဆောင်ယူခဲ့သော အဘော်တို့ကခေါ်သည်ကို လာခဲ့ကြပါဦးဟု ခေါ်၍လာကြလျှင် ယခင်အကြောင်းမျိုးကိုပြန်ပြော၍ ယခုမှကို ငါလူဝတ်မလဲပြီဟု စစ်ကိုင်းသို့ကူးလေသည်။

ဆုတောင်းသောတကာမသည်လူမဟုတ်၊ နတ်စောင်မသည်
ဖြစ်မည်ဟု ပညာရှိတို့ဆိုစမှတ်ပြုကြသည်။

စစ်ကိုင်းသို့ရောက်လျှင် ကျမ်းဂန်တတ်သော ဆရာတို့ထံ နည်းနာခံပြီးမှ ပုညစေတီတောင် ယခုရှိသည့် တိလောကဂုရု ကျောင်းရာတွင် ကျောင်းငယ်နှင့်နေ၏၊ရဟန်းသံဃာများကိုသင်ကြားပို့သပေ၏၊စာသင်စာနာများ၍ ကျောင်းမနေလောက်သောကြောင့် တဲဆောက်ကာ

---

[1] သတိသံဝေဂ—ထိတ်လန့်ခြင်း သတိ။

မိုးကာနေကြရလေ၏၊တရံရောအခါ အဝမင်းပုညစေတီသို့ထွက်တော်မူသည်တွင် တဲဆောက်ကာနေကြသည်ကိုမြင်၍ ဥမင်¹နှင့်တကွကျောင်းဆောက်၍ ထိုပဥ္စင်းပျိုအား တင်လျှူတော်မူသည်၊ "တိလောကဂရု" တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်၊ တိလောကဂရု ဆရာတော်တပည့် ခုနစ်ဝါရ ရှင်တေဇောဒီပသည် ပရိတ်ကြီးဋီကာကိုစီရင်သည်၊ နောက် "တိလောကလင်္ကာရ" တံဆိပ်ခံ၍ အလင်္ကာပုဂ္ဂိုလ်ကျော် သုံးပါးအဝင်ဖြစ်သည်။

[စကားပြေပြစ်၍ ခေါ်ဝေါ်လွယ်စေခြင်းငှာ က,အက္ခရာကိုချေ၍ တိလောဂရုဟု တွင်လေသည်၊နရာဝရလက်ထက်ဖြစ်သည်၊ အနောက်ဘက်လွန်မင်းလက်ထက်ဟူ၍လည်း ဆရာစဉ်စာတမ်းအချို့တွင်ဆိုသည်။]

စစ်ကိုင်း ရှင်ဖြူ,ရှင်လှမြောက်တွင် အရှေ့ပရက္ကမ, အနောက်ပရက္ကမ ဆရာတို့သည် ပင်းယ ကောင်းစဉ်ကပင် စကား ကျောင်းမှထွက်ပြီးလျှင် တောင်ဘီလူးအရပ်သို့ ပြောင်း၍ နေထိုင်ကုန်သည်၊ ထိုကာလအဝမတည်သေး၊ကျန်စစ်သားကောင်းမှု ထီးလှိုင်ရှင်ဘုရားသာရှိသည်၊ ထိုဘုရားအနီးတွင် ရွာလည်းရှိ၏၊ ထိုရွာကိုဆွမ်းခံ အမှီပြု၍ ပရက္ကမတိုက်သံဃာတို့နေကြလေ၏၊ ပဉ္စမ မင်းခေါင်ကြီးဆရာ ပင်းယရာကြည့်ဆရာတော်တို့လည်း တောင်ဘီလူး ပရက္ကမ အနွယ်ကဖြစ်သည်၊ ထိုကြောင့်ငါပရက္ကမမှာ စာသင်စဉ်ငါ့ဦးထုပ်လေလာ၍ကျသည်ကိုငါနင်းမိ၍ ငါမဂ္ဂုတ် မင်းဆရာဖြစ်မည်၊ နိမိတ် ဘတ်လေသည်-ဟု မင်းခေါင်ကြီး လက်ထက် စကားရပ်ကဆိုခဲ့လေသည်။

အဝတည်ရာတွင်မှ တောင်ဘီလူးမှာ ငါတို့နေ၍ မသင့်ပြီ-ဟု စစ်ကိုင်းသို့ကူးပြီးလျှင် အုံတော်မူဘုရားအနောက် ချောက်မှာနေကြလေ၏၊ အရှေ့,အနောက် နှစ်တိုက်တည်၍ နေသောကြောင့် အရှေ့ပရက္ကမ, အနောက်ပရက္ကမ-ဟု တွင်လေသည်၊ ထိုကျောင်းတိုက် သံဃာတို့ကို ကျောင်းကအရှေ့,မြစ်အနောက်ဘက် လက်ပံရွာတွင် မင်းခေါင်ကြီးက ဆွမ်းဝတ်တည်သည်၊ ဆွမ်းတော်ဝတ်ချက်တို့ နေကြသည်ကိုစွဲမှတ်၍ ရှေးကလက်ပံရွာသည် နောက်မှ ယခုထက်တိုင် ဝတ်ချက်ရွာ တွင်လေ

---

၁။ ဥမင်—လိုဏ်ဂူ။

သည်-ဟု အစဉ်စကားရှိသည်၊ထိုဆရာတို့သည် ပုဂံရှင်အရဟံအနွယ် ရှေ့သံဃာ, ရှင်ဆပ္ပဒတို့အနွယ် နောက်သံဃာ အဝင်အပါ တောနေ ရဟန်းကောင်း ရဟန်းမြတ် ဖြစ်ကြသည်။

လူထွက်မည်ပြုသော ပဥ္စင်းပျိုတဦးအကြောင်းပြီး၏။

---

## ၅၄-ပုခန်းကြီးမြို့တွင် ရွှေဥမင်ဆရာတို့ အဆက်အနွယ်အကြောင်း

ပုခန်းကြီးမြို့တွင် ရွှေဥမင်ဆရာတို့အဆက်အနွယ်ကား-အဝ မတည်မိ ပင်းယကောင်းစားစဉ်ကပင် မင်းရဲသင်္ခယာသည် ပုခန်းကြီးကိုပြုစု၍ စေတီဂူကျောင်းတည်သည်၊အဝတည်မှလည်း သတိုးမင်းဖျားဘိုးတော်၊ အသင်္ခယာသည် မင်းငါးဆက်တိုင်အောင် ပုခန်းကြီးကို ပြုစုသည်၊ ရွှေကျောင်းဥမင်တည်ပြီးလျှင် ပုဂံစွယ်ရှင်တွင်သော သီလဗုဒ္ဓိပံသုကူကြီး၏ အဆက်အနွယ် ရှင်ဇောတိပုညကိုပင့်၍ ရွှေဥမင်ကျောင်းတိုက်ကို တင်လှူသည်-ဟူ၍ ဆရာစဉ်စာတမ်းတွင်ဆိုသည်၊ ထိုရှင်ဇောတိပုည တပည့် ရှင်ဓမ္မနန္ဒ၊ ၎င်းတပည့် ရှင်ဇမ္ဗုဓဇသည် ပါဠိ, အဋ္ဌကထာ, ဋီကာကျမ်းဂန်ကျနသည်၊ အနက်မြန်မာနိုင်နင်းသည်၊ ဝိနည်းငါးကျမ်း ပါဠိတော်,အဋ္ဌကထာနိဿယကို စီရင်၏၊ ယခုထက်တိုင် မှီခိုရာဖြစ်ပေသည်၊ ရှင်ဇမ္ဗုဓဇကိုယ်တိုင်တော် ရေးသားသောဝိနည်း ပါဠိတော်, အဋ္ဌကထာနိဿယလည်း ဆရာစဉ်ဆက်လက် စွဲလက်မကွာ ကိုးကွယ်ပူဇော်၍လာသည်၊ ယခုထက်တိုင်ပင်ကျောင်းတော်တွင်ရှိသည်-ဟူ၏။

တရံရောအခါ တောင်ဘီလာဆရာတော်သည် မန်းစက်တော်ရာကို အဖူးအမျှော်ကြွတော်မူ၍ အပြန်တွင် ပုခန်းကြီးရွှေဥမင်ရှင်ဇမ္ဗုဓဇထံ ဝင်၍ ဆွေးနွေးပြောဟောတော်မူကြသည်၊ လဇ္ဇီပေသလသိက္ခာကာမ သူတော်ကောင်းချင်း ဘက်လဲတကင်း မြတ်နိုးစုံမက်စွာရှိကြ၏၊ရှင်ဇမ္ဗုဓဇနှင့် တောင်ဘီလာဆရာတော် သိက္ခာဝါအတူအမျှရှိသည်၊ကျောင်းကဆင်း၍ အပြန်ကိုလိုက်၍ပို့သည်တွင် အကျွန်ုပ် မင်းဆရာဖြစ်သည်၊ ငါ့ရှင်ရှေ့ကကြွပါ-ဟု ရှင်ဇမ္ဗုဓဇကို တောင်ဘီလာ ဆရာတော်ကဆိုသည်၊ ငါ့ရှင် မင်းဆရာဖြစ်ပေသည်၊ ငါ့ရှင်ရှေ့ကကြွပါ-ဟု ရှင်ဇမ္ဗုဓဇက တောင်ဘီလာဆရာတော်ကို ဆိုပြန်သည်။

ပုဂ္ဂိုလ်မြတ် နှစ်ပါးတို့၏ အာဘော်စကားအရကား—ကိုယ်တော် ရှေ့ကကြွသော် မင်းဆရာဖြစ်၍ ကြွလေသည်-ဟု သူတပါးတို့ ထင်မှတ်လေတော့မည်၊ ထိုသို့မထင်ရအောင် မင်းဆရာမဟုတ်သသူ ရှေ့ကကြွပါဆိုလိုသည်၊ [ဤကား-တောင်ဘီလာဆရာတော် အာဘော်။] မင်းဆရာကိုပင်မခန့်မညားရှေ့ကသွားလေသည်၊သူတပါးတို့ထင်မှတ်လေတော့မည်၊ ထိုသို့မထင်ရအောင် မင်းဆရာဖြစ်သသူ ရှေ့ကကြွပါဆိုလိုသည်၊ [ဤကား-ရှင်ဇမ္ဗုဓဇ အာဘော်။]

[တောင်ဘီလာဆရာတော်ကား-ဓမ္မဝတ်ကိုလိုက်သည်၊ ရှင်ဇမ္ဗုဓဇကားလောကဝတ်ကိုလိုက်သည်၊ သည်မှတပါးစကားနှစ်ရပ်၏ အာဘော်အရကိုသင့်အောင်ကြံစည်လေဦး။]

တောင်ဘီလာဆရာတော်လည်းစစ်ကိုင်းအဝသို့ရောက်လျှင်တောင်ဘီလာဆိးတောမင်းဝံတောင်ရိုးကြီး အရှေ့ချောက်ကြားတွင် အရည ကင်တောဝင်တော်မူသည်၊ ထိုအကြောင်းကိုညီနောင် မင်းနှစ်ပါးကြား၍ အလျှင်လက်ဦးတွေ့လျှင် ကျောင်းဆောက်မည်ဟု သူရဦး, ငါရဦး ဆရာတော်ကို ရှာကြသည်၊ ညီတော်မင်းရဲကျော်စွာက လက်ဦးတွေ့သောကြောင့် လေးကျွန်းဆီမီးဘုရားမြောက် တောင်ဘီလာ ချောက်တွင် ဇေတဝန်ရွှေကျောင်းဆောက်၍ တင်လှူရလေသည်။

[သူတော်ကောင်းတို့အကြောင်းအရာ ဂုဏ်ကျေးဇူးကိုတကြိမ်ကြား၍ တခါပင်ပီတိသောမနဿဖြစ်သော်လည်း နတ်မင်းအဖြစ်ခုနစ်ကြိမ်,လူမင်းအဖြစ် ခုနစ်ကြိမ်တိုင်အောင် အကျိုးခံစားရကြောင်းကို အရုဏဝတီသုတ်၌ ဟောတော်မူသည်နှင့်အညီ၊ ပီတိသောမနဿ ဖြစ်စေလို၍ ဤစကားများကိုဆိုလိုက်ပါသည်။]

တောင်ဘီလာဆရာတော်လည်း ရှင်ဇမ္ဗုဓဇ အကြောင်းအရာကို သာလွန်မင်းတရားကြီးမှာ စကားစပ်ပြောဆို၍ မင်းတရားကြည်ညိုတော်မူသဖြင့် ဇမ္ဗုဓဇအမည်တော်ရင်းတွင်''ဇမ္ဗုဒီပဓဇ''ဟု အက္ခရာနှစ်လုံးတိုး၍ တံဆိပ်နာမံကိုအပ်တော်မူသည်၊ ထိုမှတပါး တောတွင်းကျေးရွာများတွင် နေရင်းမဏိရတနာဘုန်းကြီးလည်း အဋ္ဌသာလိနီ, သမ္မောဟဝိနောဒနီ, ကင်္ခါဝိတရဏီအစရှိသော အဋ္ဌကထာ၊ ဋီကာကျော်, သင်္ခေပဝဏ္ဏနာစသော ဋီကာများကို အထူးထူးအပြားပြား

နိဿယစီရင်သည်၊ ထိုဆရာသည်အနက်မြန်မာသန်လှသည်၊ပုရပိုက်မှာ မတင်ဘဲ ပေတွင်သာ ကညစ်နှင့်ရေး၍ ကျမ်းဂန်ပြုစုသည်။

နေရင်းရွာတွင်ပင်ပုဗ္ဗာရုံဘုန်းကြီးလည်း မဏိဒီပကအကြွင်း ဒွါရကထာငိုကာကိုဖွင့်၍ ဂူဠတ္ထဒီပနီ-ဟု စီရင်သည်၊ ဝိသုဒ္ဓိမဂ် ဂဏ္ဌိ, နေတ္တိပါဠိတော်နိဿယများကိုလည်း စီရင်သည်၊ပဋ္ဌာန်း ဖြစ်အောင်ပင် ဂါမဝါသီတို့ဂိုဏ်းတွင် နေမိသည်၊ နောက်တရားကျမ်းဂန်ကို ဆင်ခြင်မိသည်တွင်မှ ဦးထုပ်တရဘတ်ကိုစွန့်၍ တောနေဂိုဏ်းသို့ ဝင်သည်၊ ထိုဘုန်းကြီးလည်း ဉာဏ်ပညာကြီးကျယ်နက်နဲလှသည်၊ ခပ်သိမ်းသော ဝိဂြိုဟ်ဝစနတ္ထအရာ၌ ပကတိ,ဝိကတိနည်းနှစ်ချက်စီအရကောက်လျက် အပြောအဆိုကွယ်ပျောက်လေသည့် အရာလည်း ထိုဘုန်းကြီးတွင် အပြောအဟောပေါ်ပြန်လေသည်။

ရွှေဥမင်ဆရာတို့အဆက်အနွယ်အကြောင်းပြီး၏။

---

## ၅၅-ညီတော်ရမည်းသင်းမင်းကြီးမင်းရဲကျော်ထင် လက်ထက်မြောက်နန်းကျောင်းဆရာ တော်တို့အကြောင်း

သက္ကရာဇ် ၁၀၃၅-ခုနှစ်တွင် ညီတော်ရမည်းသင်းမင်းကြီး မင်းရဲကျော်ထင် မင်းဖြစ်တော်မူ၍၊ ''သိရိပဝရမဟာဓမ္မရာဇာ''တံဆိပ်နာမံ ခံတော်မူသည်၊ ဝမ်းဘဲအင်းမှာစံနေတော်မူ၍ ဝမ်းဘဲအင်းစံမင်းတရားဟုတွင်သည်၊ ဝမ်းဘဲအင်းမှာဆောင်လုပ်သော အောင်မြေဘုံကျော်ကျောင်းတော်ကို သိရိသဒ္ဓမ္မပါလ ဆရာတော်အား တင်လှူတော်မူသည်၊ မဟာမုနိလေးထပ်ကြီးတောင် လေးထပ်ကျောင်း,မြောက်နန်းကျောင်းဆရာတို့မှစ၍ ဂါမဝါသီ, အရညဝါသီဆရာ သံဃာများကိုလည်း ကိုးကွယ်ချီးမြှင့်တော်မူသည်၊ညောင်ရမ်းဆယ်ဆက်တွင် နောက်ငါးဆက်မင်းတို့သည် အုတ်အရောရော, ကျောက်အရောရော-ဟူသကဲ့သို့ မရွေးမချယ်ကိုးကွယ်ကုန်သည်၊ ထိုသို့ကိုးကွယ်သော်လည်းဆရာစဉ်ဆက်အခြေအမြစ်သက်ဆင်းတိုင်းကျင့်ဆောင်ကုန်သည်ဖြစ်၍ လဇ္ဇီပေသလ သိက္ခာကာမ ဓမ္မဝါဒီဆရာစဉ်ဆက်မပျက်နိုင်သော အကြောင်းကိုယခင်လက်ဦးကပြခဲ့သောနည်း ၃-ပါးဖြင့်ဆင်ခြင်လေကုန်။

ထိုမင်းလက်ထက် ယခင်ရှေးကဆိုခဲ့ပြီးသော ရေနံ့နတ်စက်ရောင်ဘုန်းကြီးကို လောကဓမ္မရာဇအကြောင်းများ၌ လျှောက်ထားတိုင်ပင်တော်မူသည်၊ ထိုသို့လျှောက်ထားတိုင်ပင်တော်မူကြောင်းကားအထက်ရေနံကမြို့တော်သို့လာ၍ ကူတော်သစ် ပဋ္ဌာန်းစရပ်တွင် ရေနံ့ဆရာတဲနေစဉ် ဇာတာကိုကြည့်ရှုစေသော် သက္ကရာဇ် ၁၀၃၄-ခုနှစ် မင်းဖြစ်မည်မချွတ်ပြီဟု ဗေဒင်ဟောဘူးသည်၊ ဟောတိုင်းလည်းမှန်သည်၊ ဤအကြောင်းကိုထောက်၍ ယုံကြည်လှသောကြောင့် လျှောက်ထားတိုင်ပင်တော်မူသည်-ဟု လောကဗျေယျာတွင်ဆိုသည်။

မြောက်နန်းကျောင်းဆရာတို့အကြောင်းပြီး၏။

---

## ၅၆-ရေနံ့ဆရာတော်စီရင်ချက်ဖြင့်သဘင်ကြီးစွာ ဆင်ယင်၍ ပဋ္ဌာန်းတရားကိုဟောရခြင်းအကြောင်း

သက္ကရာဇ် ၁၀၃၇-ခုနှစ် ကဆုန်လပြည့်ကျော် ၇-ရက်နေ့က စ၍ရေနံ့ဆရာတော် စီရင်ချက်အတိုင်း ကူတော်သစ်ပဋ္ဌာန်းစရပ်တွင် မြန်မာဆရာတို့ရှေးဦးစွာ ပဋ္ဌာန်းတရားဟောရသည်၊နောက်နယုန်လဆန်း ၁-ရက်နေ့မှမွန်ဆရာတို့ ပဋ္ဌာန်းတရားဟောရသည်၊ သဘင်ကြီးစွာခံသည်၊ပြည်သူပြည်သားတို့ပူဇော်သက္ကာပြုသည်၊ ထိုမင်းလက်ထက်ကစ၍ ပေကိုသားရိုးသစ္စေးကိုင်ပြီးမှ ဆေးဒန်းနှင့်အက္ခရာရေး၍ ရွှေချလုပ်သောရွှေစာရေးသည့်ထုံးစံဖြစ်သည်၊အထက်ကမှာကညစ်အက္ခရာ,မင်အက္ခရာရေးသောကညစ်စာ,မင်စာသာရှိသည်။

ပဋ္ဌာန်းတရားကိုဟောရခြင်းအကြောင်းပြီး၏။

---

## ၅၇-အတင်ဂိုဏ်း,အရုံဂိုဏ်းဟူ၍ကွဲပြားစအကြောင်း

သက္ကရာဇ် ၁၀၆၀-ပြည့်နှစ် တော်သလင်းလဆန်း ၉-ရက်အင်္ဂါနေ့ သားတော်အိမ်ရှေ့မင်း ထီးနန်းဥကင်[၁]ဖွင့်၍ မင်းဖြစ်တော်မူ၏၊ ''သိရိမဟာသီဟသူရ သုဓမ္မရာဇာ'' တံဆိပ်နာမံ ခံတော်မူသည်၊ခမည်း

---

၁။ ဥကင်-(ပါဠိပျက်) ဥက္ကံသ-(ပါဠိ) ထူးမြတ်လွန်ကဲသော ဂုဏ်ကျေးဇူးနှင့်ပြည့်စုံစေခြင်း(မြန်မာ)။

တော်ဘုရားအိမ်တော်ရာတွင် စေတီတည်၍ မာရ်အောင်ရတနာကမ္ဘည်း တပ်တော်မူသည်၊ ထိုမင်းလက်ထက်အနောက်ဘက် တုံရွာကျောင်း ရှင်ဂုဏာဘိလင်္ကာရသည် သာမဏေတို့ကို ရွာဝင်ရွာသွား တဘက် လက်ကန်တော့တင်စေ၍ ဦးထုပ်တရာဘတ်ကို မဆောင်းမကိုင်စေဘဲ ယပ်ကိုသာစွဲကိုင်စေလျက် တုံတောနေဂိုဏ်း-ဟု ဂိုဏ်းသီးထောင်လေ သည်၊ ထိုရှင်ဂုဏာဘိလင်္ကာရကား ပါဠိတော်, အဋ္ဌကထာ, ဋီကာ ကျမ်းဂန်အနက်အဓိပ္ပါယ်သဘောသကန်မကျန၊ စုဒ်,စောဒနာ, အာ ဘော်,ကျမ်းထွက်, ကျမ်းတက်,ကျမ်းရိုးမတတ်၊ ညဝါအကောက်အရ ကိုသာဆောင်ရွက်လေ့လာသည်။

ထိုရောအခါ တောင်ငူမြို့ရှင်ဗုဒ္ဓင်္ကုရ,ရှင်စိတ္တ, တပယင်းမြို့ကျေးရွာ ရှင်သုနန္ဒ, တရုပ်မြို့ငရံ့အိုး ရှင်ကလျာဏတို့က သာမဏေတို့ကိုရွာဝင် ရွာသွား တဘက်လက်ကန်တော့ မတင်စေဘဲ, ဦးထုပ်တရာဘတ်ကို မဆောင်းမကိုင်စေဘဲ ယပ်ကိုသာစွဲကိုင်စေလျက် အရုံတောနေဂိုဏ်း ဟုဂိုဏ်းသီးထောင်လေသည်၊ ထိုရှင်ဗုဒ္ဓင်္ကုရ, ရှင်စိတ္တ,ရှင်သုနန္ဒ, ရှင် ကလျာဏတို့ကား ပါဠိတော်အဋ္ဌကထာ, ဋီကာကျမ်းဂန် အနက် အဓိပ္ပါယ် သဘောသကန်ကျနသည်၊ စုဒ်,စောဒနာ, အာဘော်, ကျမ်းထွက်, ကျမ်းတက်ကျမ်းရိုးတတ်သည်၊ ညဝါ အကောက်အရကို ဆောင်ရွက်လေ့လာကာနှင့် သာမဏေဝိနည်း ကျမ်းဂန်ဆောင်ရွက် လေ့လာကုန်သည်။

ဤဟံသာဝတီရောက်မင်း ဘိုးတော်မာရ်အောင်ရတနာ ဒါယကာ လက်ထက်တွင် အရုံဂိုဏ်းတပါးသာ ဆရာစဉ်ဆက်ရှိမြဲကိုအတင်ဂိုဏ်း ဟုပေါ်လာပြန်၍အတင်ဂိုဏ်း,အရုံဂိုဏ်းနှစ်ပါးကွဲပြားစဖြစ်သတည်း၊ ထိုသို့ကွဲပြားသော်လည်း''အမှုသည်မရှိသော် စကားမဆိုမာ''ဟူသကဲ့ သို့ အမှုပြုမည့်သူ သာသနဒါယကာမင်းက သတိမမူ ဂုမမြင်နေ၍တဦး ကိုတဦးဆိုမည့်သူမရှိ၊ အမှုသည်မဲ့သာနေကြသည်။

၁။ အရုံဂိုဏ်းဆရာတို့က ကျမ်းဂန်အထင်အရှား ရှိသည်၊ ရှိတိုင်း လည်းကျင့်မြဲဖြစ်သည်ကိုနှလုံးမူ၍ နေမြဲသာနေကြသည်။

၂။ အတင်ဂိုဏ်းဆရာတို့က ကျမ်းဂန်အထင်အရှားမရှိ၊ အစဉ် ကျင့်မြဲမဟုတ်သည်ကိုဆို၍ သီဟိုဠ်ရောက် ရှင်သဒ္ဓမ္မစာရီတို့

အဆက်အနွယ်ဖြစ်ကြောင်းနှင့် အဆက်အနွယ်ကိုလည်း ခိုမှီးကြသည်၊ စူဠဂဏ္ဌိဟု ယခုရှိသောစာတွင် တင်သင့်သောစကားပါအောင် ဖျသီးဆယ်ရွာတိုက်လူထွက်ကြီးကို စကားထည့်သွင်းစေ၍ စူဠဂဏ္ဌိကျမ်းမှာပါသည်ဟုပြောပစေလျက် ကျမ်းဂန်ရှာဖွေကြလေသည်။

[ယဒူနကံ တံသဏာတာ-ဟူသည်နှင့်အညီ ရေပြည့်အိုး, ရေမပြည့်အိုးကဲ့သို့-ဆိုလိုသည်။]

ထိုကာလ ညောင်စဉ်ရွှေကျောင်းဆရာတော်က ဂါမဝါသီရဟန်းတို့ကို ဆော်ဘန် စုရုံးပြီးလျှင် ဦးထုပ်ဒေါက်ချာမဆောင်း, အညွန့်အသားမင်္ဂလာမရှိသော ရဟန်းတို့မနေစေနှင့်ဟု တောနေရဟန်းတို့ကျောင်းကန်ကိုဖျက်ဆီးစေ၍ ထွက်သွားကြရသည်၊ ဆင်တဲရွာ အရှေ့တောင်, သူဌေးကန်အနောက်တောင် တောကျောင်းတွင် နေသောတောနေရဟန်း ငါးဆယ်ကျော်ကိုလည်း နှင်ဖြိုဦးမည်ဟု ဂါမဝါသီရဟန်းတို့ဆော်နှိုးပြန်သည်၊ ထိုအကြောင်းကို မာရ်အောင်ရတနာ ဒါယကာ မင်းတရားကြီး ကြားသိတော်မူ၍ ညောင်စဉ်ရွှေကျောင်းဆရာတော်မှာ ဂါမဝါသီဖြစ်ပေသည်၊ တောနေဆရာတို့မှာ အရညဝါသီဖြစ်ပေသည်၊ ဂါမဝါသီတို့က အရညဝါသီတို့ကိုမနှင်မဖြိုသာ၊ မွေ့လျော်ရာနေထိုင်ကြစေ-အမိန့်တော်ပြန်၍ တားမြစ်တော်မူမှ ချမ်းသာစွာနေကြရသည်။

အတင်ဂိုဏ်း,အရုံဂိုဏ်း ကွဲပြားစအကြောင်းပြီး၏။

---

## ၅၈—ဆင်ဖြူရှင်လက်ထက်အတင်ဂိုဏ်း,အရုံဂိုဏ်း များစွာကွဲလွဲကြောင်း

သက္ကရာဇ် ၁၀၇၆-ခုနှစ်တွင် သားတော်အိမ်ရှေ့မင်း မင်းဖြစ်တော်မူ၏၊ ''မဟာသီဟသူရ ဓမ္မရာဇာဓိရာဇာ''တံဆိပ်နာမံ ခံတော်မူသည်၊ လောကမာရ်အောင်စေတီ ဒါယကာတော် တနင်္ဂနွေမင်းတရားဟူ၍ ၎င်း,ဆင်ဖြူရှင်ဟူ၍၎င်း တွင်သည်၊ ထိုမင်းလက်ထက် ရွှေရင်မြော်ရွာကြီး ရှင်ဥက္ကံသမာလာကို တွင်းသင်းမှူးကြီးကပင့်၍ အဝသို့ရောက်လျှင် ရွှေကြက်ယက်တွင် ကျောင်းဆောက်၍ တင်လှူ၏၊ ပါဠိ, အဋ္ဌက

ထာ,ငြိကာကျမ်းဂန်ကျနသည်၊လောကရာဇအရေးအကြောင်းလိမ်မာ လှသည်ဖြစ်၍ ကျော်စောထင်ရှား၏၊ မြန်မာဘာသာ,မြန်မာ့ဝေါဟာ ရခေါ်ဝေါ်ရေးသားမှုကို အကုန်အစဉ်ယူ၍ အစဉ်ရေးသားစပ်ဆိုချက် ရှိတိုင်း ဝဏ္ဏဗောဓနေဟုစီရင်၏၊ ရွာကြီးသားဖြစ်၍ မင်း-မကိုးကွယ်ဘဲ တွင်းသင်းမှူးကြီးကိုလွှဲသည်ဟု စကားစဉ်ရှိသည်။

ထိုမင်းလက်ထက် သာမဏေတို့ကို ရွာဝင်ရွာသွားရုံစေသင့်သည်, တင်စေသင့်သည်ဟု နှစ်ဂိုဏ်းသားတို့စကားဖြစ်ကြ၏၊ ရှင်ဥက္ကံသမာလာနှင့်အရုံဂိုဏ်းသားရဟန်းတို့က ကျမ်းဂန်အထူးထူးပြ၍ ရုံစေသင့်ကြောင်းကိုဆိုသည်၊ တောင်ဘီလူးဆရာနှင့် အတင်ဂိုဏ်းသားရဟန်းတို့က အရုံဆရာတို့ပြသော ကျမ်းဂန်ကိုဖျက်၍ ဆရာစဉ်နှင့် တင်စေသင့်ကြောင်းကိုဆိုသည်၊မင်းကလည်းမှန်စီ, မိုယ်းထိ,လက်ကောင်း,ဗုဒ္ဓကိုရ၊ဍဂါမဝါသီ ၄-ဦးတို့ကို ဝိနည်းမိုရ်ခန့်၍ ထိုဆရာတို့ရှေ့ဆိုကြရသည်၊ ထိုဆရာ ၄-ပါးတို့ကား-ပါဠိ, အဋ္ဌကထာ, ဋီကာ ကျမ်းဂန်မကျန၊ ဝိနည်းမတတ်မကျွမ်းကြ၊ မင်းနှင့်အကျွမ်းဝင် ရာဇဝလ္လဘ ဖြစ်၍သာ ဆရာတော်ဖြစ်ကြသည်၊ထို့ကြောင့် ချုံပိတ်ပေါင်းကောင်းရာ၌ အောင်းနေသောကျားသစ်ကို မဘမ်းမယူသာသကဲ့သို့ရှိ၍ ကျမ်းဂန်ကျနစွာ လောကဓမ္မ လိမ်မာလှသော ရှင်ဥက္ကံသမာလာတို့ ပြီးပြေအောင် မပြောမဆိုသာဖြစ်၍ မပြီးမပြေလေ။

[အတုလသမိုင်းစာတွင်ကား ရှင်ဥက္ကံသမာလာပင် မဆိုနိုင်ပါပြီ၊ဝန်ချကြောင်းကိုရေးသားလေသည်၊အလျင်းပင် မဟုတ်လေ။]

အတင်ဂိုဏ်း,အရုံဂိုဏ်းများစွာကွဲလွဲကြောင်းပြီး၏။

---

## ၅၉-အရုံ ကျော်အောင်စံထားဆရာတော်နှင့် အတင် ရှင်ပါသံသဆရာတော်တို့အကြောင်း၊

သက္ကရာဇ် ၁၀၉၅-ခုနှစ် သားတော်အိမ်ရှေ့ မင်းဖြစ်တော်မူ၏၊ "မဟာရာဇာဓိပတိ" တံဆိပ်နာမံခံတော်မူသည်၊ နောက် ၁၁၁၃-ခုနှစ်တွင် ဟံသာဝတီသို့ပါ၍ ဟံသာဝတီရောက်မင်းတွင်သည်၊ ထိုမင်းလက်ထက် ပုခန်းကြီး ကျေးပိုက်သင်ရွာကျောင်း ရှင်ဉာဏဝရကို

ပင့်၍ ကိုးကွယ်တော်မူ၏၊ ထိုဆရာသည် ပါဠိ,အဋ္ဌကထာ,ဋီကာကျမ်းဂန်ကျနန်၏၊ ပိဋက ၃-ပုံအကုန်သဘောဝင်၏၊ သုဓမ္မာတွင် စာပြန်ရာ ပဋ္ဌမကျော်ဖြစ်၍ ပဋ္ဌမပြန်တန်းသဂြိုဟ်ဂဏ္ဌိကိုစီရင်သည်၊နောက်လည်း အဋ္ဌသာလိနီဂဏ္ဌိ, သုရာဝိနိစ္ဆယကျမ်းများကို စီရင်သည်၊ ဟံသာဝတီ ရောက်မင်းကတောင်းပန်၍ အဘိဓာန်နိဿယကိုလည်း ပြုသည်၊ ''မဟာရာဇာဓိပတိ'' ဟူသောဟံသာဝတီရောက်မင်း တံဆိပ်နာမံတော်ကိုဘွင့်၍ဆန်း, အလင်္ကာ,သဒ္ဒါ,နေတ္တိ,ဝိဒက်,ဒဏ္ဍီ ဗျဉ္ဇနည်းများဖြင့် တန်ဆာဆင်လျက် ရာဇာဓိရာဇနာမတ္ထပကာသနီ-ဟု ကျမ်းလည်း ပြုသည်။

ဆင်တဲတွင် ယတြာစံနေသော ယာယီနန်းတော်ကိုသိမ်း၍ ကျောင်းတရာပြည့်အောင်ဆောက်ပြီးလျှင် ကျော်အောင်စံထားကမ္ဗည်းတပ်၍ တင်လှူတော်မူသောကြောင့် ကျောင်းမည်ဖြင့် ကျောင်းတရာကျော်အောင်စံထား-ဟူ၍လည်း ကျော်စောထင်ရှားသည်၊ထိုကာလယခင်ဘိုးတော်,ခမည်းတော်တို့လက်ထက်ဇာရံ့အတင်စကားမပြီးမပြေရှိသည်ကို ထပ်၍ ဆိုပြန်ကြရသည်၊ အရုံက ကျော်အောင်စံထားဆရာတော်၊ အတင်က ရှင်ပါသံသတို့ခေါင်းတည်၍ဆိုကြရသည်၊ မင်းနှင့်အကျွမ်းဝင်သော ရာဇဝလ္လဘအောင်မြေရွှေဘုံဆရာတော်ကို ဝိနည်းမိုရ်ခန့်ထားလေသည်၊ထိုအောင်မြေရွှေဘုံကား စာပေကျမ်းဂန်အဟုတ် အဟတ် မကျနမတတ်ကျွမ်း၊ ဝိနည်းမှန်းပင်မသိလေ၊ ကျွပါးစောင်းတီး၍အမှု မပြီးမပြေလေ။

နိုင်ငံတော်အတွင်း ရုံလိုရုံ,တင်လိုတင် မရှင်းမလင်း ရှိကြချေသည်၊ ထိုနောက် ၁၁၁၃-နှစ်တွင် ရတနာပုရ ရွှေဝပြည်ကြီး ပျက်စီးတိမ်းယိမ်းလေ၏၊ သက္ကရာဇ် ၁၁၁၃-ခုနှစ်ရောက်သောအခါ မဟာရာဇာဓိပတိတံဆိပ်နာမံရှိတော်မူသော လောကသရဖူ စေတီတော်ဒါယကာ မင်းတရားကြီး လက်ထက် ၃၂-ဆက်သော မင်းခေါင်မင်းဖျား မင်းတရားတို့စံနေရာ ရတနာပုရရွှေဝပြည်ကြီး ပျက်စီးတိမ်းယိမ်းခဲ့၏၊ တပေါင်နိမိတ်,အတိတ်,သိုက်ဓာတ်,နက္ခတ်,နေ,လ အသွားအလာအစီးအယှဉ် မဖြောင့်မမတ်သည်ကိုသိ၍ ယာယီယတြာ စီရင် ကုမ-ပါသော်လည်း မပြေမငြိမ်းလေ၊ထိုသို့အထူးထူး အပြားပြား ကုမ-စီရင်သည်

ကိုအကြောင်းပြု၍ ထိုမင်းကို ဗေဒင်စကြာရသည်-ဟု သမုတ်ပြောဆိုကြသတည်း။

အရှုံ့,အတင်ဆရာတော်တို့အကြောင်းပြီး၏။

---

## ၆၀-နရပတိစည်သူ၏ဆွေစဉ်မျိုးဆက်အကြောင်း

ထိုနောက် သက္ကရာဇ် ၁၁၁၄-ခုနှစ်ရောက်လျှင် ပုဂံနရပတိစည်သူမင်းကြီး၏ သမီးတော်ကြောင်တော်သည်နှင့် အလောင်းစည်သူမင်းကြီး၏ မြစ်တော်အနန္တသူရိယကိုစုံဘက်ရာတွင် မြင်သောသားတော်မင်းသိဒ္ဓိကာ, ဘဲကြီးရတနာ, ဘဲငယ်ရတနာ,လမ္ဘူရန်တသူ, ပေါက်မြိုင်မင်းပုလဲ, မြေနဲစောဒီဃာတိုင်အောင်သော နေနတ်နွယ်ရိုး မိုးညွှန်းစိုးသော သတိုးမင်းဖျား မင်းတရားကသည် ဝပါနော်ရထာ, မြောက်ဘက်နော်ရထာ, သခ်ယာ,မင်းနေဝန်း,မင်းရဲထွေး,မင်းကြီးရွှေ,မင်းဘိုးခင်, မင်းစစ်နိုင်,သိရိမဟာဓမ္မရာဇာ၊ ဤမျှလောက်သောဆွေစဉ်မျိုးဆက်အားဖြင့် ကမ္ဘာဦး မဟာသမ္မတမင်းမှလာသော အသမ္ဘိန္နခတ္တိယနွယ်စစ်ပုဂံနွယ်ရိုးနေနတ်မျိုးဖြစ်တော်မူသောအလောင်းမင်းတရားကြီးသည် တလိုင်းသူပုန်တို့ပုန်စားနှောင့်ရှက်သော ဘေးဖြင့်အကြေအညာ မြန်မာပြည်ရွာ တိုင်းခရိုင်လုံး ပင်လယ်နားတိုင်အောင် နစ်မွန်းမျောပါ၍ ရဟန်းရှင်လူ တိုင်းသူ ပြည်သား သတ္တဝါများဆင်းရဲပူပန်ခြင်းဖြင့် ဟူးဟူးပြောင်ပြောင် မီးကြီးလောင်သကဲ့သို့ရှိကြစဉ်တွင် ရွှေဘုန်းတော်-ဟူသောနဝတတ်ရေကြည် မိုဃ်းကြီးရည်ဖြင့် သူပုန်ရန်ကြီး သို့သည်မီးကို သတ်ငြိမ်းဖျက်ဆီးတော်မူလျက် နန်းစဉ်မင်းရိုးစိုးမိုးဆက်ခံတော်မူ၏။

နရပတိစည်သူ၏ ဆွေစဉ်မျိုးဆက်အကြောင်း ပြီး၏။

---

## ၆၁-ရတနာသိခ်, ရတနာသိဃ်ဟူသော ၂-မျိုးအကြောင်း

၁၁၁၃-ခုနှစ်ရောက်လတ်သော် ဆိုကျည်ပွဲ့မှမလွတ် အဝပြည်လုံးပင်လယ်နားသို့ မျောပါလတ့်၊ ထိုရောအခါ ဘုန်းပညာနှင့် ပြည့်စုံ

သော အမတ်သားသည် ထာဝရကိန်းမရ၊ ဇင်မကိန်း၌ မြို့သိမ်ဟုနန်း မပြည်ကြီးတည်လတံ့ဟူ၍ ဂဝံပတွေ့ရသွေ့သိကြား ဗျာဒိတ်ထားသော သိုက်နိမိတ် ရှိသည့်အတိုင်း—

၁။ ရတနာ သိမ်မြို့ကြီးနှင့်တကွ ရွှေနန်း ပြာသာဒ်တည်ထောင် တော်မူ၏။

[ဇင်မကျွန်း၌ဟု အချို့စာရှိ၏၊ကိန်း၌ဆိုခြင်းသာသင့်မြတ်သည်၊ ရတနာသိမ်၌လည်း အောင်မြင်ခြင်းဖြင့် လူတို့အထွတ်ဦးစွန်းသဘွယ်ဖြစ်သော ဇေယျသိမ်မင်း, ဦးစွန်းငါးခုရှိသော ပဉ္စသိမ်နတ်သား-ဟူသကဲ့သို့ ရတနာ အပေါင်း၏ စုဝေးရာ တိုင်းပြည်တကာတို့၏ အထွတ်ဦးစွန်းသဘွယ် ဖြစ် သော ရတနာသိမ်မြို့တော်-ဟူ၍ အနက်အဓိပ္ပါယ် ယူအပ်သောကြောင့် ဒုတိယကျွရာ ခ-နှင့်လိုသည်။

မြန်မာထိပ်ခေါင်၊ ဦးစွန်းထောင်၍၊ကုန်းဘောင်စံမှတ်၊နန်းပြာသာဒ်က၊ မန္တာတ်တန္တန်း၊စက်ရှိန်မှုန်းသော်၊ပျောက်ပြန်းရန်မျိုး-ဟူ၍ရှေးသူဟောင်း တို့လည်းစပ်ဆိုကုန်သည်။

သိမ်သဒ္ဒါကားဦးစွန်းဟော၊သိဃ်သဒ္ဒါကားအလျင်အမြန်ဟောတည်း၊ ထို့ကြောင့် မြို့တော်ကွန်းတွင် ရတနာသိဃ် ရွှေမြို့တော်ဟု စတုတ္ထကျွရာ ဃနှင့်ရေးသားလေသည်ကိုအလျင်အမြန်သုန်ဖျင်းလွယ်အံ့သောအကြောင်း နိမိတ်ဖြစ်သည်-ဟူ၍ ပညာရှိတို့မကြိုက်ကုန်။]

၂။ ရွှေဘုံအောင်မြို့၊ရွှေမြို့ကျုံးဝန်း၊နတ်ကွန်းရေကန်၊ချိန်မှန်ပဟိုရ်၊ ရွှေချက်သို-ဟူသော ခုနစ်ဌာနကို တပြိုင်နက်တချက်တည်းစ၍ တည်ထောင်တော်မူသည်။

၃။ သာသနာတော်မြတ်ကို ပြုစုချီးမြှင့် တော်မူသော သာသနဒါယကာအစစ်ဖြစ်သည်-ဟူ၍ နှုတ်တံဆိပ်သာ မိန့်တော်မူသည်၊ သံတံဆိပ်နာမံခံတော်မမူ။

၄။ ပါရမီဖြည့်သော မင်းလောင်းဖြစ်၍ အလောင်းမင်းတရားကြီး ဟု မြေပြင်မဆံ့ကောင်းကင်နှံ့မျှ ကြားလွှံ့ ကျော်စောတော်မူ သည်။

၅။ တလ လေးသီတင်းနန်းတော်တွင်း သံဃာတော်တို့အား မပြတ် ဆွမ်းလုပ်ကျွေးတော်မူ၏။

၆။ မိဖုရားမောင်းမမိဿံ, မှူးမတ်ဆွေရိနှင့်တကွ ဥပုသ်စောင့်တော် မူ၏။

၇။ ဂုဏ်တော်သုံးပါး ပါဠိအနက်ကို တနန်းတော်လုံး လေ့ကျက်ဆောင်ရွက်စေတော်မူ၏။

၈။ ပွဲကျောင်းအလင်္ကာ ဂါမဝါသီတို့အား တရားသဖြင့် ဆုံးမ၍ သာသနာတော်မြတ်ကို သုတ်သင်ပြုစုတော်မူ၏။

၉။ ဥသျှစ်ကျေးရွာကျောင်းတောင်ဘီလူးဆရာတပည့်အတင်ဂိုဏ်းရှင်ယသကို "မဟာအတုလယသဓမ္မရာဇဂုရု" တံဆိပ်နှင့် ဆရာရင်းပြု၍ကိုးကွယ်တော်မူ၏။

ထိုရောအခါအရုံဂိုဏ်းပလိုင်းရှင်သုဇာတတို့က သာမဏေများကို ရွာသွားရွာဝင် သက်န်းရုံစေခြင်းသာ ဓမ္မဝါဒဖြစ်ကြောင်းနှင့်ကျမ်းဂန်ပြ၍ စာသွင်းသည်၊ အတင်ဂိုဏ်းအတုလ ဆရာတော်တို့ကလည်း အဝကောင်းစားစဉ် တနင်္ဂနွေမင်း, ကြာသပတေးမင်းတို့လက်ထက် မာရ်အောင်ရတနာသုဓမ္မာတွင် ဆရာတော် သံဃာတော်တို့ မျက်မှောက်ဖြတ်တမ်းဖြတ်စာနှင့်ပြီးသောအမှုဖြစ်ကြောင်းကိုစာသွင်း၏၊မင်းတရားကြီးက ပြောဆိုစေလိုသော ဆန္ဒတော်ရှိလျက်ပင် မပြောမဆိုရလေ၊ တိုင်းရေးပြည်ရေးကုန်စေဦး၊ သာသနာရေးမှာနောက်မှဆွေးနွေးစိစစ်၍ တရားမှန်ရာဖြစ်စေရမည်-ဟု အမိန့်တော်ကိုသာ နာခံဆိုင်းလင့်ရသည်။

ရတနာသိခ်,ရတနာသိင်္ဃ ၂-မျိုးအကြောင်းပြီး၏။

---

## ၆၂-တောင်တွင်းကြီးပုဂ္ဂိုလ်ကျော်အကြောင်း

သက္ကရာဇ် ၁၁၂၂-ခုနှစ်တွင် သားတော်အိမ်ရှေ့မင်း မင်းဖြစ်တော်မူ၏၊ "သိရီပဝရမဟာဓမ္မရာဇာ" တံဆိပ်နာမံ ခံတော်မူသည်၊ မဟာဇေယျပုရ စစ်ကိုင်းကြီးမြို့ကို ထပ်ဆင့်တဖန် တည်ထောင်ပြန်သောကြောင့် စစ်ကိုင်းမြို့တည် မင်းလည်းတွင်သည်၊ ထိုအခါတောင်တွင်းကြီးမြို့ကျောင်းပုဂ္ဂိုလ် ရှင်ဉာဏသည် ပညာဉာဏ်ထက်သန်ကြီးကျယ်လှသည်၊ တနေ့လျှင်စာချပ်အင်္ဂါတကိုက်ခန့်ရသည်ဖြစ်၍ တောင်တွင်းကျော်-ဟု ကျော်စောထင်ရှားသည်၊ ပဌင်းမျိုကပင်ပုဒ်စစ်, ဉာသ်အရကောက်, ယမိုက်ခက်ဆစ်, ပဋ္ဌာန်းအရကောက်များကို စီရင်သည်၊ ထိုတောင်တွင်းကျော်ကိုပင့်၍ မဟာဘုံသာကျောင်းကို တင်လှူ

တော်မူသည် "ဉာဏာလင်္ကာရမဟာဓမ္မရာဇဂုရု" တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်။

ထိုတောင်တွင်း ဆရာတော် ပုဂ္ဂိုလ်ကျော်သည် အရုံဂိုဏ်းနွယ်ဖြစ်၍ ဓမ္မဝါဒီတို့အမှီရပြီးထင်ရှားကြသဖြင့် ဗဒုံမြို့,ကန္နီမြို့ကျေးရွာသံဃာတို့က သာမဏေများကို ရွာသွားရွာဝင် သင်္ကန်းရုံစေသင့်ကြောင်းနှင့် တရားကျမ်းဂန်ပြ၍ စာဆက်သွင်းကြသည်တွင် အတုလဆရာတော်က ယခင်နည်းပင် အဝမင်းတို့လက်ထက် ပြီးပြေသောအမှုဖြစ်ကြောင်းကို ပြောဆိုပြန်၍ခွင့်မရရှိ၏။

သက္ကရာဇ် ၁၁၂၅-ခုနှစ်တွင် ညီတော်ဆင်ဖြူရှင်မင်းဖြစ်တော်မူ၏၊ "သိရီပဝရသုဓမ္မမဟာရာဇိန္ဒာဓိပတိ"တံဆိပ်နာမံခံတော်မူသည်၊ ရတနာပုရရွှေဝမြို့ကြီးကို သုံးကြိမ်မြောက် အသစ်တဖန် တည်ထောင်ပြန်သောကြောင့် တတိယ ရွှေဝမြို့တည် မင်းလည်းတွင်သည်၊ မကွေးမြို့က ဆဒ္ဒန်ပြောင်ကျော် ဆင်ဖြူတော်ရသောကြောင့် ဆင်ဖြူရှင်လည်းတွင်သည်၊ စရစ်ရွာ ပဥ္စမရှင်နန္ဒဝရအား ဘုံကျော်တုလွှတ် ကျောင်းကို တင်လှူတော်မူသည်၊"ဇမ္ဗုဒီပအနန္တဓဇမဟာဓမ္မရာဇဂုရု"တံဆိပ်နာမံလည်းပေးအပ်တော်မူသည်၊ထိုမင်းလက်ထက်ဇောတိဝါဒလူတို့ပေါ်၍ ဆုံးမစီရင်၏။

တောင်တွင်းကြီးပုဂ္ဂိုလ်ကျော်အကြောင်း ပြီး၏။

---

## ၆၃-စဉ့်ကူးမင်းလက်ထက်အတင်ဂိုဏ်းသားတို့ဝိနည်းတရားနှင့်မညီ၍ဝန်ချကြရကြောင်း

သက္ကရာဇ် ၁၁၃၈-ခုနှစ်တွင် သားတော် စဉ့်ကူးမင်း မင်းဖြစ်တော်မူ၏၊"မဟာဓမ္မရာဇာဓိရာဇာ" တံဆိပ်နာမံခံတော်မူသည်၊ မင်းမဖြစ်မီကစဉ့်ကူးမြို့ကံကျေးခံရသည်ဖြစ်၍စဉ့်ကူးမင်းလည်းတွင်သည်၊ ရွှေမြို့တော်ရွှေမိုယ်းထိကျောင်းရာ၌ ငါးထပ်ကျောင်းကြီးကို ဆောက်လုပ်၍ အောင်မြေစံလွှတ်ကမ္ဗည်းတပ်ပြီးလျှင် မန်လည်ဆရာတော်အားတင်လှူတော်မူသည်၊ဂုဏာမုနိန္ဒာဘိသာသနဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်နာမံလည်းပေးအပ်တော်မူသည်၊ထိုရှေးအခါဗန်ကျီ

တွင်းတိုက်ပေါက်မြင့် ဇာတိဖြစ်သော ရှင်နန္ဒမာလာ မထေရ်သည် စလင်းမြို့ရှေ့ကျောင်း၌ ဝါဆို၍ စာပေကျမ်းဂန်ပို့သ၏၊ သာမဏေများကို ရွာသွားရွာဝင်လက်ကန်တော့တင်စေသော အတင်ဂိုဏ်းသားတို့အား ဝိနည်းတရားနှင့်မညီ-ဟု ပြောဆိုဆုံးမ၏၊ ပါဠိ၊ အဋ္ဌကထာ ဋီကာကျမ်းဂန်၌လာသော အဝတ်အရုံကိုပြ၍ စာပေစီကုံးရေးသား၏။

အတင်ဂိုဏ်းသားတို့လည်း ထိုစာပေကို မင်းနားကြားအောင်ပြုလေ၏၊ ရေမြေသနင်းတရားမင်းလည်း သိကြား,နတ်တို့ စောင်မဘိသကဲ့သို့ အပြစ်ကားမမူ၊ သာသနာတော်မြတ်တရားနှင့်အညီ တည်ထွန်းတော့မည်-ဟူ၍ အသင့်နှလုံးသွင်း တော်မူမိသဖြင့် ရောဝတီမြစ်၏ အကြေစလင်းမြို့၌ နေသော ရှင်နန္ဒမာလာမထေရ်ကို ရောဝတီမြစ်၏ အညာ ရတနာပုရ ရွှေဝမြို့ကြီးသို့ ပင့်စေ-ဟု အမိန့်တော်ပြန်၍ အပင့်အခေါ် မှူးမတ်တို့ကိုစေတော်မူ၏၊ ပင့်ခေါ်၍ရောက်လျှင် ရွှေမြို့တော်မှသေန်အရပ် ရေနန်းတော်ဝယ်တည်းခိုနေထိုင်စေ၏၊ အရှင်မောဂ္ဂလိပုတ္တတိဿ မထေရ်သည် သိရီဓမ္မာသောကမင်းကြီးအား သမ္ဘာဝါဒ, မိစ္ဆာဝါဒအယူတရားကို သင်ကြားလေသကဲ့သို့ ရှင်နန္ဒမာလာမထေရ်လည်း သာမဏေတို့အား ရွာသွား ရွာဝင် ရုံသင့်,တင်သင့်ဝိနည်းတရားကိုသင်ကြားပေ၏။

ဘုန်းပညာသမ္ဘာရင့်မာကြီးမြတ်တော်မူသော ရေမြေသနင်း မင်းတရားလည်း ရုံသင့်,တင့်သင့် ဝိနည်းတရားကို နားပါးကျတော်မူ၍ နှစ်ဂိုဏ်းသားတို့ကို ရွှေနန်းတော်တွင် တရားကျမ်းဂန်ပြ၍ ဆိုကြစေလျှင် အတင်ဂိုဏ်းသားတို့ဆိုသော စကားသည် ပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်းဂန်သို့ မသက်မဝင်၊ အရုံဂိုဏ်းသားတို့ဆိုသောစကားသာ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်းဂန်သို့သက်ဝင်ပေသည်-ဟု မိန့်ဆိုတော်မူ၏၊ အတင်ဂိုဏ်းသားတို့လည်း သာမဏေများကို ရွာသွားရွာဝင် လက်ကန်တော့တင်စေခြင်းသည်၊ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာကျမ်းဂန် မရှိပေ၊ တဦးက တဦးကို အတုအပ အလေ့အကျက် မျှသာဖြစ်ပေသည်ဟု ဝန်ချကြကုန်၏။

[၂-ဘက်သား ဆိုကြသောစကားမှာ စာတမ်းရှိလေပြီ။]

### အရုံဂိုဏ်းအနိုင်ရရှိခြင်း

ရေမြေသနင်းမင်းတရားလည်း ပါဠိ,အဋ္ဌကထာ, ဋီကာသို့သက်ဝင်ရာ, တရားရှိရာ သာမဏေများကို ရွာသွား ရွာဝင် ဝတ်ရုံစေ၊ သက္ကရာဇ် ၁၁၄၂-ခုနှစ် နယုန်လဆန်း ၁၅-ရက်နေ့ အမိန့်တော်ထုတ်ပြန်တော်မူ၍၊ အမိန့်တော် အတိုင်းလည်း တနိုင်ငံလုံး ကျင့်ဆောင်ကြရ၏၊လောကသရဖူဘုရားရှေ့တွင် စမုတ်နှစ်ဆောင်,ပြာသာဒ်၂-ဆူနှင့်တကွ လေးထပ်ကျောင်း ဆောက်လုပ်တော်မူ၍ ဘုံကျော်ဝေယန်ကမ္ဗည်းတပ်တော်မူလျက် ရှင်နန္ဒမာလာမထေရ်အား တင်လှူတော်မူသည်၊"နရိန္ဒာဘိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်။

ထိုဆရာတော်သည် ပါဠိ,အဋ္ဌကထာ, ဋီကာကျမ်းဂန်ကျန၏၊စုဒ်,စောဒနာ, အာဘော်, ကျမ်းထွက်,ကျမ်းတက်, ကျမ်းရိုး နိုင်နင်း၏၊ ရဟန်းပျိုကပင် ဝိနယဝိနိစ္ဆယနိဿယ, သုတ္တသင်္ဂဟနိဿယ, သုတ်မဟာဝါအဋ္ဌကထာနိဿယ,သာသနသုဒ္ဓိဒီပကကျမ်းများကို စီရင်၏။

ဝိနည်းတရားနှင့်မညီညွတ်၍ ဝန်ချရကြောင်း ပြီး၏။

---

## ၆၄-စစ်ကိုင်းမင်းတရားကြီးလက်ထက်သာသနာတော်ကို ပြုစုကြည့်ရှုတော်မူကြောင်း

သက္ကရာဇ် ၁၁၄၃-ခုနှစ် တပို့တွဲလပြည့်ကျော် ၁၅-ရက်နေ့တွင် ရတနာသိင်္ခမြို့တည် နန်းတည် အလောင်းမင်းတရားကြီး၏သားတော် အလတ်, စစ်ကိုင်းမြို့တည် မင်းတရား, အဝမြို့တည်မင်းတရား တို့၏ ညီတော် အရင်းဖြစ်သောမင်းတရားကြီးသည် ရတနာပုရ ရွှေဝပြည်ကြီးကို သိမ်းမြန်းဆက်ခံတော်မူ၍ မင်းခေါင်မင်းဖျားမင်းတရားစစ်ဖြစ်တော်မူ၏၊သီရိဓမ္မာသောကမင်းကြီးသည် ခမည်းတော်ဗိန္ဒုသာရမင်း၏အရိုက်အရာ ပါဋလိပုတ်ပြည်၌ မင်းအဖြစ်သို့ရောက်သော်လည်း ရောက်ထည့်ခြင်းဘိသိက်မခံဦးဘဲ လေးနှစ်တိုင်အောင် ပြည်ရေးရွာမှု ရှင်းလင်းပြုစုပြီးမှ ဘိသိက်ခံသည်-ဟု ကျမ်းဂန်လာသည်နှင့် အညီ ရွှေတောင် ရွှေနန်းသိမ်းမြန်းစမွှယ်တော်မူသော်လည်း သိမ်းမြန်း

ထည့်ခြင်း ဘိသိက်မခံဦးဘဲ ၃-နှစ်ကျော်၄-နှစ် သာသနာရေး, ပြည်ရေးရွာမှု ရှင်းလင်းပြုစုပြီးမှ နှစ်ကြိမ်တိုင်အောင်ဘိသိက်ခံတော်မူ၏။

"တိုင်းရေးပြည်မှုကုန်တွင်စေဦး၊သာသနာရေးတရားမှုမှာ နောက်မှ ဆွေးနွေးစိစစ်၍ မှန်ရာ ဖြစ်စေရမည်"-

ဟူသောခမည်းတော်ဘုရား ဗျာဒိတ်ထားတော်မူခဲ့သော အမိန့်တော် ရွှေခွန်းကို ရွှေတောင် ရွှေနန်း သိမ်းမြန်းစမ့်ယ်တော်မူဦးကပင် အောက်မေ့ဆင်ခြင်တော်မူမိ၍ ခမည်းတော်ဘုရား အမိန့်တော်မြတ် အတိုင်း သာသနာရေး တရားမှုကို ဆွေးနွေးစိစစ်၍ မှန်ရာဖြစ်စိမ့်စေမည်-ဟု ရည်ဆောင်တော်မူသည်။

**အတင်,အရုံ၁ါဒကိုထပ်မံစုံစမ်းစေခြင်း**

ယခင်ရှေးက အဝမင်းအဆက်ဆက် မပြီးမပြေနိုင်၊ စေဥ့်ကူးမင်း လက်ထက်ပြီးပြေသည့်အရာလည်း အတင်ဂိုဏ်းဆရာတို့က သာမဏေများကိုရွာသွားရွာဝင် လက်ကန်တော့ တင်စေခြင်းသည် ပါဠိ, အဋ္ဌကထာ, ဋီကာကျမ်းဂန် မလာမရှိပေဟု-ဝန်ချကြ၍ ပြီး ပြေသည့်အရာ ဖြစ်သည်၊ ထိုသို့ ဝန်ချခြင်းသည်လည်း နန်းတော်ထက်တွင် မင်းရွှေစိုးပြင် ဆိုင်ပြိုင်ပြောဆိုကြရ၍ ကြောက်ရွံ့ခန့်ညားကြသဖြင့် ဝန်ချသည်လည်းရှိတန်ရာသည်။

ယခုရွှေလက်ထက်တော်တွင် မကြောက်ရွံ့ မခန့်ညား ကြရအောင် ဆရာတော်သံဃာတော်များရှိရာ ကျောင်းကန်သွား၍ သာမဏေများ ရွာသွားရွာဝင် ရုံသင့်,တင်သင့်သည်ကို တရားရှိရာမိန့်ဆိုတော်မူပါဟု-လျှောက်ထားစေ၊ မိန့်ဆိုတိုင်းကိုလည်း မှတ်သားခဲ့စေ- အမိန့်တော်မြတ်ရှိ၍ ပညာရှိစာဆိုတော်ကြီးသုခမိန် တွင်းသင်းဝန် ဦးညိုနှင့် အတင်ဂိုဏ်းဆရာတို့ တကာမှူးမတ်များကိုကျောင်းစေ့အောင်နေ့ရှည်ရက်များ လျှောက်ထားစေ၍ ဆရာတော် သံဃာတော်များ မိန့်ဆိုတိုင်းလည်း မှတ်သား၍ ရွှေနားတော်ကြားတင်လျှောက်ရ၏။

[တွင်းသင်းဝန် ဦးညိုကား တော်တည့်မှန်ကန်လှသသူ, တနေ့ကိုအမှုမဲ့စကားတခွန်း, နှစ်ခွန်းမျှမပြောဆိုသသူ လူသမ္မာဟူ၍ အများထင်ရှားသောကြောင့် တွင်းသင်းဝန် ဦးညိုကို ခေါ်တည့်၍ စေခန့်တော်မူသည်၊

ထိုသို့စေခန့်ခြင်းသည်လည်း ဆရာတော် သံဃာတော်များ မကြောက်မရွံ့ မခန့်ညားအောင်, မိန့်ဆိုတိုင်း လျှောက်ထားကြအောင် အမှုမှန်စေလို၍ စေခန့်တော်မူသတည်း။]

## အတင်ဂိုဏ်းကတညီတညွတ်တည်းဝန်ချခြင်း

အတင်ဂိုဏ်းဆရာတော် သံဃာတို့ကလည်း သာမဏေများကို ရွာသွားရွာဝင် လက်ကန်တော့တင်စေခြင်းသည် ပါဠိ,အဋ္ဌကထာ,ဋီကာ ကျမ်းဂန်မလာမရှိပေ၊တဦးကိုတဦး အတုအပလွဲစရှိလျှင်လွဲ၍ ကျင့်စေမိသည်သာဖြစ်ပါသည်ဟု အညီအညွတ်ဝန်ချကြ၏၊ ပါဠိ,အဋ္ဌကထာ ဋီကာကျမ်းဂန်လာရှိသည်နှင့်အညီ သာမဏေများကို ရွာသွားရွာဝင် ဝတ်ရုံပါစိမ့်မည်ဟူ၍လည်း ဝန်ခံကြ၏၊ ဤသို့ အတင်ဂိုဏ်းဆရာတော် သံဃာတော်များကို အသီးအသီး အခြားအခြားကျောင်းကန်သွား၍ လျှောက်ထားသည်ကို တပေါင်းတစုတည်း မိန့်ဆိုသကဲ့သို့ တခွန်းတသံ တည်းထွက်ဆိုသည့်အတိုင်း မှတ်သားတင်လျှောက်ကြသည်။

အရှင်ဘဝရှင်မင်းတရားကြီးလည်း ဤသို့အမိန့်တော်ရှိသည်၊ ဆွေးနွေးစိစစ်၍ တရားရှိတိုင်းမှန်ရာ ဖြစ်စိမ့်မည်ဟု- ကြံစည်တော်မူသည်ကို နှစ်ဘက်ပြိုင်ဆိုင်၍ အချေအတင် မဆွေးနွေး မစိစစ်ဘဲပင် ဆရာတော် သံဃာတော်တို့သည် တညီတညွတ် အဖြောင့်အမတ် ဝန်ချဝန်ခံပြုကြ လေသည်မှာ ကိုယ့်အမှုကို ကိုယ်ပင်စီရင်သည့်အရာ ဖြစ်တော့သည်၊ အထူးစီရင်ဘွယ်မရှိပြီ၊သာသနာတော်မြတ်ကို ပြုစုထိုက်သော ဘုန်းကံ ရှိ၍ သာသနာတော်ရေးပြေကုန်လွယ်သည့်အရာဖြစ်သည်၊ ဆရာတော် သံဃာတော်တို့အညီအညွတ်ဝန်ချဝန်ခံပြုကြသည့်အတိုင်း''ပရိမဏ္ဍလ, သုပ္ပဋိစ္ဆန္န''ဖြစ်အောင် သာမဏေများကို ရွာသွားရွာဝင် ဝတ်ရုံကြစေ ဟူ၍ သဗ္ဗညုဆု၌ ညွတ်သောစင်ကြယ်သောစိတ်ဖြင့် အမိန့်တော်ရှိ သည်၊အမိန့်တော်အတိုင်းလည်း နိုင်ငံတော်အတွင်း ဆရာတော်သံဃာ တော်တို့ အညီအညွတ်ကျင့်ဆောင်ကြသည်။

ဤသို့ သက္ကရာဇ် ၁၁၄၃-ခုနှစ် ရွှေနန်းတက်တော်မူစကပင် သာ သနာရေး သာသနာမှုကို ခမည်းတော်ဘုရား အမိန့်တော်မြတ်အတိုင်း ရှေးဦးစွာသုတ်သင်ပြုစုတော်မူသတည်း။

### မောင်းထောင်ဆရာတော်အား ဘွဲ့တံဆိပ်ဆက်ကပ်ခြင်း

သက္ကရာဇ် ၁၁၄၃–ခု၊တပို့တွဲလပြည့်ကျော် ၁၅-ရက်နေ့၊ ရွှေနန်းတက်တော်မူ၍ တန်ခူးလဆန်း ၂-ရက်နေ့တွင် လူဆရာဦးညို,ဦးပြစ်တို့ ပြောစားလာသော စာပေကျမ်းဂန် ရမိလှသည်ဟူ၍ ကျော်စောထင်ရှားသော မောင်းထောင်ပဉ္စင်းငယ်သည် အဘယ်မှာ ယခုရှိလေသနည်းဟု မှူးတော်,မတ်တော်တို့အားမေးတော်မူသည်၊ မောင်းထောင်မှာပင် ရှိနေကြောင်းကို တင်လျှောက်ကြသည်တွင် ယခုပင်အလျင်အမြန်ရောက်အောင် ပင့်ခေါ်စေ–အမိန့်တော်ပြန်၍ တောင်ဘက်တိုက်ဝန် မင်းကျော် ရွှေတောင်ကို ပင့်စေတော်မူ၏၊ ရောက်ခဲ့သည်ဟူ၍လည်း အတွင်းတော် လွှတ်တော်က အကြိမ်ကြိမ်ဆင့်ရ၏။

ထိုသက္ကရာဇ် တန်ခူးလပြည့်ကျော် ၈-ရက်နေ့ စာသင်ရဟန်းရှစ်ဆဲ့ငါးပါးနှင့် ရတနာပုရ ရွှေဝမြို့သို့ရောက်၍ မိုယ်းထိကျောင်း အနောက်မြောက်တွင် စာသင်တိုက် ယာယီကျောင်းတွင် တည်းခိုနေထိုင်ရသည်၊ ယင်းသောအခါ ရဟန်းပဉ္စင်းဝါခြောက်နှစ်ကျော်,ခုနစ်နှစ် အဝင်ရှိပြီ၊ ထိုနှစ် ဝါဆိုလဆန်း ၈-ရက်နေ့တွင် စာသင်ကျောင်းကို မှူးတော်,မတ်တော်များနှင့်တကွအိမ်ရှေ့မင်းထွက်၍ ရွှေကရားနှင့်ရေစက်သွန်းချတင်လှူတော်မူသည်၊ "ဉာဏာဘိသာသနဓဇ မဟာဓမ္မရာဇဂုရု" တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်၊ ပိဋကကိုလည်း စောင်မရသည်၊ ရာဇာဘိသေကကျမ်းကိုလည်း ပုဏ္ဏားများနှင့် ပြန်ဆိုရသည်၊ ဘိသိက်ခံတော်မမူမီဖြစ်၍ ပိဋကတော်ကို မရေးစေသေး။

စစ်ကိုင်းမင်းသာသနာပြုတော်မူကြောင်းပြီး၏။

---

## ၆၅––ခေတ်သိုက်ဗျာဒိတ်နိမိတ်တပေါင်အရ-အမရပုရ မြို့ကိုတည်ထောင်တော်မူကြောင်း

ဘုရားမြတ်စွာ ဒေသစာရီ ကြွချီတော်မူလာသည်တွင် ထွန်တုံးပုတက်သို့ရောက်တော်မူ၍ ငတောင်ပြီး, ငတောင်မြင့်, ငတောင်ကြီး, ငတောင်သမန်မည်သော ဘီလူးသားအဘ ၄-ယောက်တို့ သားပွဲမ်းဆွမ်းနှင့်သပိတ်လှူကြသည်ကိုခံတော်မူပြီးလျှင်တောင်သမန်သို့ရောက်မှ

ဘုဉ်းပေးတော်မူသည်၊ ဆွမ်းဘုဉ်းပေးတော်မူပြီးတွင် ပြုံးတော်မူသည့် အကြောင်းကို အရှင်အာနန္ဒာလျှောက်၍ ဤမန္တလေးအရပ်၌ ရတနာပုံမည်သော ပြည်ကြီးဖြစ်လတ္တံ့၊ ဤဘီလူး ၄-ယောက်တို့သည် မင်းဖြစ်လတ္တံ့၊ ဤပြည်ကား ဤကမ္ဘာတွင် ဘုရားလေးဆူတို့လက်ထက်လုံးပင် ထင်ရှားလိမ့်မည်-ဟူ၍ ဗျာဒိတ်ထားတော်မူသည့်အတိုင်း—

၁။ တောင်လေးလုံးကြီး ရွှေစည်တီးသည် ပြည်ကြီးအလုံးဖြစ်လတ္တံ့။

၂။ ထီးပေါင်းကားကြီး ထီးလည်းမှို့သို့ပေါက်လတ္တံ့။

၃။ ထီးပေါင်းကားမှာ မင်းများဂြိုဟ်သို့စုလတ္တံ့။

စသဖြင့် ဂဝံ့ပတေ့, ရသေ့, သိကြား သိုက်စာများက ထွက်ဆိုသည်နှင့် အညီ သက္ကရာဇ် ၁၁၄၄-ခုနှစ် တပို့တွဲလဆန်း ၁၂-ရက် အင်္ဂါနေ့ ဥတ္တရာဖရဂုဏ္ဏီ နက္ခတ်မွန်းတည့်တွင် ရွှေဘုံရွှေနန်းနှင့် တကွ အမရပုရမဟာရာဇဌာနီရွှေမြို့တော်ကြီးကို တည်ထောင်တော်မူ၏၊ ၁၁၄၅-ခုနှစ် ရာသီကဆုန် နယုန်ဝေါဟာ ဝိသာခါနက္ခတ်အကြိုက်တွင် သာသနာကျမ်း, ရာဇာဘိသေကကျမ်း စာတမ်းများနှင့် အညီ ရာဇာဘိသေကခံတော်မူ၍ ရွှေမြို့ရွှေနန်းသိမ်းမြန်းတော်မူ၏၊ထိုနောက် ၁၁၄၆-ခုနှစ် ရာသီကဆုန် နယုန်ဝေါဟာ ဝိသာခါနက္ခတ် အကြိုက်တွင်လည်း ဝေဿန္တရာမင်း, ဒေဝါနံပိယတိဿမင်းတို့ နှစ်ကြိမ်တိုင်အောင်ဘိသိက်ခံသည်-ဟု ကျမ်းဂန်လာသော ထုံးစံသို့လိုက်၍ မင်းကျင့်တရားကို ကျောက်ထီးကဲ့သို့ ရိုသေလေးမြတ်သဖြင့် ဦးထိပ်၌ စိုက်၍ခရုသင်းသုံးလုံးဖြင့်အမျိုး သုံးပါးတို့ သွန်းသော မုဒ္ဓါဘိသေကကိုတဘန်ခံတော်မူပြန်၏။

ဘိသိက်ခံ အဆုံး၌လည်း ''သိရီပဝရဝိဇယာနန္တယသတြိဘဝနာဒိတျာဓိပတိပဏ္ဍိတ မဟာဓမ္မရာဇာဓိရာဇာ''ဟူသောအသစ်ရှစ်ပါးတွင် တန်ခိုးထင်သောတံဆိပ်နာမံခံတော်မူ၏။

### အဘိသိက်၏အာနုဘော်ကြောင့် ရရှိသောစည်းစိမ်

ဤသို့ ၂-ကြိမ်တိုင်အောင်ခံသော ဘိသိက်အာနုဘော် ရွှေဘုန်းတော်မြတ်ကြောင့်—

၁။ တရုပ်တရက်နှစ်ပြည်ထောင်ကိုပိုင်သောဥတည်မင်း, ဝဇ္ဇီတိုင်းကို အစိုးရသော ဝေသာလီမင်း, သိယိုဋ္ဌိကျွန်း သိရိဝမုနမြို့၏ အရှင်ဖြစ်သော သိရီရာဇသီဟ သိယိုဋ္ဌမင်းတို့က ဆက်သလာသောအထူးထူးသောလက်ဆောင်ပဏ္ဏာများကိုခံတော်မူရ၏။

၂။ ပိဋကကျမ်း, ဆေးကျမ်း, ဗေဒင်ကျမ်းတို့၌ လေ့လာတတ်ကျွမ်းနိုင်သော လျင်မြန်ထက်သန်စွာသော သတိ, ပညာနှင့် ပြည့်စုံတော်မူ၏။

၃။ ပုဂံနေ်ာရထာမင်းစောတို့ လက်ထက်ကပင့်ဆောင်၍ မရနိုင်သော ဘုရားသခင်မျက်မှောက်တော် ကိုယ်တော်ငွေ့ခုနစ်လက်ပွေ့သွင်း၍ သွန်းလုပ်သောမဟာမုနိရုပ်ပွားတော်ကိုရခိုင်ပြည်မှပင့်ဆောင်၍ ကိုးကွယ်တော်မူရ၏။

၄။ အောင်မြေလောကစေတီတော်, အသောကာရုံတိုက်, ရတနာဘုံကျော်ကျောင်းတော်စသောများစွာသောစေတီတော်, များစွာသောကျောင်းတော်တို့ ဒါယကာလည်း ဖြစ်တော်မူ၏။

၅။ သဗ္ဗညုဆု၌မပြတ်ညွတ်သောစိတ်ဖြင့်တရားကိုအလေးအမြတ်ပြုလျက် သာသနာတော်ကိုသုတ်သင်ပြုစုတော်မူ၏။

၆။ ကွမ်းဆော်မင်းအား သိကြားဆောင်နှင်းသော အရိန္ဒမာလှံ, သီလဝံသမားလည်း ကျည်စိုးစုက္ကတေးတို့ လက်ထက်ကွယ်၍ နေ်ာရထာမင်းစော လက်ထက်တွင်မှ ထင်ရှားဖြစ်သောဟူသကဲ့သို့ ခမည်းတော် အလောင်းမင်းတရားကြီး လက်ထက်မှ ရသော တချက်ပစ်လျှင် အချက်များစွာ ထင်လျက် ရွှယ်တိုင်းရောက်သော အမြောက် ရတနာသည် မင်းသုံးဆက် ကျော်ကွယ်ပြီးမှ ထင်ရှားရပြန်လာသည်ကိုဧင်း၊ ဓညဝတီမြို့ကမင်းအဆက်ဆက်မရဘူးသော ဓညာဝုဓအမြောက်ကြီးကိုရတော်မူသည်ကိုဧင်း အစွဲအမှတ်ပြု၍ လက်နက်စကြာသခင်-ဟူ၍လည်းတွင်၏။

၇။ ဆဒ္ဒန်ဆင်မင်းမျိုး၏ လက္ခဏာနှင့် ပြည့်စုံသော နိဗ္ဗာနပစ္စယဆဒ္ဒန္တနာဂရာဇာ-ဆဒ္ဒန်ဆင်မင်း ရတနာကုမုဒ်, အဥ္စနဂိရိအစရှိသော ဆင်ဖြူ ဆင်ကောင်းများတို့အရှင် ဖြစ်သည့်

အကြောင်းကိုရည်၍ ဆဒ္ဒန်ဆင်မင်းအရှင်ဆင်ဖြူများရှင်ဟူ၍ လည်း တွင်၏။

[ဆင်ဖြူတို့၏ အရေအဆင်းကို''ပုဏ္ဍရီကတစင်္ဂါ-ကြာဖြူပုဏ္ဍရိက်နှင့် တူသောအရေအင်္ဂါရှိ၏''ဟူ၍ ဆဒ္ဒန္တဇာတ်၌ဟောတော်မူသည်နှင့်အညီ ဆဒ္ဒန်ဆင်ဖြူတို့မှာအရေနဂိုပင်ဖြူသည်မှတ်လေ၊ အရေနဂိုဖြူနိုင်မည်မဟုတ်၊ အမွေးမျှသာဖြူနိုင်မည်ဟု ယုံမှားသက်ာ ရှိကြသည်ကိုလည်း ကျမ်းဂန်လာ တိုင်း ယခုဆဒ္ဒန်ဆင်မင်းမှာ အရေနဂိုပင်ဖြူသည်ကို မျက်မှောက်ထင်ထင် မြင်ရသည့်ကိုထောက်၍ ယုံမှားသက်ာကိုဖျောက်လေ။]

**ဆရာတော်များအား ဘွဲ့တံဆိပ်တော် ဆက်ကပ်ခြင်း**

ဤသို့ဆိုခဲ့ပြီးသော မင်းခေါင်မင်းဖျား မင်းတရား၏ ဘုန်းတန်ခိုး ကြက်သရေ အရှိန်အစော် အာနုဘော်အထူးနှင့် ပြည့်စုံတော်မူသော လက်နက်စကြာသခင် ဆဒ္ဒန်ဆင်မင်းအရှင်ဆင်ဖြူများရှင် ဘဝရှင်မင်း တရားကြီးသည် တိုင်းရေး ပြည်မှုနှင့်တကွ သာသနာရေးကို မြော် ထောက်တော်မူလျက် သိက်, ၄က်, ဓာတ်ဆန်း, ကိန်းခန်း, စနည်း, တပေါင်,နိမိတ်,ဗျာဒိတ် ရှိသည်နှင့်အညီ ရတနာပုရ ရွှေဝမြို့ကြီးက အမရပုရ မဟာရာဇဌာနီ ရွှေပြည်တော်ကြီးသို့ ပြည်ထောင်နှင့်တကွ ပြောင်းကြွစမွှယ်တော်မူသည်တွင် သာသနာရေး အနေတကျ ဖြစ်စေ ခြင်းငှါ ပါဠိ,အဋ္ဌကထာ, ဋီကာကျမ်းဂန် ကျနစ်၍ ဂုဏ်သတ္တိအထူးနှင့် ပြည့်စုံတော်မူသော သီလဝန်, ဂုဏဝန်ဆရာတော် သံဃာတော်တို့ကို မင်း,မိဖုရား,မင်းသမီး,မင်းသား,မှူးတော် မတ်တော်, အထိုက် အ လိုက် ပစ္စည်း ၄-ပါးအထောက်အပံ့ အသီးအသီးအပ်၍ ထောက် ပံ့လုပ်ကျွေးစေတော်မူ၏၊ ရွှေနောက် ၂-ကြိမ် ဘိသိက်မခံမီ တံဆိပ် နာမံလည်းပေးအပ်ချီးမြှင့်တော်မူ၏၊ သာသနာပြု သာသနာပိုင်အပ်၍ လည်း ဆုံးမပဲ့ပြင်စေတော်မူ၏။

အမရပုရမြို့ကိုတည်ထောင်တော်မူကြောင်းပြီး၏။

---

## ၆၆-သာသနာပိုင် ၄-ပါးခန့်၍သာသနာ ပြုတော်မူခြင်းအကြောင်း

ရွှေမြို့တော်ကြီးနှင့် တပြိုင်နက် တချက်တည်း ပန်နက်ချ၍ဆောက် လုပ်ရသောကျောင်းကြီး ၄-ရပ်တွင်—

၁။ နန်းမတော်ရှင်မိဖုရားကြီး ကျောင်းတော်ကို အောင်မြေတိုကျော်ကမ္ဗည်းတပ်၍ မင်းအိုဆရာတော်ကြီးအား တင်လျှောက်တော်မူ၍၊ ''ဂုဏာဘိလင်္ကာရသဒ္ဓမ္မ မဟာဓမ္မရာဇာဓိရာဇဂုရု'' တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်။

၂။ ကန္နီမင်းသမီးကျောင်းတော်ကို ဘုံသာဝေယန် ကမ္ဗည်းတပ်၍ မန်လည်ဆရာတော်အား တင်လျှောက်တော်မူ၍၊ ''ဂုဏမုနိန္ဒာဓိပတိ မဟာဓမ္မရာဇာဓိရာဇဂုရု''တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်။

၃။ အိမ်ရှေ့မင်းမိဖုရား ကျောင်းတော်ကို မင်္ဂလာဝေယန်ကမ္ဗည်းတပ်၍ ဆုံးထားဆရာတော်အား တင်လျှောက်တော်မူ၍၊ ''တိပိဋက သဒ္ဓမ္မသာမိ မဟာဓမ္မရာဇာဓိရာဇဂုရု'' တံဆိပ် နာမံလည်း ပေးအပ်တော်မူသည်။

၄။ အလယ် နန်းတော်ရှင် မိဖုရားကျောင်းတော်ကို မင်္ဂလာစံလွှတ်ကမ္ဗည်းတပ်၍ မင်းရွာဆရာတော်အား တင်လျှောက်တော်မူသည်၊ ''ဉာဏဇမ္ဗုဒီပအနန္တဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု'' တံဆိပ်နာမံလည်းပေးအပ်တော်မူသည်။

ဤဆရာတော်ကြီးလေးပါးကို သာသနာပိုင် အပ်တော်မူ၍ သာသနာတော်မြတ်ကို သုတ်သင်ပြုစုရ၏၊ ထိုမှတပါးလည်း—

၅။ မြောက်နန်းတော်ရှင်မိဖုရားကျောင်းတော်ကို မင်္ဂလာဘုံကျော်ကမ္ဗည်းတပ်၍ ညောင်ကန် ဆရာတော်အား တင်လျှောက်တော်မူ၍၊ ''ကဝိန္ဒာဘိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇဂုရု'' တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်။

၆။ ပြည်မြို့စား ကျောင်းတော်ကို တုလွှတ်ဘုံစံ ကမ္ဗည်းတပ်၍ ရွှေတောင်ဆရာတော်အား တင်လျှောက်တော်မူ၍၊''ကဝိန္ဒာဘိသဒ္ဓမ္မပဝရ မဟာဓမ္မရာဇဂုရု''တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်။

၇။ အတွင်းဝန်ကဆောက်လုပ်ရသော ကျောင်းတော်ကို ဆင်တဲဆရာတော်အား တင်လျှောက်တော်မူ၍၊''ဉာဏာဘိလင်္ကာရ သဒ္ဓမ္မဓဇ မဟာဓမ္မရာဇဂုရု'' တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်။

၈။ လက်ဝဲဝင်းတော်မှူးက ဆောက်လုပ်ရသော ကျောင်းတော်ကို မဲခီးဆရာတော်အား တင်လျှောတော်မူ၍၊ "ပရမသိရီ ဝံသဓဇ မဟာ ဓမ္မရာဇဂုရု"တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်။

၉။ ဝန်ထောက်တော်က ဆောက်လုပ်ရသော ကျောင်းတော်ကို လောကမှန်ကင်းဆရာတော်အားတင်လျှောတော်မူသည်၊ "ကဝိန္ဒ သာရဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်နာမံလည်း ပေး အပ်တော်မူသည်။

ဤသို့စသည်ဖြင့်ပါဠိ,အဋ္ဌကထာ,ဋီကာကျမ်းဂန်ကျနစ်၍ သတ္တိဗျတ္တိ နှင့်ပြည့်စုံသော သီလဝန်,ဂုဏဝန် ပုဂ္ဂိုလ်တို့အား တံဆိပ်နာမံ ပေး အပ်တော်မူသည်ကား အရာမကများလှစွာ၏၊ ကျယ်လွန်းအံ့စိုး၍ မရေးသားပြီ။

သာသနာပိုင် ၄-ပါးခန့်၍ သာသနာပြုတော်မူခြင်း အကြောင်းပြီး၏။

---

## ၆၇-သာသနာပြု ၁၂-ပါးခန့်၍သာသနာ ပြုတော်မူခြင်းအကြောင်း

ထိုနောက် ၁၁၄၀-ခုနှစ်သို့ရောက်သောအခါသာသနာပြုသာသနာ ပိုင်အပ်တော်မူသော ဆရာတော်ကြီး ၄-ပါးသည်၊ပုထုဇဉ်ဂတိသို့လိုက် သဖြင့် လွတ်လွတ်မစီရင်ဝံ့၊ မစီရင်ချင် သကဲ့သို့ ထင်မှတ်တော်မူ၍ သာသနာရေး, သာသနာမှုကို အားကြီးတော်မူလှသည်နှင့်ဆရာတော် ကြီးလေးပါးမှာ ဆရာတော်ငယ်ရှစ်ပါးဘက်၍ သာသနာပြု ၁၂-ပါး ခန့်တော်မူပြန်သည်။

၁။ မင်းအိုဆရာတော်,
၂။ မန်လည်ဆရာတော်,
၃။ ဆုံးထားဆရာတော်,
၄။ မင်းရွာဆရာတော်,
၅။ ရွှေတောင်ဆရာတော်,
၆။ ဗားကရာဆရာတော်,
၇။ ကတိုးဆရာတော်,

၈။ မဲမီးဆရာတော်,
၉။ မုံတောဆရာတော်,
၁၀။ စလင်းဆရာတော်,
၁၁။ ဆင်တဲဆရာတော်,
၁၂။ မောင်းထောင်ဆရာတော်,
ဤ ၁၂-ပါးကို သာသနာပြုခန့်ထား၍ သုတ်သင်ပြုစုံရ၏။

"ဧကောအလဇ္ဇီပိ အလဇ္ဇီသတံ ကရောတိ"ဝိနည်းကျမ်းဂန်ရှိသည့်အတိုင်း အလဇ္ဇီနှင့်ပေါင်းဘက်မိသော် အလဇ္ဇီတယောက်ပင် လဇ္ဇီတရာကို တခဏချင်း အလဇ္ဇီဖြစ်အောင်ပြုနိုင်လေသောကြောင့်ရဟန်းတို့နှင့်မပေါင်းဘော်သင့်ရကား အဆက်အနွယ်အနေအထိုင် အမူ အကျင့်ကို ဆင်ခြင်၍ သဘာဂ, ဝိသဘာဂခြားနားရ၏။"ရဟန္တာပင်ဖြစ်သော်လည်း နိသျည်းဆရာနှင့်မကင်းကောင်း၊ ဥပဇ္ဈာယ်ဆရာမှတပါးအခြားရဟန်းတို့နှင့် ရှင်ပဉ္စင်းမပြုမခံကောင်း"ဟု ဝိနည်းတရားတော်ရှိရကား-နိသျည်းဆရာ,ဥပဇ္ဈာယ်ဆရာ, နိဿယမုစ္စကဆရာ, နိသျည်းခံသံဃာပြည့်စုံအောင် ဝိနည်းကျမ်းဂန်ပြန်ဆိုရ၏။

ထိုရောအခါ ယခင်အောက်က ဆိုခဲ့သည့်အတိုင်း ရွှေနန်းတက်တော်မူဦးကပင့်၍ တွင်းသင်းတိုက် လေးထပ်ကျောင်းတွင် တင်ထားသော ရဟန်းခုနစ်ဝါရ မောင်းထောင်ပဉ္စင်းငယ်ကိုလည်း အမရပုရရွှေဝမြို့တော်အတွင်း ဆင်ကြီးရွှေဂူ သုမဂ္ဂါစရပ် ပိဋကတိုက်အနီးအပါးတွင် ယာယီကျောင်းနှင့် ကိုးကွယ်တော်မူ၏၊ ပိဋကကို အပ်၍စာရေး-၁၀၀၊ ပေလုပ်မျှဉ်းကိုင်-၅၄၊စာကြည့်စာတည်းဆရာတော်-၅၀၊ နောက်ပါသံဃာလည်း ၅၀-နှင့်ရွှေရေး,မင်ရေး, ကညစ်ရေးအက္ခရာသုံးပါးဖြင့်ရေးသားတည်းပြင်ရာတွင် စောင်မစီရင်ရ၏။

ထိုမှနောက် ၁၁၅၁-ခုနှစ်တပေါင်းလရောက်လျှင် ရခိုင်ဘုရားကြီးမဟာမြတ်မုနိ အရံပြာသာဒ်တော်တောင်မှ စူးစူးလေးပယ်စာခန့်သောမြေမျက်နှာတွင် တံတိုင်းနှစ်ထပ်ဖြင့်ခြံရံလျက် စမြင်မော်ယွန်းချိုးနှင့်တကွ ဘုံငါးဆင့်ရှိသော မှန်ကင်းရှစ်ဆူ၊ စိန်ဖူးစိန်ပွင့်တို့ဖြင့် အတုမရှိတင့်တယ်လှစွာသော ကျောင်းဦးပြာသာဒ် ဓမ္မပါသာဒဖြင့် တန်

ဆာဆင်အပ်သော ကျောင်းတော်ကြီးကို အရိုကမ္မည်း, အသောကာရာမကျောင်းတော်- ကမ္မည်း ရတနာဘုံကျော် မော်ကွန်းနှစ်ထပ်မှတ်တော်မူ၍ ယခင်ပဋ္ဌင်းငယ်အားတင်လှူတော်မူ၏၊ ''ဉာဏာဘိဝံသဓမ္မသေနာပတိမဟာ ဓမ္မရာဇာဓိ ရာဇဂုရု''တံဆိပ်နာမံလည်းပေးအပ်တော်မူသည်။

နောက်လည်းအလုပ်အဆောင် ကောင်းမွန်သေချာ ချောမောပြေပြစ် သိမ့်မွေ့ဆန်းကြယ်လှစွာ ရွှေမြို့တော်အတွင်း ဆင်ကြီးရွှေဂူသုဓမ္မာစရပ် ပိဋကတိုက်အနီးတွင် ဆောက်လုပ်သောစံကျောင်းတော်ကိုတင်လှူတော်မူ၏၊ယခင်တံဆိပ်နာမံကိုပင် ထပ်၍ပေးအပ်တော်မူပြန်သည်၊ ထိုနောက်လည်း အောင်မြေဘုံကျော် ကျောင်းတော်, မင်္ဂလာဝေယန်ကျောင်းတော်နှစ်ရပ်ကိုထပ်၍ တင်လှူတော်မူပြန်သည်၊ ဝန်ရှင်တော်အသည်ဝန်မင်းကြီးကဆောက်လုပ်သောအောင်ပင်လယ်တောရကျောင်းနှင့်သော် ကျောင်းတော်ငါးရပ်၌ အလဲအလှယ်နေထိုင်၍သာသနာရေးသာသနာမှုကိုပြုစုစီရင်၏၊ နေ့ဝါညဝါစာပေကျမ်းဂန်မလပ်ရအောင်မပြတ်ပို့ချ၏၊ ဥဘတောဝိဘင်းကို လေ့ကျက်ဆောင်ရွက်၏၊ ဧကောသနိက်ခုတင်[၁]အစဉ်ပင်ဆောက်တည်သတည်း။

သာသနာပြု ၁၂-ပါးခန့်၍ သာသနာပြုတော်မူခြင်းအကြောင်းပြီး၏။

---

## ၆၈—သာသနာပိုင်ဆရာတော်အဓိဋ္ဌာန်ချက်ပြုသည့်အကြောင်း

ထိုမှနောက် သက္ကရာဇ် ၁၁၅၀-ပြည့်၊ ရတနာဘုံကျော် ကျောင်းတော်ကြီးကို မတင်လှူမီတနှစ်တွင်''ဉာဏာဘိဝံသဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု'' ဆရာတော်ကို သာသနာပြုသာသနာပိုင် အပ်တော်မူပြန်၏၊ ယခင်ဆရာတော် ၁၂-ပါးတို့ပြုစုစီရင်သောအရာသည် ပုထုဇဉ်ဂတိအားဖြင့် တပါးပါးသို့လိုက်၍စီရင်ကြသောကြောင့် အလိုတော်ရှိတိုင်းမပြီးမပြေနိုင်ထင်မှတ်တော်မူ၍ အသီးအခြားတပါးတည်းသာအပ်တော်မူပြန်သည်၊ သာသနာပိုင်ဆရာတော်လည်း အပ်တော်

---

၁။ ဧကောသနိက်ခုတင်-တထပ်တည်းသာစားသောအကျင့်။

မှုသည့်နေ့ပင် သံဃာတော်များအလယ်တွင် ကျောင်းဦး ဘုရားရှေ့မှာ ဤသို့အမိန့်ဌာန်ပြုသည်။

"သာသနာရေးသာသနာမှုနှင့်စပ်သမျှကိုဆန္ဒာ,ဒေါသာ, ဘယာ, မောဟာ အဂတိလေးပါးမလားဘဲ တရားရှိရာ ရွက်ဆောင်မည်၊ အသက်ကိုသော်လည်းစွန့်မည်၊ တရားကိုမစွန့်ပြီး သာသနဒါယကာ တရားမင်းမြတ်က အမိန့်တော်အထူးပြန်သော်လည်း မှန်ရာကိုသာလိုက်မည်၊ တရားကိုစွန့်၍ မလိုက်ပြီ၊ မနာခံသော်ခပ်မဆိတ်သာနေမည်"။

ဤသို့အမိန့်ဌာန်ပြုပြီးလျှင် သာသနာရေး,သာသနာမှုကိုကောင်းစွာရွက်ဆောင်ပြုစုသတည်း၊ ယခုတိုင်ပင်အမိန့်ဌာန်စာလက်စွဲရှိသေး၏။

သာသနာပိုင်ဆရာတော်အမိန့်ဌာန်ပြုသည့်အကြောင်းပြီး၏။

---

## ၆၉—သာသနာပိုင်ဆရာတော်အနက်မြန်မာပြန်ဆို သောကျမ်းဂန်များ၏စာရင်း

ထိုသာသနာပိုင်ဆရာတော် ပြုစုစီရင်သောကျမ်းကား—

၁။ ပဉ္စင်းတဝါကသည် ငါးဝါတိုင်အောင် ယခုရှိသမျှ ပိဋကစာပေကျမ်းဂန်ကို အကုန်အစင်ကြည့်ရှုလေ့လာမည် ရည်မှတ်၍ နေတ္တိကျမ်းတွင်ပါသောဥဒါဟရဏ်ပါဠိကိုအခြေအစွဲပြုလျက် မှတ်သားကြည့်ရှု၏၊ ခြောက်ဝါရလျှင် ပေဋကာလင်္ကာရမည်သောနေတ္တိဋီကာသစ်ကိုပြု၏၊ ဋီကာဟောင်းငါးအင်္ဂါခန့်သာရှိ၍ ကျဉ်းလွန်းသည်၊ ထိုဋီကာဟောင်းထက် ကျယ်သောကြောင့် မဟာဋီကာ-ဟု ကမ္ပည်းတပ် မှတ်ခေါ်ဝေါ်ကြသည်။

၂။ ထိုနောက် အဝတ်အရုံကို ဆိုသော အရိယဝံသာလင်္ကာရကျမ်း,

၃။ သာရဇနဝိလာသိနီမည်သောသီလက္ခန်ဋီကာ,

၄။ အမိန့်တော်နှင့် စီရင်သော ပကိဏ္ဏကနိပါတ်ဇာတ်နိဿယ,

၅။ တေသကုဏဇာတ်နိဿယ,

၆။ စတုသာမဏေရဝတ္ထု,

၇။ ရာဇောဝါဒဝတ္ထု၊
၈။ တိဂုမ္ဘထောမနာ ဆဒ္ဒန်ဆင်မင်းဘွဲ့၊
၉။ ရာဇာဓိရာဇဝိလာသိနီကျမ်း၊ ဤသို့စသောကျမ်းဂန်များကိုပြုစုစီရင်၏။
၁၀။ မင်းတရားကြီးမေးတော်မူ၍ ဖြေသောစာအင်္ဂါ ၂၀-ကျော်လည်း အမေးတော်ဖြေ-ဟူ၍ရှိ၏။
၁၁။ နန်းတော်ထဲတွင် ပဥ္စလောဟာကြေးစင် တသောင်း, ၄ါး ထောင်ကျော်ကို စတုတ္ထ ရတနာပုရမြို့တည် မြေးတော်မင်းတရားကြီးသွန်းလုပ်တော်မူ၍ မဟာမြတ်မုနိဘုရား အနောက်ရှေ့နန်းတော်မှတောင် မူလအရပ်တွင် အုတ်ပြာသာဒ်နှင့်ထားသော မဟာသက္ကျသီဟရုပ်ပွားတော် အကြောင်းအရာကို အမိန့်တော်မြတ်နှင့် ပါဠိပါဌ်သားဘွဲ့စီသော မဟာသက္ကျသီဟသမိုင်းပါဌ်,အနက် ၃-အင်္ဂါကျော်လည်းအထင်အရှားရှိ၏။

သက္ကရာဇ် ၁၁၄၇-ခုနှစ် သာသနာပိုင် ဆရာတော်က ဝင်္ကတိုင်းနဝဒီပ,သိယ်ိုဠ်ကျွန်း သီဟဠဒီပများမှာ သာသနာရေး, လောကရေး စာပေကျမ်းဂန် အများရှိသည်ကို ဆောင်ယူ စေသင့်ကြောင်းနှင့် စာဆက်သွင်းသည့်အတိုင်း ရာပြတ်သိရီစန္ဒရတ်နှင့် ဇယနာရာမ, ပုသျှိရာမစသော ပြာဟ္မဏမျိုးပုဏ္ဏားတို့ကို သင်္ဘောနှင့်စေ၍ ၁၁၄၈-ခုနှစ် ဆောင်ယူဆက်သသည်၊ ထိုနောက် နဝဒီပ,သီဟဠဒီပအစရှိသော အရပ်များက ခုနစ်ကြိမ်တိုင်အောင်ဆောင်ယူဆက်သသည်၊ သဒ္ဒါကျမ်း, ဗျာကရိုဏ်းကျမ်း,ဓာတ်ကျမ်း, အလင်္ကာကျမ်း, ဆန်းကျမ်း, အဘိဓာန်ကျမ်း,ဗေဒင်ကျမ်း,ဆေးကျမ်း,ဓမ္မသတ်ကျမ်း, နီတိကျမ်း, ဇာတိဟာသကျမ်း၊အစုစုကျမ်းပေါင်း တဆဲ့တမျိုးစောင်ရေ- ၂၅၃၊ပါရင်း စက္ကူချပ်ရေ-၂၃၇၃၁၊ မြန်မာရေးပေအင်္ဂါရေ ၁၁၁၅-အင်္ဂါ, ၄-ချပ်၊ ၎င်းကျမ်းစုအနက် သာသနာပိုင်ဆရာတော် အနက်မြန်မာပြန်သည့် ကျမ်းပြီးစုစရင်းကား—

၁။ သာရဿတိဗျာကရိုဏ်းနိဿယ-၁၈-အင်္ဂါ, ၂-ချပ်။
၂။ ဗာလပဗောဓန နိဿယ-၁-အင်္ဂါ,၃-ချပ်။

၃။ အဘိဓာန်နိဿယ-၂၅-အင်္ဂါ,၁-ချပ်။
၄။ ကေက္ခရကောသနိဿယ-၉-ချပ်။
၅။ နာနတ္ထဝ္ဂနိနိဿယ-၁-အင်္ဂါ,၆-ချပ်။
၆။ ရာဇမတ္တဏ်နိဿယ-၃၂-အင်္ဂါ,၄-ချပ်။
၇။ ဖြို့ဟဇ်နိဿယ-၁၀-အင်္ဂါ,၁၀-ချပ်။
၈။ သရဒွေနိဿယ-၁၉-အင်္ဂါ,၆-ချပ်။
၉။ ဇာတိသုဇာတကနိဿယ-၁၀-ချပ်။
၁၀။ လဃုသံဂြဟနိဿယ-၉-အင်္ဂါ,၉-ချပ်။
၁၁။ သုပိနာဓျာယနိဿယ-၁-အင်္ဂါ,၁-ချပ်။
၁၂။ လက္ခဏာကျမ်းနိဿယ-၃-အင်္ဂါ,၄-ချပ်။
၁၃။ သူရိယသိဒ္ဓန္တနိဿယ-၁-အင်္ဂါ,၂-ချပ်။
၁၄။ ဘားသုတိနိဿယ-၁-အင်္ဂါ,၂-ချပ်။
၁၅။ ဘားသုတိစကားပြေ-၂-အင်္ဂါ,၈-ချပ်။
၁၆။ ဘားသုတိကိန်းဆန်-၃-အင်္ဂါ,၃-ချပ်။
၁၇။ ရာဇာဘိသေကကျမ်းနိဿယ-၂-အင်္ဂါ,၁-ချပ်။
၁၈။ ဒြဗျဂုဏ်နိဿယ-၉-အင်္ဂါ,၁-ချပ်။
၁၉။ သာရကောမုဒီနိဿယ-၁၇-အင်္ဂါ,၃-ချပ်။
၂၀။ ဩသဓရတနာကရနိဿယ-၃-အင်္ဂါ,၆-ချပ်။
၂၁။ သရရတုကထနနိဿယ-၁-အင်္ဂါ,၁-ချပ်။
၂၂။ ဓာတုပြသံသနိဿယ-ပုရပိုက် ၁၆-ဆူ ၂၁-အင်္ဂါခန့်။
၂၃။ ကာမရတနနိဿယ-ပုရပိုက် ၅-ဆူ ၇-အင်္ဂါခန့်။

ဤကျမ်းပေါင်း ၂၃၊ အင်္ဂါပေါင်း ၁၉၉-အင်္ဂါ၊ ၈-ချပ်ကို သာသနာပိုင်ဆရာတော် အနက်မြန်မာ ပြန်သည်၊ စာရင်း အကျယ်မှာ သင်္ကရိုင်ကျမ်းစုမော်ကွန်းတွင်ရှိလေပြီ။

သက္ကရာဇ် ၁၁၆၂-ခုနှစ်၊ သီဟိုဠ်ကျွန်းကဓာတ်တော်စစ် ဆယ်ဆူကို ပင့်ဆောင်၍ အမရပုရရွှေမြို့တော်သို့ ရောက်လာသော အမ္ဗဂဟတိဿ,မဟာဓမ္မ,ကောဋ္ဌဂေါဓ,ဗြဟ္မဏဝတ္တ,ဘောဂဟဝတ္တ,စါတုရဂမ္မမည်သောသာမဏေခြောက်ပါးတို့ကိုဆင်ကြီးရွှေဂူသိမ်တွင် ဉာဏာဘိဝံသ ဓမ္မသေနာပတိဆရာ တော်ကို ဥပဇ္ဈာယ်ပြုစေ၍ မြောက်နန်း

ကျောင်းဆရာတော်, ရွှေရေးဆောင် ကျောင်းဆရာတော်, ပြာသာဒ် ကျောင်းဆရာတော် စသော ဆရာတော် ၃-ပါးစီ ကမ္မဝါစာဆရာ လဲလှယ်ဘတ်ရွတ်စေ၍ ပဥ္စင်းခံစေတော်မူ၏၊ နာဒမည်သော လူဥပါ သကာကိုလည်း သာမဏေပြုစေတော်မူ၏၊ထိုမှနောက်အကြိမ်များစွာ သိင်္ဃိုဠ်ကျွန်းက လာရောက်သောရဟန်း ပဥ္စင်းတို့ကို သိက္ခာအသစ် ထပ်၍ တင်စေတော်မူ၏၊သာမဏေတို့ကိုလည်း ပဥ္စင်းခံစေတော်မူ၏၊ လူဥပါသကာတို့ကိုလည်း သာမဏေပြုစေတော်မူ၏၊ သိင်္ဃိုဠ်ကျွန်းသိရီ ဝဍ္ဍနမြို့ ရာဇာဓိရာဇ သီဟမင်းသို့လည်း သာသနာပြုနည်း သံစာနှင့် သိင်္ဃိုဠ်ရဟန်း,သာမဏေတို့ကို စေလွှတ်တော်မူ၏၊ ဤအကြောင်းအရာ များသည် သီဟိုဠ်သို့ပေးမှာသော''သန္ဒေသကထာစာများတွင် အထင် အရှားရှိလေပြီ။

သာသနာပိုင်ဆရာတော်အနက် မြန်မာပြန်ဆိုသောကျမ်းဂန်များစာရင်းပြီး၏။

---

## ၇၀-စူဠဂဏ္ဌိဟူသော ကျမ်းသည် မနိုင်မခံ့ကြောင်း

ထိုမှနောက် သက္ကရာဇ် ၁၁၄၆-ခုနှစ် ရောက်သောအခါ အ လောင်းမင်းတရားကြီးလက်ထက် ဆရာတော်ဖြစ်သော အတုလဆရာ တော်က စူဠဂဏ္ဌိတွင် သာမဏေတို့တင်သင့်ကြောင်း ပါသည်၊ ၎င်း ကျမ်းကိုလည်း သီဟိုဠ်ကျွန်း အနုရာဓမြို့တောင် ပေါက္ကန္တိဂါမရွာ၌ ရဟန္တာရှင်မောဂ္ဂလာန်ပြုသည်ဟူ၍မင်းတရားကြီးရွှေနားတော်ကြား စာဆက်သွင်းပြန်သည်တွင် အတုလဆရာတော်ကို စာမေးဆရာတော် တို့နှင့်ဆွေးနွေးပြောဟောကြစေ-အမိန့်တော်ပြန်၍ သုဓမ္မာစရပ်တော် တွင် မျက်နှာစုံညီဆွေးနွေးပြောဟောကြရ၏။

၁။ ထိုအခါ သာမဏေတို့ ဒုကုဋ်တင်၍ ရင်စည်းသင့်ကြောင်းကို ''စီဝရပဋလဥပရိသံဃာဋိကတွာဥရဗန္ဓနဝတ္တံဗန္ဓိတဗ္ဗံ''ဟုစူဠ ဂဏ္ဌိ၌လာသည်ဟူ၍ အတုလဆရာတော်က ပါဠ်ရွတ်၍ဆို၏၊ ထိုပါဠ်နှင့်အနက် အဓိပ္ပါယ်အထူးအခြား ကျမ်းများမှာ ရှိမရှိ ကိုဆရာတော်တို့ကမေးဆေးလျှင် အခြားကျမ်းများမှာမရှိပေ ဟု အတုလဆရာတော်ကဆို၏။

၂။ ၎င်းကျမ်းကို အဘယ်ဆရာပြုသနည်းဟု ဆရာတော်တို့က မေးဆေးလျှင် သီဟိုဠ်ကျွန်း အနုရာဓမြို့တောင် ပေါက္ကန္တိဂါမရွာ၌ ရဟန္တာရှင်မောဂ္ဂလာန်ပြုသောကျမ်းဟု သီဟိုဠ်ပါဠိပိဋကမှန်မှာရှိသည်ဟူ၍ အတုလဆရာတော်ကဆိုပြန်၏။

၃။ ပိဋကမှန်ကို ဘယ်ဆရာပြုသနည်း ဆရာတော်တို့က မေးဆေးပြန်လျှင် ရှင်ဗုဒ္ဓဃောသ သီဟိုဠ်ကကျမ်းဂန်များကိုယူခဲ့သည်တွင် သီဟိုဠ်ပါကျမ်းစာရင်းကို ရှင်ဗုဒ္ဓဃောသမှတ်သော မှန်စာဖြစ်သည်၊ ထိုပိဋကမှန်လည်း ငါ့လက်တွင်းပင် ရှိသည်ဟု အတုလဆရာတော်ကဆိုပြန်၏။

၄။ ဆိုချက်အတိုင်းလက်ရှိပိဋကမှန်ကိုတင်ပြစေဟု ဆရာတော်တို့ကဆိုပြန်လျှင် ဤကားလက်ရှိပိဋကမှန်ဟု အတုလဆရာတော်ကတင်ပြ၏။

၅။ ထိုပိဋကမှန်ကို ပရိသတ်ဘောင်တွင် ကြည့်ရှုကြသော် ဝိနယဂဏ္ဍိပုဒ်ကို သီဟိုဠ်ပရက္ကမဗာဟု မင်းလက်ထက် ရှင်မောဂ္ဂလာန်ပြုသည်ဟူ၍သာ ပိဋကမှန်တွင်လာရှိသည်၊ ဂူဠဂဏ္ဍိကို သီဟိုဠ်ကျွန်း အနုရာဓမြို့တောင် ပေါက္ကန္တိဂါမရွာ၌ ရဟန္တာရှင်မောဂ္ဂလာန်ပြုသည်ဟူ၍ အတုလဆရာတော်ဆိုတိုင်းမလာမရှိ၊ထိုသို့ပိဋကမှန်တွင် မလာမရှိဘဲလျက် အဘယ့်ကြောင့်ရှိသည်ဆိုလေသနည်းဟု ဆရာတော်တို့က မေးဆေးပြန်လျှင် ခိုးထုပ်နှင့်ခိုးသူကို ဘမ်းမိသကဲ့သို့ မုသာထုပ်နှင့် မုသာသည်အဓမ္မဝါဒီကိုဘမ်းမိ၍ပြေလည်အောင်မဆိုနိုင်ရှိလေပြီ။

၆။ ဂူဠဂဏ္ဍိသည်ဋီကာကြီး ၃-စောင်တွင်ဆောင်သော ဂူဠဂဏ္ဍိပင်လောဟု မေးဆေးလျှင်မှန်၏ဟု ဆိုသည်။

၇။ ထိုသို့လျက် ယခုဆိုသောဂူဠဂဏ္ဍိတွင် ဝဇိရဗုဒ္ဓိဋီကာယံ၊ သာရတ္ထဒီပနီယံ၊ဝိမတိဝိနောဒနီယံ-ဟူ၍ ဘယ့်ကြောင့်ဋီကာကြီး ၃-စောင်ကိုမဆောင်လေသနည်းဟု မေးဆေးပြန်လျှင် ခိုးသူကိုခိုးဆဲတွင်ဥသျှောင်၌ကြပ်ကြပ်ကိုင်မိသကဲ့သို့ အဓမ္မဝါဒီကိုအဓမ္မပြောဆိုဆဲတွင် မိမိခိုမှီရာကျမ်း၌ ကြပ်ကြပ်ကိုင်မိ၍မဆိုနိုင်ရှိလေသည်။

ဂ။ စူဠဂဏ္ဍိတွင်ပင် ပရိမဏ္ဍလ,သုပ္ပဋိစ္ဆန္န ဖြစ်အောင်ဝတ်ရုံခြင်းကို လည်းဆိုသည်၊ လက်ကန်တော့ ဒုကုဋ်တင်,ရင်စည်း၍ ဝတ်ရုံခြင်း ကိုလည်းဆိုသည်၊ ဘယ့်ကြောင့် ရှေ့နောက်မညီဆိုလေသနည်း-ဟုမေးဆေးပြန်လျှင် အတင်ဝါဒ၌မှီခိုရာပါဠိ, အဋ္ဌကထာ,ဋီကာမရှိ၍ ခိုမှီပါသောစူဠဂဏ္ဍိပင် ရှေ့နောက်မညီ ဖြစ်လေပြန်ရကား ခိုမှီရာမှဘေးဖြစ်ခဲ့၍ ခိုးသူကိုပုန်းအောင်းရာနှင့်တကွ ဘမ်းမိလေသကဲ့သို့ အစမ္မဝါဒီကိုခိုမှီရာနှင့် တကွ ဘမ်းမိ၍ မဆိုနိုင်ရှိလေပြီ။

ဤသို့ ၃-ကြိမ်တိုင်အောင် မဆိုနိုင်ရှိကြောင်းကို လက်နက်စကြာသခင်ဆင်ဖြူများရှင်ဘဝရှင်မင်းတရားကြီးသိတော်မူ၍ အတင်ဆရာတို့ မှီခိုရာဖြစ်သော စူဠဂဏ္ဍိကျမ်း မခိုင်မခံ့သောအဖြစ်ကိုသိတော်မူသည်၊ အကုန်အစင် မေးဆေးစိစစ်၍ သာသနာတော်ကို သုတ်သင်ပြုစုရပေသည်-ဟူ၍လည်း ဝမ်းမြောက်ဝမ်းသာရှိတော်မူသည်။

[အရုံအတင် ပြောဆိုကြသောစကားမှာ စာတမ်းရှိလေပြီ။]

စူဠဂဏ္ဍိကျမ်းမခိုင်ခံ့ကြောင်းပြီး၏။

---

## ၇၁-ဥကင်သအမိပ္ပါယ်ကို အကျယ်ပြဆိုကြောင်း

သက္ကရာဇ် ၁၁၇၁-ခုနှစ် နယုန်လပြည့်နေ့တွင် ဘုန်းတော်ကြီးလှသောမြေးတော်အိမ်ရှေ့မင်းဘုရားသည် ဘိုးတော်မင်းတရားကြီးဘုရား နန်းညွန့်နန်းဆက် ထားတော်မူခဲ့သည့်အတိုင်း မဟာဒေဝအစရှိသော ရှစ်သောင်း,လေးထောင်သော မင်းတို့၌ ဘုန်းတည်မင်္ဂလာ,နန်းတက်မင်္ဂလာ တခါတရက်တချက်တည်းပြုသောစကြာမင်းတို့ထုံးစံနှင့်အညီ-

"သမ္ဘာရာသီးလုံးကြီးလှညီစွာ ရွေး၍လာသည်၊ကြင်ရာငါတို့တစုပေ၊ အရင်းမသီးအဖျားသီးသည်၊တွဲရရွဲစားမည်သူလည်း ဖျင်းမျှတကား စားလည်းမကုန်ပြီ"-

သိုက်,နိမိတ်,ဗျာဒိတ်ရှိသည့်အတိုင်း မိမိလာမင်းဆက်တွင် မဟာစိုးမင်းနေမိမင်းကဲ့သို့ အရိမဒ္ဒနာမင်းဆက်တွင် သမုဒ္ဒရာဇ်, နော်ရထာ, ကျစွာမင်းကဲ့သို့ မင်းရိုးစဉ်ဆက် ဆင်းသက်ဖြစ်ထွန်းတော်မူ၍ အမရ

ပုရမဟာရာဇဌာနီမင်းနေပြည်ကြီး၌ ရွှေထီးရွှေနန်းသိမ်းမြန်းစမ္ပယ်တော်မူ၍၊သိရီဓမ္မာသောကမင်းကြီးသည် ခမည်းတော်ဗိန္ဒုသာရမင်း၏ အရိုက်အရာပါဠိလိပုတ်ပြည်၌ မင်းအဖြစ်သို့ ရောက်သော်လည်း ရောက်ထည့်ခြင်း ဘိသိက်မခံဦးဘဲလေးနှစ်တိုင်အောင် ပြည်ရေးရွာမှုရှင်းလင်းပြုစုပြီးမှ ဘိသိက်ခံသည်ဟု ကျမ်းဂန်လာသည်နှင့်အညီ ရွှေတောင်ရွှေနန်းသိမ်းမြန်းစမ္ပယ်တော်မူသော်လည်းသိမ်းမြန်းထည့်ခြင်း ဘိသိက်မခံဦးဘဲ ၃-နှစ်ကျော်,၄-နှစ်တိုင်အောင် သာသနာရေး,ပြည်ရေးရွာမှုရှင်းလင်းပြုစုပြီးမှ ၂—ကြိမ်တိုင်အောင်ဘိသိက်ခံတော်မူသောဘိုးတော်မင်းတရားကြီးဘုရား၏ ထုံးစံသို့လိုက်တော်မူ၍ဘိသိက်မခံဦးဘဲ ဥကင်သာဘွင့်တော်မူ၏။

၁။ သုရူစိဇာတ်တွင် သုမေဓာမိဖုရားနှင့် သုရူစိမင်းအတူတကွ ဥကင်သာဘွင့်ကြောင်း။

၂။ ဥဒယဘဒ္ဒ ဇာတ်တွင် ဥဒယဘဒ္ဒါမိဘုရားနှင့် ဥဒယမင်းအတူတကွဥကင်သာဘွင့်ကြောင်း။

၃။ သမ္ဗုလဇာတ်တွင် သမ္ဗုလမိဖုရားနှင့် သောတ္ထိသေနမင်းအတူတကွ ဥကင်သာဘွင့်ကြောင်း။

၄။ ဗုဒ္ဓဝင် အပါဒါန်များတွင် ယသောဓရာ မိဖုရားနှင့် သိဒ္ဓတ္ထမင်း အတူတကွ ဥကင်သာဘွင့်ကြောင်း—

များကို ကျမ်းဂန်ဆိုသည့် ထုံးစံနှင့်အညီ၊ အနှစ်တထောင်တိုင်မှ တကြိမ်သာသီးပွင့်သောအာသာဝတီနတ်ပန်းကဲ့သို့မြတ်နိုးဘွယ်ရှိသော သဒ္ဓါ,ပညာ,ဟိရီ,ဩတ္တပ္ပအစရှိသော မိန်းမမြတ်တို့၏ဘွယ်ရာတောင်ညာတင်အပ်သော လက္ခဏာ အပေါင်းနှင့်ပြည့်စုံသောအသမ္ဘိန္နခတ္တိယန္ဒယ်ဖြစ်သော တောင်နန်းမရှင် အရှင်မိဖုရားခေါင်ကြီးနှင့် တကွ ကောင်းမြတ်သော မင်္ဂလာအခါတွင် ရာဇပလ္လင်ထိုင်ထီးဆောင်းမင်္ဂလာမဟာဥကင်သ ဘွင့်တော်မူ၍ လေးနှစ်ကျော်ပတ်လုံး သာသနာရေး,ပြည်ရေးရွာမှုရှင်းလင်းပြုစုတော်မူ၏။

ကလ-ဝိလေခနေ-ဟု ကဏ္ဍဇပထမက္ခရာကနှင့် ခတ်နက် ပြ၍ "ဂုဏာတိသယဝသေန၊ ဂုဏ်ကျေးဇူးကဲလွန်သော အစွမ်းအာနုတော်

အားဖြင့်၊ ဥက္ကံသော၊ ဥကင်သမည်ကြောင်းကို၊ ဝုတ္တော၊ ဆိုအပ်၏'' ဟု လာသော အဘိဓာန်ဋီကာနှင့်အညီ ဘုန်းတော်အတိုင်းမသိ ကြီး မြတ်တော်မူလျက် သက်တော်ရာကျော် ရှည်တော်မူ၍ သာသနာတော် မြတ်စီးပွား, ကိုယ်တော်မြတ်စီးပွား, သားတော်အစဉ် မြေးတော်အ ဆက် မြစ်တော်အဆွန့် အဆွန့်ရှည်စွာ ပြည်သူလူသတ္တဝါအပေါင်းတို့ စီးပွားများအောင် ရွက်ဆောင်တော်မူနိုင်သဖြင့် ထူးမြတ်ကဲလွန်သော ဂုဏ်ကျေးဇူးအပေါင်းနှင့် မချွတ်မလွဲစင်စစ် ပြည့်စုံတော် မူအံ့သော အကြောင်းဖြစ်၍ ''မဂဓအလို ဥက္ကံသ-မြန်မာအလို ဥကင်သ'' မည် သည်-ဟု မှတ်လေ။

ဥကင်သအမိပ္ပါယ်ကိုအကျယ်ပြဆိုကြောင်းပြီး၏။

---

## ၇၂-သတိုးမင်းဖျားအိပ်မက်ကိုပတူးကြီးသဃ် ရာဇာဘတ်ဆိုကြောင်း

သက္ကရာဇ် ၁၁၈၃-ခုနှစ် ပဌမ ဝါဆိုလပြည့်ကျော် ၄-ရက်၊ ဗုဒ္ဓဟူးနေ့နံက် တချက်တီးကျော် ၁၂-နာရီ၊ ကြာသပတေးတြင်း၊ သောကြာနဝင်း၊ နက္ခတ် ၁၂-လုံး၊ ၃-ပတ်တွင် ရတနာပုရ ရွှေဝမြို့ ကြီးကိုစ၍ ထပ်မံတည်ထောင်တော်မူပြန်၏၊တည်ထောင်တော်မူသော အကြောင်းကား-သက္ကရာဇ် ၇၂၆-ခုနှစ် ကဆုန်လပြည့်တွင်စစ်ကိုင်း ပျက်သည်၊ နယုန်လတွင် ပင်းယပျက်သည်၊ တပေါင်းလတွင် အဝမြို့ကြီး ကို သတိုးမင်းဖျားတည်စမူသည်၊ ထိုရောအခါ ''မြို့တည်ရာအရပ်တွင် လက်ပံပင်ကြီး တပင်ပေါက်ရောက်သည်ကို အမြစ်ဖျား၌ နဂါးစောင့် သည်''ဟူ၍ သတိုးမင်းဖျား အိမ်မက်မြင်သည်တွင်—

၁။ လက်ပံပင်ကြီးပေါက်ရောက်သည်အလိုကား—

၁။ ဤပြည်သည် ၃-နှစ်တကြိမ် ထူးလွန်၍ သာယာစည်ပင်မည်၊ သုဉ်းဖျင်းသည်ပင်မရှိနိုင်။

၂။ အမြစ်ဖျားကို နဂါးစောင့်သည် အလိုကား-စနေနံ မင်းလက် ထက် ပြောင်းမှ ဤပြည်လဲသုဉ်းဖျင်းမည်၊တပါးနံမင်းတို့လက် ထက် ပြောင်းလဲသော် မသုဉ်းဖျင်းနိုင်ဟူ၍ ပတူးကြီးသဃ်

ရာဇာအကျော် အိပ်မက်ဘတ်လေသည်ကို ထောက်ထားဆင်ခြင်သော် စနေနံမင်းလက်ထက် ဤပြည်ကပြောင်းလဲဘူးသည်မရှိသေးဖြစ်၍ ဇောင်ကြီး, တောင်ငယ်, မြစ်ကြီး,မြစ်ငယ် ရစ်ဝိုက် ယှက်ဆုံရာမင်းဝံထိပ်စွန်း သန်လျက်ကျွန်းဝယ်တည်သောရတနာပုရရွှေဝပြည်ကြီးသည် မသုဉ်းမဖျင်းသေး၊ ကြိတစိန္တာမဏိစသော ကျမ်း၌ လာသော မြို့နန်းတည်ရာမြေကြန် ၁၆-ပါးတွင် ခြသေ့် သဏ္ဍာန် မြေကြန်လက္ခဏာရှိသော ဘူမိနက်သန်[၁]တက်ထွန်းရာ အရပ်ထူးအရပ်မြတ်ဖြစ်သည်။

''ပူးမင်းလူ့ဆွေ၊ တောင်ရိုးနေသည်၊ ရွှေမြေမင်းဝံအကြီးသော'' ဟူ၍၎င်း၊ ''ထိုသို့သောအခါ၊ မင်းဝံချာ၌၊ ရတနာမိုယ်း၊ ဖြိုးဖြိုးအလို့ရွာလတံ့'' ဟူ၍၎င်း ပူးနံမင်းတရားသည် မင်းဝံအချက်အချာ ရတနာပုရရွှေဝမြို့ကြီး၌ စံနေတော်မူမည့် အကြောင်းကို သိုက်စာ ထွက်ရှိသဖြင့် ''လေးငါးကြိမ်မြဲ သဲသဲထင်ပေါ် နတ်တို့ဖော်၍ ကျော်သည်တသဲသဲ'' ဟူ၍ ရတနာပုရ ရွှေဝမြို့ကြီးသည် မြို့သက်မသုဉ်းသေး၊ ငါးကြိမ်တိုင်အောင်ထပ်၍ တည်ထောင်မည့်အကြောင်းကိုလည်း သိုက်စာထွက်ရှိသည်။

''သွားတော့မည်လေ၊ နေလို့ဖြစ်ဘူး၊ ရွှေဟင်္သာဖိုမက၊ သာလှအောင်ကျူး'' အစရှိသည်ဖြင့် ပြောင်းသွားသင့်ကြောင်းကို ဆိုသောစနည်းတပေါ်င်လည်း အများရှိသည်။

ရာမညတိုင်း ကျောက်ဖျာမြို့ရာကို ဝါရိယူမင်းချင်းနင်းသည့်ကာလကျားကိုဘမ်းမိသည်တွင် ရန်သူတို့ကို အောင်မြင်မည်ဟုပညာရှိတို့နိမိတ်ဘတ်ဆိုကြသည့်အတိုင်း မှန်ကြောင်းကို မွန်ရာဇဝင် ရှိသည်နှင့်အညီ ရွှေမြို့တော်ရာ ချင်းနင်းသော အခါ ကျားဆရာကြောင်ကို ဘမ်းမိသည့်အရာလည်း ကျားနှင့်အတူဖြစ်သည်၊ ရန်မာန်ခပ်သိမ်းကင်းငြိမ်းတော်မူလျက် စံနေတော်မူရမည့် နိမိတ်ဩဘာဖြစ်သည်။

ပတူးကြီးသင်္ဃရာဇာ အိပ်မက်ဘတ်ဆိုကြောင်း ပြီး၏။

---

။၁ ဘူမိနက်သန်-ဘေးရန်ခပ်သိမ်းငြိမ်းရာဌာန။

## ၇၃=ရတနာပူရရွှေဝမြို့ကြီးကို ထပ်မံတည်ထောင် ပြန်၍ရာဇာဘိသိက်ခံခြင်းအကြောင်း

၁၁၇၁-ခုနှစ်တွင်ပါပခေတ် ၁၆-နှစ်ဆန်းသည်ဖြစ်၍ သောကြာ၏ ကသစ်အိမ်, တြိဂုဏ်းအိမ်ဖြစ်ရကား ဘေးလောင်းတော် မင်းကြီးစွာ စောကဲ,မင်းခေါင်ကြီးတို့ ရွှေဘုံရွှေနန်းတက်စံတော်မူသောအခါကဲ့သို့ ဘုန်းကြက်သရေတော် ပွားများရာသောခေတ်ပန်း ကိန်းခန်းသင့်မြတ် သည်၊ ၁၂၀-နှောကိန်းစုက်ကောလီတွင် ၆-နှစ်ဆန်းရကား–

"ကောလိစုက္ကတေ၊ ကောလီစုက် ဆန်းသော။ ကာလေ၊ အခါ၌။ဗဟုပညော၊များစွာပညာရှိသော။ ရာဇာ၊ မင်းတရား သည်။ ဘဝိဿတိ၊ ဖြစ်လတ့်"–

ဟူ၍ စုက်အဟောရှိသည်၊ကောလီစုက်ဆန်းကြိုက်ကောလီတွင်ပင် ရာဇဝင်ကြီး ၁၃-နှစ်ဆန်းသည်ဖြစ်၍စုက်ဆန်း,ရာဇဝင်ဆန်း ၂-ချက် ပြိုင်ဆိုင်မိသဖြင့် မဟာရာဇဝင်အခြေအမြစ် ဆင်းသက်ပွားများမည်ဟု စာဆိုရှိသည်၊ဤသို့ဆိုခဲ့ပြီးသောအိပ်မက်,သိုက်ထွက်,စနည်း,တပေါင်, နိမိတ်, ခေတ်ဆန်း,စုက်ဆန်း,ရာဇဝင်ဆန်းအကြောင်းခုနစ်ပါးကိုဆင် ခြင်ထောက်ထား၍ သာသနာရေး,ပြည်ရေးရွာမှု စီရင်ပြုစုအံ့သောငှာ ရတနာပူရရွှေဝမြို့ကြီးကို မြို့၏အစာ ၄-ပါး,အင်္ဂါငါးပါး,တန်ဆာ-၇ ပါး စသောအဆောက်အဦအလုံးစုံနှင့်တကွ ထပ်မံတည်ထောင်တော် မူပြန်သည်။

ရွှေမြို့ရွှေနန်းတည်ထောင်တော်မူပြီးနောက်သက္ကရာဇ် ၁၁၇၅-ခု၊ တပေါင်းလပြည့်ကျော် ၁-ရက်တနင်းလာနေ့နံနက် တချက်တီးကျော် ၆-နာရီ ဥတ္တရာဖရဂုဏ္ဏီ နက္ခတ်အကြိုက်တွင် ကမ္ဘာဦး မဟာသမ္မတ မင်းကစ၍ မင်းအဆက်ဆက် ဘိသိက်ခံမြဲထုံးစံ ရှိသည်နှင့်အညီ ပိဋက ကျမ်း,သင်္ကရိုဋ် ရာဇာဘိသေကကျမ်းအစဉ် စာတမ်း ထုံးစံရှိသည့် အတိုင်းနဝဒဏ္ဍာ,မနော်ဟရစသော ထီးဖြူကနက္ကဒဏ်, တမွတ်စသော ထီးဖြူရှစ်စင်းနှင့်တကွသိရီဓမ္မာသောက,ဒေဝါနံပိယတိဿမင်းတို့လက် ထက် ခင်းကျင်းမြဲ မင်းမြောက်တန်ဆာငါးပါးစသော မင်းခမ်းအကုန် အစင်ခင်းကျင်းလျက် လက်ျာရစ် ခရုသင်းသုံးလုံးဖြင့် အမျိုး ၃-ဦးတို့ ရွတ်ဆိုမြဲကျမ်းဂန်ပါဠိပါဌ်သားနှင့် အနက်မြန်မာ စကားကို ရွတ်ဆို

ကုန်သဖြင့် ဦးထိပ်တည့်တည့်၌ ခရုသင်းကို မတ်မတ်စိုက်၍ ရေစင်သွန်းသော မုဒ္ဓါဘိသိက်ကို ရေသဖန်း မဏ္ဍပ်အတွင်း ရေသဖန်းကြာ့အင်းပျဉ်ထက် ထက်ဝယ်နေတော်မူလျက် အရှင်မိဖုရားခေါင်ကြီးနှင့်တကွရာဇာဘိသေကခံတော်မူသည်၊ ဘိသိက်ခံတော်မူပြီးသည့်အဆုံး၌လည်း အရှင်ဘဝရှင်မင်းတရားကြီးဘုရားမှာ "သိရိတြိဘဝနာဒိတျပဝရပဏ္ဍိတ မဟာဓမ္မရာဇာဓိရာဇာ"၊ အရှင်မိဘုရား ခေါင်ကြီးမှာ "သိရိပဝရမဟာ မင်္ဂလာရာဇိန္ဒာရတနာဒေဝီ" တံဆိပ်နာမံ ခံတော်မူသည်၊ ဘိသိက်ခံတော်မူပြီးနောက် ရွှေဘုံရွှေနန်း သိမ်းမြန်းတော်မူပြီးလျှင်—

၁။ သိရိပဝေသနာ မဟာဥကင်သဖွင့်တော်မူသောပွဲ,

၂။ မြဲတိုက်တော်သိမ်းပွဲ,

၃။ ရွှေလှွတ်တော်သိမ်းပွဲ,

၄။ ရွှေမြို့တော်ကြီးသိမ်းပွဲ,

၅။ သာသနာတော်ရေးလက်ဦးမဆွ ပိဋကတော် ၃-ပုံစု၍ ပေထက်တင်ပွဲ,

ဤသို့သော ပွဲစဉ်အတိုင်းရွှေနန်းတော်ကတေဇအရပ်မာရ်အောင်ရတနာ ပိဋကတိုက်ရွှေတွင် တန်ဆောင်း ၃-ထပ် ဆောက်လုပ်၍ ၁၁၈၅-ခု၊တန်ခူးလပြည့်ကျော် ၁-ရက်၊အင်္ဂါနေ့တွင် သဘင်တော်စုံနှင့်စ၍ ပိဋက ၃-ပုံကိုရွှေရေး, မင်ရေး,ကညစ်ရေး အက္ခရာ ၃-ပါးဖြင့် ထိုတန်ဆောင်းတွင် ပိဋကရေးလူ ၄၀-ယောက်တို့ရေးသားရ၏၊ ရက်လည်မှ ပိဋကတိုက်တော်မှာ အမြဲရေးသားရသည်။

ရွှေဝမြို့ကိုထပ်မံတည်ထောင်၍ ရာဇာဘိသေကခံခြင်းအကြောင်းပြီး၏။

---

## ၇၄-စာပေကျမ်းဂန်ကျွန်၍ သတ္တိ,ဗျတ္တိရှိသော ဆရာတော်များကိုကျောင်းတင် အပ်လှူတော်မူကြောင်း

မုဒ္ဓါဘိသိက်ခံတော် မမူမီကပင် ပါဠိ, အဋ္ဌကထာ, ဋီကာကျမ်းဂန်ကျွန်၍ သတ္တိဗျတ္တိ ရှိသောဆရာတော် သံဃာတော်တို့ကို ရွေးချယ်စီစစ်၍ တံဆိပ်မှန်ကင်းနှင့် ချီးမြှင့်တော်မူ၏။

၁။ ဘိုးတော်ဘုရား လက်ထက် မင်းကွန်း စန္ဒာမုနိဘုရား တန်ဆောင်းတော်တွင် မှူးတော် မတ်တော်,မင်းညီမင်းသားအစုံအညီ ဘိုးတော်မင်းတရားကြီး ရွေတော်ဝယ် ဥဘတော ဝိဘင်းကျမ်းကို ဆောင်နိုင်,မဆောင်နိုင်၊ စမ်းတော်မူသည် ကာလ သဇိုးလက်ဝဲရွာဇာတိ ရှင်သီလာစာရမထေရ်သည် ဥဘတော ဝိဘင်းကျမ်းကို နှုတ်တက်အာဂုံ ဝါစုဂ္ဂတ ရွရွပါအောင် မလိပ်မလည်း ပြန်နိုင်ပေသည်။

မင်းတရားကြီးလည်း အားရနှစ်သက်တော်မူ၍ မြေးတော်အိမ်ရှေ့မင်းအား ကိုးကွယ်စိမ့်မည် ပေးအပ်တော်မူသည်၊ ထိုကာလ ထိုဆရာတော်ရဟန်းဝါ ၁၃-ဝါခန့်သာရသည်၊ထိုတွင်စ၍ကျော်စောထင်ရှားစွာဖြစ်သည်၊ မန်လည်သာသနာပြုဆရာတော်ကြီးတပည့် အနွယ်အဆက်ဖြစ်၍ ပါဠိ,အဋ္ဌကထာ, ဋီကာကျမ်းဂန်ကျန်၏၊ ဝိနည်းကိုသာ၍ လေ့လာ၏၊ အရည်ကင်မှတင်တောရဆောက်တည် အားကြီး၏၊ မင်းကွန်းတွင် ပြာသာဒ် ဥမင်နှင့်တကွ တောရကျောင်းတော် ဆောက်၍ ထိုဆရာတော်အားတင်လှူတော်မူ၏၊''သီလာစာရသဒ္ဓမ္မာဘိဇမဟာဓမ္မရာဇာဓိရာဇဂုရု''တံဆိပ်နာမံလည်းပေးအပ်တော်မူသည်၊တောနေဆရာသံဃာတို့အဓိပတိ သာသနာပြုသာသနာပိုင်လည်း ခန့်ထားတော်မူသည်။

၂။ သက္ကရာဇ် ၁၁၇၁-ခု၊ရွှေထီးရွှေနန်းသိမ်းမြန်းတော်မူသည့်နှစ် စလင်းမြို့ဇာတိ ရှင်ပညာသီဟ မထေရ်သည် ပါဠိ, အဋ္ဌကထာ, ဋီကာကျမ်းဂန်ကျန် နှံ့စပ်သည်၊ သတ္တိဗျတ္တိ ရှိလှသည်-ဟု ကျော်စောသောကြောင့် အကြေစလင်းမြို့ကသည် အညာအမရပုရရွှေပြည်တော်ကြီးသို့ ပင့်ဆောင်တော်မူ၍ ရခိုင်ဘုရားကြီး မဟာမြတ်မုနိ ပြာသာဒ်တော်မှတောင်စူးစူးအသောကာရာမတိုက် ရတနာဘုံကျော် ကျောင်းကြီးကိုတင်လှူတော်မူ၏၊''မုနိန္ဒာဘိသိရီသဒ္ဓမ္မဇမဟာဓမ္မရာဇာဓိရာဇဂုရု''တံဆိပ်နာမံလည်းပေးအပ်တော်မူသည်။

ရတနာပုရရွှေဝမြို့ကြီးသို့ ပြောင်းစံတော်မူသည်တွင်လည်း မြို့တွင်းရွှေစည်းခုံဘုရား အရှေ့မြောက်ဝယ် အတုမရှိ ပြေပြစ် ချောမောကောင်းမွန်လှစွာသော စံကျောင်းတော်ဆောက်လုပ်၍ မဟာအောင်

မြေဘုံသာကမ္ဗည်းတပ်မှတ်လျက်တင်လှူတော်မူသည်၊မုနိန္ဒာဘိဝံသဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်နာမံလည်း ပေးအပ်တော်မူသည်၊ နိုင်ငံတော်အတွင်း အကြေအညာသာသနာပြု သာသနာပိုင်လည်း ခန့်ထားတော်မူသည်။

၃။ ဗဒုံမြို့ကျေးညောင်ကန်ရွာဇာတိ ရှင်ပုညရံသီမထေရ်ကိုလည်း ပါဠိ, အဋ္ဌကထာ, ဋီကာကျမ်းဂန်ကျနစ္စ် သတ္တိဗျတ္တိ ရှိသည်၊ ဉာဏ်ပညာထက်သန်လှသည်-ဟုကျော်စောထင်ရှားလှသောကြောင့် အမရပုရ ရွှေမြို့တော်ကြီးသို့ ပင့်ဆောင်တော်မူ၍ နန်းမတော်အရှင်မိဖုရားကြီးတိုက် အောင်မြေဘုံကျော် ကျောင်းတော်ကို တင်လှူတော်မူ၍၊ "ပုညာဘိသိရီသဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်နာမံလည်း ပေးအပ်တော်မူသည်၊ ရတနာပုရ ရွှေဝမြို့ကြီးသို့ ပြောင်းစံတော်မူသည်တွင်လည်း မြို့တွင်းရွှေစေတီတိုက်တွင် အရှင်မိဖုရား ခေါင်ကြီးက ပြာသာဒ်နှင့်တကွ အုတ်ကျောင်းကြီး ဆောက်လုပ်၍ မဟာအောင်မြေဘုံစံကမ္ဗည်းတပ်မှတ်လျက် တင်လှူတော်မူ၍၊ လောကဓမ္မမေးမြန်းရန်ရှိလျှင်လည်း ရွှေနန်းတော်သို့ပင့်၍ မေးမြန်းတော်မူသည်။

ဤသို့အစရှိသဖြင့် သတ္တိဗျတ္တိရှိသောသီလဝန်,ဂုဏဝန် ပုဂ္ဂိုလ်များကို တံဆိပ်မှန်ကင်း ပေးအပ်ချီးမြှင့်တော်မူသည်ကား အရာမကများပြားလှ၏၊ မင်း,မိဖုရား,မင်းသမီး,မင်းသား, မှူးတော်,မတ်တော်များလည်း အသီးအသီးဆရာအပ်၍ကိုးကွယ်ရ၏။

သက္ကရာဇ် ၁၁၇၁-ခုနှစ်၊အမရပုရ ရွှေဝမြို့တော်ကြီးဝယ် စမွယ်တော်မူခိုက် ရွှေနန်းတော်က တေဇအာရပ် ခမည်းတော်ဘုရား, မယ်တော်ဘုရားတို့ကောင်းမှုတော် မဂ်လာဝေယန် ကျောင်းတော်ရာတွင် စည်းခုံတော်ကြီး တည်ထားတော်မူ၍၊ မဟာဝိဇယရံသီကမ္ဗည်း မော်ကွန်း တပ်တော်မူ၍၊ သာသနာငါးထောင် တိုင်အောင် ထာဝရဖြစ်စိမ့်သောငှါ ဝတ်မိုးဝတ်မြေလည်း အများလှူဒါန်းတော်မူသည်။

ဆရာတော်များကို ကျောင်းတင်အပ်လှူတော်မူကြောင်း ပြီး၏။

## ၇၅-မဟာသက္ကရာဇ်ကမ္ဘည်းတပ်သောကြေးရုပ်တု သွန်းလုပ်တော်မူခြင်းအကြောင်း

သက္ကရာဇ် ၁၁၀၀-ခုနှစ် တပေါင်းလပြည့်ကျော် ၃-ရက်နေ့တွင် ကြေးနီ, သံ, သလွဲ, ကြေးစင်ပိဿာတသောင်းငါးထောင်၊ ငွေသပြာ တသောင်း၊ ရွှေသပြာတထောင်၊ ဤပဉ္စလောဟာကို ဖိုကျင်ငါရာဖြင့် အရှင်မိဖုရားခေါင်ကြီးနှင့်တကွ အရှင်မင်းတရားကြီး ကိုယ်တိုင်တော် ကြပ်မ၍ အရည်ကျိုစေပြီးလျှင် အနန္တစကြာဝဠာ၌ အနန္တသတ္တဝါ အပေါင်း၏ အသီးအသီးတရာစီသော ကုသိုလ်ကောင်းမှုထက် အဆ တရာစီ သာလွန်သော ကုသိုလ်ကောင်းမှုတော်ကြောင့်ဖြစ်သော လက္ခ ဏာတော်ကြီးငယ်ဖြင့် တင့်တယ်သော သက်တော်ထင်ရှား ဘုရားကိုယ် တော်မြတ်အတုကိုပီပြင်စွာအတုပြုလုပ်ခြင်းငှါ သိကြား,ဗြဟ္မာပင်သော် လည်း မတတ်စွမ်းနိုင်ရာ၊ ကိုယ်တော်မြတ် ပမာဏအားဖြင့် တူကာ မျှကိုသာပြုနိုင်အံ့-ဟု ဆင်ခြင်တော်မူ၍—

၁။ အတိုင်းတော်အမြင့် ပမာဏကိုးတောင်, နှစ်မိုက်,

၂။ ထက်ဝယ်တော်အချင်း ပမာဏ ခုနစ်တောင်, တမိုက်, လေးသစ်,

၃။ စမ္ပခက်နေရာတော်အချင်းရှစ်တောင်,တမိုက်, လေးသစ်,

၄။ အမြင့်နှစ်မိုက်,

၅။ ကိုယ်တော်လုံးပတ် ခုနစ်တောင်,တမိုက်,လေးသစ်,

၆။ မောင်းတော်လုံးပတ်သုံးတောင်,နှစ်မိုက်,လေးသစ်,

ဤသို့အနာဂတဝင် အဋ္ဌကထာတွင်အရိမေတ္တေယျဘုရားရှင်အတိုင်း ပမာဏတော်ကိုဆိုသောစကားအရကိုနည်းနာမှီလျက်သွန်းလုပ်တော် မူသည့်နေ့ကစ၍ပြီးပြေသည့်တိုင်အောင်သုံးရက်ပတ်လုံး ကောင်းကင်မှ မြေသို့လျှောကျအံ့သကဲ့သို့ မိုယ်းကြီးသည်းစွာ အုံ့မှိုင်းခြင်း, တိမ်လွှာ အထပ်ထပ်တက်ခြင်း,မုန်တိုင်းလေပြင်း ကင်းခြင်း, လေညှင်းလေပြေ လာခြင်း, ကြာရွက်ကြာချပ်ခန့်မျှတက်၍ ရွာသော စွတ်လိုသသူသာ စွတ်၍ မစွတ်လိုသသူမစွတ်ရသော ပေါက္ခရဝဿမိုယ်းတဖွဲဖွဲရွာခြင်း, ပြည်သူ ပြည်သားသတ္တဝါများ ရွှင်လန်းချမ်းသာခြင်း, နတ်လူတို့

ကောင်းချီးပေးသော အသံ-ခရုသင်းသံ-စည်သံ-မြေ ကြီးလျှင် ဗွဲ့တင် ရိုက်ကြည်းသောအသံဖြင့် တခဲနက်အုတ်အုတ်ကျက်ကျက်ရှိခြင်း၊ ဤသို့ သော အံ့ဘွယ်သရဲများထင်ရှားစွာဖြစ်၏။

သွန်းလုပ်တော်မူပြီးလျှင် မဟာသကျသီဟာကမ္ဗည်းမော်ကွန်း တပ် မှတ်တော်မူ၍ ရွှေနန်းတော်က မူလအရပ် မဟာမြတ်မုနိ စေတီအ နောက် လေးထပ်ကြီးကျောင်းရာတွင် ပန်းရန်တမော့အကျော်တို့ကို အ တုမရှိဆန်းကြယ်စွာလုပ်ဆောင်စေသော ကျောက်ပလ္လင်ထက် အုတ် ပြာသာဒ်ဖြင့်ပူဇော်ကိုးကွယ်တော်မူ၏။

မဟာသကျသီဟာဘုရား သွန်းလုပ်တော်မူကြောင်းပြီး၏။

---

## ၇၆-ရတနာဆယ်ပါးအဝင်ဖြစ်သောကျောက် သလင်းတော်ကြီးကိုစစ်အင်္ဂါလေးပါးနှင့် ယူဆောင်ကြောင်း

သက္ကရာဇ် ၁၁၉၂-ခုနှစ်ကဆုန်လတွင် ရောဝတီမြစ် အရှေ့ဘက် စကျင်တောင်ဝယ် အထု,အထ,အထည်,အရပ်, အပြင်ကြီးမား ခိုင်ခံ့ ချောမောစင်ကြယ်လှစွာသော ကျောက်ကြီး ပေါ်ထွန်းရှိသည်ကို စစ် အင်္ဂါ ၄-ပါးနှင့် တကွ ကိုယ်တိုင်တော်ဆောင်ယူတော်မူသည်။

၁။ မုတ္တာ-ပုလဲ,
၂။ မဏိ-ပတ္တမြား,
၃။ ဝေဠုရိယော-ကျောက်မျက်ရွဲ,
၄။ သင်္ခေါ-ခရုသင်း,
၅။ သိလာ-ကျောက်သလင်း,
၆။ ပဝါဠံ-သန္တာ,
၇။ ရဇတံ-ငွေ,
၈။ ဇာတရူပံ-ရွှေ,
၉။ လောဟိတင်္ကော-ပတ္တမြားနီ,
၁၀။ မသာရဂလ္လံ-ပတ္တမြားပြောက်–

ဟူ၍ စူဠဝါပါဠိတော်တွင်လာသောရတနာဆယ်ပါးတွင် ကျောက် သလင်းလည်း ရတနာအဝင် အပါဖြစ်သည်။

"ဘုရားရုပ်ဆင်း၊ ကျောက်သလင်းနှင့်၊ ထည့်သွင်းကြိတ်ရွေ၊ ရှင်တော်မွေ" ဟူ၍ ရှေးသူဟောင်းတို့ ဆိုသောကြောင့် စကျင်ကျောက်ဖြူလည်း ကျောက်သလင်းဖြစ်သည်၊ အခြားတိုင်းပြည်များမှာရခဲစွာလျက် ဤတိုင်းပြည်တွင်သာ အများရှိသည်၊ စတုရန်းနံတော်လည်း ကြိုက်သည်၊ ရွှေမြို့တော်သို့ဆောင်ယူပြီးလျှင် ရွှေနန်းတော်က တေဇာအရပ်တွင် တန်ဆောင်းနှင့်ထား၍ ကောင်းမွန်စွာတမေ့ ကျောက်ဆစ်လက်သမားကျော်တို့ကို ထုလုပ်စေတော်မူသည်။

ဝါဦးစာပြန်, ဝါကျွတ်မြင်းမိုရ်, ဆီမီးတန်ဆောင်, ကထိန်သင်္ကန်း စသောအားဖြင့် လစဉ်သာသနာတော်ရေးကို ကိုယ်တိုင်ကိုယ်ကြပ် မပြတ်ရွက်ဆောင်တော်မူ၏၊ အဝမင်းအဆက်ဆက်တည်ထားမြဲ မာရ်အောင်ရတနာဘုရားအရှေ့တောင်တွင် မဟာရတနာပုံ ပိဋကတိုက် တည်ထားတော်မူ၍ ပိဋကရေးတို့ကို မပြတ်ရေးသားတော်မူ၏၊ စာကြည့်,စာတည်း, ပိဋကမ ဆရာတော်တို့ကိုလည်း အမြဲကြည့်ရှုတည်း ပြင်ရစေတော်မူသည်။

ကျောက်သလင်းတော်ကြီးကိုစစ်အင်္ဂါ ၄-ပါးနှင့်ယူဆောင်ကြောင်းပြီး၏။

---

## ၇၇—သွားတော်-၄၀,စွယ်တော် ၄-ချောင်း အသုံးအဖြတ်အကြောင်း

ထိုရောအခါ သွားတော်-၄၀,စွယ်တော် ၄-ချောင်း ဆိုသောစကားသည် အခြားစီပင်ဖြစ်မည်၊ စွယ်တော် ၄-ချောင်းသည် သွားတော် ၄၀-အဝင်အပါဖြစ်မည်၊ ဆရာတော်များကို မေးမြန်းတော်မူသည်။

၁။ အချို့ဆရာတော်တို့က အခြားစီပင်ဖြစ်သည်ဟုဆိုကုန်သည်။

၂။ အချို့ဆရာတော်တို့ကလည်း စွယ်တော်သည်သွားတော်အဝင်အပါဖြစ်သည်ဟု ဆိုကုန်သည်။

ဆရာတော်များ စကားမညီမညွတ်ရှိသည်တွင် ရဟန်းလူထွက် အသက် ၇၀-နှစ်ရွယ် မင်းတိုင်ပင်အမတ်ကို မေးတော်မူ၍ အခြားဖြစ်သည်ဆိုသောစကားသည် ကျမ်းဂန်အထောက်အထားမရှိ၊ သဘော

သကန်မမိပေ၊ အဝင်အပါဖြစ်သည် ဆိုသောစကားသာ ကျမ်းဂန် အထောက်အထားရှိသည်၊ သဘောသကန်မိပေသည်-ဟူ၍မဟာဝါအဋ္ဌကထာ, ဝိသုဒ္ဓိမဂ်အဋ္ဌကထာ စသည်များကိုဆောင်၍ တင်လျှောက်သည်။

အညေသံ ပရိပုဏ္ဏဒန္တာနံပိ ဒွတ္တိံသဒန္တာ ဟောန္တိ၊ ဣမဿ ပန စတ္တာလီသံ ဘဝိဿန္တိ။

**အနက်ကား။** အညေသံ၊တပါးကုန်သော။ပရိပုဏ္ဏဒန္တာနံပိ၊ပြည့်စုံသော သွားရှိကုန်သောသူတို့အားလည်း။ ဒွတ္တိံသဒန္တာ၊ ၃၂-ချောင်းသောသွားတို့သည်။ ဟောန္တိ၊ ဖြစ်ကုန်၏။ ဣမဿပန၊ ဤဘုရားလောင်းအားကား။ စတ္တာလီသံ၊၄၀-သောသွားတို့သည်။ ဘဝိဿန္တိ၊ ဖြစ်ကုန်လတ့်—

ဟူ၍သူတပါးတို့မှာသွားအပြည့်အစုံပင်ရှိသော်လည်း ၃၂-ချောင်းသာ၊ ဘုရားလောင်းမှာကား သွားတော် ၄၀-ဟု စွယ်တော် ၄-ချောင်းကိုသွားတော် ၄၀-အဝင်အပါပြု၍ သုတ်မဟာဝါ အဋ္ဌကထာ, သုတ်ပါထေယျအဋ္ဌကထာများတွင်ဆိုသည်။

ဒန္တာတိ ပရိပုဏ္ဏဒန္တဿ ဒွတ္တိံသဒန္တဋ္ဌိကာနိ၊တေပိ ဝဏ္ဏတော သေတာ၊ သဏ္ဌာနတော အနေကသဏ္ဌာနာ၊ တေသဉ္စိ ဟေဋ္ဌိမာယ တာဝ ဒန္တပါဠိယာ မဇ္ဈေ စတ္တာရော ဒန္တာ မတ္တိကာပိဏ္ဍေ ပဋိပါတိယာ ဌပိတအလာဗုဗီဇသဏ္ဌာနာ၊ တေသံ ဥဘောသု ပဿေသု ဧကေကော ဧကမူလကော ဧကကောဋိကော မလ္လိကမကုဠ သဏ္ဌာနော၊တတော ဧကေကော ဒွိမူလကော ဒွိကောဋိကော ယာနကဥပတ္ထမ္ဘိနိ သဏ္ဌာနော၊ တတောဒွေဒွေ တိမူလကာ တိကောဋိကာ၊ တတော ဒွေဒွေ စတုမူလကာ စတုကောဋိကာတိ၊ ဥပရိမပါဠိယာပိ ဧသေဝ နယော။

**အနက်ကား။** ဒန္တာတိ၊သွားမည်ကုန်သည်ကား။ပရိပုဏ္ဏဒန္တဿ၊ ပြည့်စုံသောသွားရှိသောသူအား။ ဒွတ္တိံသဒန္တဋ္ဌိကာနိ၊ ၃၂-ချောင်းသောသွားရိုးတို့တည်း။ တေပိ၊ ထိုသွားရိုးတို့သည်လည်း။ ဝဏ္ဏတော၊

အဆင်းအားဖြင့်။သေတာ၊ဖြူကုန်၏။သဏ္ဌာနတော၊သဏ္ဌာန်အားဖြင့်။ အနေကသဏ္ဌာနာ၊ များသောသဏ္ဌာန်ရှိကုန်၏။ဟိ၊သင့်စွ။ တေသံ၊ ထို-သွားတို့တွင်။တာဝ၊ရှေးဦးစွာ။ဟေဋ္ဌိမာယဒန္တပါဠိယာ၊အောက်သွားအစဉ်၌။မဇ္ဈေစတ္တာရောဒန္တာ၊အလယ်သွား ၄-ချောင်းတို့သည်။ မတ္တိကာပိဏ္ဍေ၊ မြေစိုင်ခဲ၌။ ပဋိပါတိယာ၊ အစဉ်အားဖြင့်။ ဌပိတအလာဗုဗီဇသဏ္ဌာနာ၊ ထားသောအိမ်ဘူးစေ့သဏ္ဌာန်ရှိကုန်၏။

[အောက်သွား ၁၆-ချောင်းတွင် အလယ်သွား ၄-ချောင်းကိုဆိုသည်။]

တေသံ၊ ထိုအလယ်သွား ၄-ချောင်းတို့၏။ ဥဘောသုပဿေသု၊နံပါး ၂-ဘက်တို့၌။ဧကေကော၊ တချောင်းတချောင်းစီသည်။ ဧကမူလကော၊တခုသောအမြစ်ရှိ၏။ ဧကကောဋိကော၊တခုသောအစွန်းလည်းရှိ၏။ မလ္လိကမကုဠသဏ္ဌာနော၊ကြက်ရိုးပန်းငုံ သဏ္ဌာန်ရှိ၏။

[အလယ်သွားလေးချောင်းမှ ပြင်က တဘက်တချောင်းစီရောက်သော အစွယ်နှစ်ချောင်းကိုဆိုသည်။]

တတော၊ ထိုအစွယ်နှစ်ချောင်းမှ။ ပရံ၊ ပြင်ဘက်၌။ ဧကေကော၊ တချောင်းတချောင်းသောသွားသည်။ ဒွိမူလကော၊ နှစ်ခုသောအမြစ်ရှိ၏။ ဒွိကောဋိကော၊ ၂-ခုသောအစွန်းလည်းရှိ၏။ ယာနကဥပတ္ထမ္ဘိနိသဏ္ဌာနော၊လှည်းဦး၌ ထောက်သောလှည်းထောက်သဏ္ဌာန်ရှိ၏။

[အစွယ်မှ ပြင်က တဘက်တချောင်းစီထောက်သောစွယ်ရံ၂-ချောင်းကိုဆိုသည်။]

တတော၊ထိုစွယ်ရံမှ။ပရံ၊ပြင်ဘက်၌။ဒွေဒွေ၊၂-ချောင်း ၂-ချောင်းသောသွားတို့သည်။ တိမူလကာ၊ ၃-ခုသောအမြစ်ရှိကုန်၏။ တိကောဋိကာ၊၃-ခုသော အစွန်းလည်းရှိကုန်၏။

[စွယ်ရံပြင်က တဘက် ၂-ချောင်းစီရောက်သော အံလယ် ၄-ချောင်းကိုဆိုသည်။]

တတော၊ထိုအံလယ်၄-ချောင်းမှ။ပရံ၊ပြင်ဘက်၌။ဒွေဒွေ၊၂-ချောင်း ၂-ချောင်းသောသွားတို့သည်။ စတုမူလကာ၊ ၄-ခုသောအမြစ်ရှိကုန်၏။ စတုကောဋိကာ၊၄-ခုသော အစွန်းလည်းရှိကုန်၏။

[အံလယ်၄-ချောင်းမှ ပြင်ကတဘက်၂-ချောင်းစီရောက်သော အံဆုံး ၄-ချောင်းကိုဆိုသည်။]

ဣတိ၊ ဤသို့။ ဟေဋ္ဌိမပါဠိယာ၊ အောက်သွားအစဉ်၌။ ဟောတိ၊ ဖြစ်၏။ ဥပရိမပါဠိယာပိ၊ အထက်သွားအစဉ်၌လည်း။ သေဝနယော၊ ဤအောက်သွားအစဉ်နှင့် အတူပင်လျှင်တည်း။

ဤသို့ အထက်သွားအစဉ်၌အလယ်သွား ၄-ချောင်း၊ ထိုမှပြင်က တဘက်တချောင်းစီအစွယ် ၂-ချောင်း၊ထိုမှပြင်က တဘက်တချောင်းစီ စွယ်ရံ ၂-ချောင်း၊ထိုမှပြင်ကတဘက် ၂-ချောင်းစီ အံလယ် ၄-ချောင်း၊ ထိုမှ ပြင်ကတဘက် ၂-ချောင်းစီ အံဆုံး ၄-ချောင်းအားဖြင့် အောက်သွားတဆယ့်ခြောက်ချောင်း၊ ဤနည်းအတူ အထက်သွားလည်း ၁၆-ချောင်းရှိရကား ပြည့်စုံသောသွားရှိသူအား အစွယ်ပါသွား ၃၂-ချောင်းရှိကြောင်းကိုအမည်အမှတ်နှင့်ရေတွက်၍ ဝိသုဒ္ဓိမဂ်အဋ္ဌကထာ စသည်၌ ဆိုသည်ကိုထောက်သဖြင့် မြတ်စွာဘုရားမှာလည်းစွယ်တော် ၄-ချောင်းပါ သွားတော် ၄၀-ရှိကြောင်းကိုသိသာသည်၊ ထို့ကြောင့် အခြားသူတို့မှာ သွား ၃၂-ချောင်းရှိသည်၊ မြတ်စွာဘုရားမှာ သွားတော် ၄၀-ရှိသည်ဟူ၍ အခြားသူတို့သွားကို ပမာပြုသဖြင့် မဟာဝါ အဋ္ဌကထာစသည်၌ ဆိုလေသည်။

> တဿ ကိရ ဥတ္တရောဋ္ဌအပ္ပကတာယ တိရိယံ ဖာလေတွာ အပနီတဒ္ဓံဝိယ ခါယတိ၊စတ္တာရော ဒန္တေ ဒွေ စ ဒါဌာ နဆာဒေတိ၊ တေန ဩဋ္ဌဒ္ဓေါတိဝေါဟရန္တိ။

### အနက်ကား

တဿ၊ ထိုမဟာလိစ္ဆဝီမင်းသားအား။ ဥတ္တရောဋ္ဌအပ္ပကတာယ၊ အထက်နှုတ်ခမ်းနည်းသောအဖြစ်ကြောင့်။တိရိယံ၊ဘီလာ။ ဖာလေတွာ၊ ဆုတ်၍။ အပနီတဒ္ဓံဝိယ၊ အထက်နှုတ်ခမ်းတဝက်ကိုပယ်ဘိသကဲ့သို့။ခါယတိ၊ထင်၏။စတ္တာရောဒန္တေစ၊ အထက်အလယ်သွား ၄-ချောင်းတို့ကို၎င်း။ ဒွေစဒါဌာ၊ အထက်အစွယ် ၂-ချောင်းတို့ကို၎င်း။ နဆာဒေတိ၊ အထက်နှုတ်ခမ်းတဝက်ဖြင့် မဖုံးမိ။ တေန၊ ထိုသို့ အလယ်သွား ၄-ချောင်း,အစွယ် ၂-ချောင်းတို့ကို အထက်နှုတ်ခမ်းဖြင့် မဖုံးမိသောကြောင့်။နံ၊ထိုမဟာလိစ္ဆဝီမင်းသားကို။ ဩဋ္ဌဒ္ဓေါတိ၊ အထက်နှုတ်ခမ်းတဝက်သာရှိသူဟူ၍။ ဝေါဟရန္တိ၊ ခေါ်ဝေါ်ကုန်၏။

ဤသို့ မဟာလိစ္ဆဝီမင်းသားအား အထက်နှုတ်ခမ်းတဝက်ခန့်တို၍ အလယ်သွား ၄-ချောင်းနှင့်ပြင်တဘက်တချောင်းစီအစွယ် ၂-ချောင်းကို အထက်နှုတ်ခမ်းဖြင့် မဖုံးမိကြောင်းကို သီလက္ခန် ဋီကာဟောင်း၌ ဆိုသောကြောင့် အလယ်သွား ၄-ချောင်းမှ တဘက်တချောင်းစီကို အစွယ်-ဟူ၍ ခေါ်ဝေါ်ကြောင်းကို သိရသည်။

သာဓုဇနဝိလာသိနီမည်သော သီလက္ခန်ဋီကာသစ်၌လည်း ဓမ္မပါလဆရာစီရင်သော ယခင်သီလက္ခန်ဋီကာဟောင်းကိုမှီ၍—

တဿ ကိရ ဥတ္တရောဋ္ဌဿ အပ္ပကတာယ တိရိယံ ဖာလေတွာ အပနီတဒ္ဓဝိယ ခါယတိ၊ စတ္တာရော ဒန္တေ ဒွေစ ဒါဠာ န ဆာဒေတိ၊ တေန ဩဋ္ဌဒ္ဓေါတိ ဝေါဟရန္တိ။

ဟုဋီကာဟောင်း ပါဠ်ကို သုတ်သင်ကာမျှသာ အနက်အဓိပ္ပါယ်နည်းတူဖွင့်သည်၊ ဒန္တသဒ္ဒါကား-အစွယ်ပါ, သွားပါ ၃၂-ချောင်း၊ သွားတော် ၄၀-များကို ဟောကြောင်း၊ ဒါဠာ သဒ္ဒါကား-အစွယ်လေးချောင်းကိုသာ ဟောကြောင်းကို အဘိဓာန် စာကိုယ်, ဋီကာ၌ ဆိုသည်။

၁။ ဒွိဇော-အောက်အထက် ၂-ဌာန၌ရင်း ၂-ကြိမ်လဲ၍ရင်း ဖြစ်တတ်သောသွား,
၂။ လပနဇော-ခံတွင်း၌ ဖြစ်တတ်သောသွား,
၃။ ဒန္တော-အစာကို ခဲတတ်ဖောက်ခွဲတတ်သောသွား,
၄။ ဒသနော-အစာကိုစားတတ်ချေတတ်သောသွား,
၅။ ရဒနော-အစာကိုချစ်တတ်ချုပ်တတ်သောသွား,
၆။ ရဒေါ-အစာကိုထုတ်တတ်ချေတတ်သောသွား,

[ဤကား သွားဟူသမျှ အမည်သဒ္ဒါ ၆-ပါးတည်း။]

ဒါဠာတု၊ ဒါဠာသဒ္ဒါကား၊ ဒန္တဘေဒသ္မိံ၊ အစွယ်-ဟူသော သွားအထူး၌၊ ပဝတ္တတိ၊ ဖြစ်၏-ဟူ၍ အဘိဓာန်၌ဆိုသောကြောင့် အစွယ်လည်းသွားပင်၊ သွားတွင်သွားထူးသာဖြစ်သည်ကို သိရသည်။

ဒံသတေ ဘက္ခမနေနာတိ ဒါဠာ။

[အစွယ်ဟောဝိဂ္ဂြိုဟ်။]

အနေနှ၊ ဤသွားအထူးဖြင့်။ ဘက္ခံ၊စားဘွယ်ကို။ ဒံသတော၊စားတတ်၏။ ဣတိ-တသ္မာ၊ ထိုသို့စားဘွယ်ကိုစားကြောင်းဖြစ်သောသတ္တိကြောင့်။ သော၊ ထိုသွားအထူးသည်။ ဒါဌာ၊ ဒါဌာ မည်၏။ အယံ၊ ဤဒါဌာ သဒ္ဒါကား။ ဣတ္ထိလိင်ေ၊ဣတ္ထိလိင်အမြဲတည်း။ ဒံသဓာတုတော၊ဒံသ-ဓာတ်နောင်မှ။ ဌော၊ ဌပစ္စည်းသက်။ ဒံသဿစ၊ ဒံသဓာတ်ကိုလည်း။ ဒါ၊ ဒါပြု။ ဒါဌာ၊ဒါဌာ-ဟု ရုပ်ပြီး၏။ အယံ၊ ဤဒါဌာသဒ္ဒါသည်။ မုဒ္ဓဇဒုတိယော၊ မုဒ္ဓဇဒုတိယက္ခရာဌတည်း၊ ဌဝမ်းဘဲနှင့် ရေး-ဟု ဋီကာ၌ဆိုသည်။

[ဤသို့ အဘိဓာန်စာကိုယ်,ဋီကာများ၌ ဆိုသည်ကို ထောက်၍ ဒန္တရှိလျှင် အစွယ်ပါသွားအားလုံး၊ ဒါဌာရှိလျှင် အစွယ်-ဟူသော သွားအထူး ဟူ၍ အရာတိုင်းမှာအနက်ပြန်လေ။]

သွားတော်-၄၀, စွယ်တော် ၄-ချောင်း စကားသည် ကျမ်းတတ်ဆရာများပင် မညီမညွတ် အယူဝါဒကွဲပြားကြသည်ဖြစ်၍ စွယ်တော်ပါသွားတော် ၄၀-သာဖြစ်ကြောင်းကိုသိသာခြားနားထင်ရှားအောင် အထူးထူး အပြားပြားကျမ်းဂန်များက အကျဉ်းအမြွက်မျှ ထုတ်နုတ်ရေးသား၍ မင်းတိုင်ပင်အမတ်သံတော်ဦးတင်သည်။

သွားတော်-၄၀, စွယ်တော် ၄-ချောင်းအဆုံးအဖြတ်အကြောင်းပြီး၏။

---

## ၇၈-ဝတ်မိုးဝတ်မြေအာရာမ် သံဃိကနှင့်စပ် လျဉ်းသောအမေးတော် ၅-ချက်၏ အဖြေစကား အကြောင်း

### ပဌမအမေးအဖြေ

ရွှေးမင်းတို့လက်ထက် လှူဒါန်းခဲ့သော ကျောင်းဘုရား ဝတ်မိုးဝတ်မြေသည် မပျက်မစီး အစဉ်ပင် တည်မည်, မတည်မည်ကို စတုတ္ထရတနာပုရမြို့တည်နန်းတည် ဆဒ္ဒန်ဆင်မင်းသခင် ဆင်ဖြူများအရှင် မင်းတရားကြီးသည် သာသနာပိုင် ဆရာတော်မှစ၍ ဆရာတော်တို့အား အမေးတော် ၅-ချက်ဖြင့် မေးတော်မူသည်၊ အမိန့်တော်အရ မပျက်မစီး အစဉ်ပင် တည်သင့်ကြောင်းကို အညီအညွတ်စာဆက်သွင်းကြ

၏၊ ရဟန်းလူထွက် အသက် ၇၀-နှစ်ရွယ်မင်းတိုင်ပင်အမတ်ကိုလည်း မေးတော်မူ၍ အမေးတော် ၅-ချက်ကို အစဉ်အတိုင်း ဖြေလျှောက်ရ ၏၊ အမေး,အဖြေစကားစဉ်ကား-အမေးတော် ၅-ချက်တွင်—

၁။ "တမင်းလက်ထက် ကျောင်း,ဘုရားဝတ်မိုးဝတ်မြေဖြစ်စေ-ရည် မှတ်၍ ရေစက်သွန်းချ လှူဒါန်းသည်၊ ထိုမင်းမရှိလျှင် ထိုမင်း နောက် ဖြစ်သော သူတို့လက်ထက်ရောက်သည့်ကာလ အထက်လှူခဲ့ပြီးသော ကျောင်း,ဘုရား ဝတ်မိုး, ဝတ်မြေသည် လှူခဲ့ရင်းအတိုင်း ဝတ်မိုး, ဝတ်မြေဖြစ်မည်လော"-ဟူသော ပဌမအမေးတော်၌—

**အဖြေကား။** သံဃိကာယ၊ သံဃာအားလှူသော၊ ဘူမိယာ၊ မြေ၌။ ပုဂ္ဂလိကာနိ၊ ပုဂ္ဂိုလ်၏ ဥစ္စာဖြစ်ကုန်သော။ ဗီဇာနိ၊ မျိုးစေ့တို့ကို ။ရောပယန္တိ၊စိုက်ပျိုးကုန်သည်ဖြစ်အံ့။ ဘာ ဂံ၊ အဘို့ကို။ ဒတွာ၊ ပေး၍။ ပရိဘုဉ္ဇိတဗ္ဗာနိ၊ဘုဉ်းပေး သုံးဆောင်အပ်ကုန်၏-ဟူ၍ရင်း, ဒသကောဋ္ဌာသေ၊ ဆယ်ဘို့တို့ကို။ ကတွာ၊ ပြု၍။ ဧကော ကောဋ္ဌာသော၊ တဘို့ကို။ ဘူမိသာမိကာနံ၊ မြေရှင်တို့အား။ ဒါတဗ္ဗော ပေးအပ်၏-ဟူ၍ရင်း,

သံဃာအားအပိုင်လှူသော သံဃိကမြေရှိကြောင်း၊ ထိုမြေ၌စိုက်ပျိုး သော် ဆယ်ဘို့တဘို့ အခွန်ပေးသင့်ကြောင်းကို ဝိနည်းပါဠိ,အဋ္ဌက ထာလာရှိသည်နှင့်အညီ ရှေးမင်းလှူဒါန်းခဲ့သော ကျောင်းဝတ်မိုးဝတ် မြေသည် နောက်မင်းလက်ထက်လည်း လှူခဲ့ရင်းအတိုင်းပင် ဝတ်မိုးဝတ် မြေဖြစ်ပါသည်။

ဝိနည်းပါဠိတော်, အဋ္ဌကထာတွင် သံဃာအားလှူသောမြေဟူ၍ ရင်း,မြေရှင်ဟူ၍ရင်းဆိုလာသောကြောင့် လာဘသိမ်မှာကဲ့သို့အပေါ် ရံအခွန်အတုတ်ကိုသာမလှူ၊ မြေနှင့်တကွအပိုင်လှူသည်ဖြစ်၍ ကျောင်း ဝတ်မိုး ဝတ်မြေအစဉ်အဆက်မပျက်တည်ကြောင်းကို သိရပါသည်။

စေတိယေ၊ စေတီ၌။ ပဒီပတ္ထာယ၀ါ၊ ဆီမီးအကျိုးငှာရင်း။ ပဋိသင်္ခရဏတ္ထာယ၀ါ၊ ပြင်ဆင်ခြင်းအကျိုးငှါရင်း။ ဒိန္နအာရာ မေ၀ါပိ၊ လှူသောအာရာမ်ကိုလည်း။ ဇဂ္ဂိတဗ္ဗော၊စောင့်ရှောက်

အပ်၏။ ဝေတနံ၊ ရိက္ခာကို။ ဒတွာပိ၊ ပေး၍လည်း။ ဇဂ္ဂါပေတဗ္ဗော၊ စောင့်ရှောက်စေအပ်၏-ဟူ၍၎င်း, စေတိယေ၊ စေတီ၌။ ဆတ္တံဝါ၊ ထီးကို၎င်း။ ဝေဒိကံဝါ၊ ပွတ်တိုင်ကို၎င်း။ဇိဏ္ဏံဝါ၊ ဟောင်းနွမ်းဆွေးမြေ့သည်ကို၎င်း။ ပဋိသင်္ခရောန္တေန၊ ပြင်ဆင်သသူသည်။ သုဓာကမ္မာဒီနိဝါ၊ အင်္ဂတေမှုစသည်တို့ကိုမူလည်း။ကရောန္တေန၊ပြုသောသူသည်။ စေတိယဿ၊ စေတီ၏။ ဥပနိက္ခေပတော၊ အခွန်ဘဏ္ဍာဥစ္စာဖြင့်။ ကာရေတဗ္ဗံ၊ ပြုစေအပ်၏ဟူ၍၎င်း,

စေတီအားလှူသောအာရာမ်ကို စောင့်ရှောက်အပ်, စောင့်ရှောက်စေအပ်ကြောင်း၊ စေတီ၏ဥစ္စာဖြင့် စေတီ၌ပြင်ဆင်အပ်ကြောင်း၊ အင်္ဂတေမှုစသည်ပြုအပ်ကြောင်းများကို ဝိနည်းအဋ္ဌကထာ၌ လာသည်နှင့်အညီ၊ ရှေးမင်းတို့ အပိုင်လှူဒါန်းခဲ့သော ဘုရားဝတ်မိုးဝတ်မြေသည် နောက်မင်းလက်ထက်လည်း လှူခဲ့ရင်းအတိုင်းပင် ဘုရားဝတ်မိုးဝတ်မြေဖြစ်ပါသည်။

ဤအဋ္ဌကထာတွင် စေတီ၌ ပြင်ဆင်ခြင်းငှါလှူသည်-ဟူ၍၎င်း, စေတီ၏အခွန်ဘဏ္ဍာဥစ္စာဖြင့် အင်္ဂတေမှုစသည်ကိုပြုအပ်သည်-ဟူ၍၎င်း ဆိုသောကြောင့် အစဉ်အဆက်မပျက်မစီး ဘုရားဝတ်မိုး ဝတ်မြေပင်ဖြစ်ကြောင်းကို သိရပါသည်။

[ဤကားပဌမအမေးအဖြေတည်း။]

**ဒုတိယအမေးအဖြေ**

၂။ "သို့မဟုတ် ထင်ရှားရှိစဉ်မင်းလက်ထက်သာ ဝတ်မိုးဝတ်မြေ၌ နောက်မင်းလက်ထက်ဝတ်မိုးဝတ်မြေမဖြစ်၊ ပျက်မည်လော" ဟူသော ဒုတိယအမေးတော်၌–

**အဖြေကား။** ပဋိဂ္ဂဟကေသု၊ အလှူခံရင်း ကျောင်းသံဃာတို့သည်၊ မတေသု၊ သေလွန်ကုန်သော်။ တဒညော၊ ထိုသံဃာမှတပါးသော။ စတုဒ္ဒိသသံဃောစ၊ အရပ်လေးမျက်နှာမှ လာသော သံဃာသည်၎င်း။ အနာဂတသံဃောစ၊

မလာသေးသောသံဃာသည်ငှင်း။ ဝုဿရော၊ အစိုးရ၏။ တဿ၊ ထိုအရပ်လေးမျက်နှာမှလာသော သံဃာ၊ မလာသေးသောသံဃာ၏။ သန္တကော၊ ဥစ္စာဖြစ်၏။ တေန၊ ထိုအရပ်လေးမျက်နှာမှလာသောသံဃာ၊မလာသေးသောသံဃာသည်။ဝိစာရေတဗ္ဗော၊ စီရင်အပ်၏-

ဟူ၍ဝိနည်းဋီကာ၌လာသောကြောင့် လှူရင်းမင်းထင်ရှားရှိသည်ဖြစ်စေ၊မရှိသည်ဖြစ်စေအလှူခံရင်းသံဃာရှိလျှင် ၎င်းအလှူခံရင်းသံဃာသာပိုင်ဆိုင်သည်၊ အလှူခံရင်းသံဃာမရှိလျှင် အရပ် ၄-မျက်နှာမှလာသောသံဃာ၊မလာသေးသော သံဃာပိုင်ဆိုင်သည်ဖြစ်၍ လှူရင်းမင်းထင်ရှားရှိသည်၊မရှိသည်- အရာပမာဏမဟုတ်၊ နောက်မင်းတို့ လက်ထက်တိုင်အောင်ပင် ဝတ်မိုးဝတ်မြေမပျက်ဖြစ်ပါသည်။

ဤဝိနည်း ဋီကာတွင် ခံရင်းသံဃာမရှိသေလွန်သော်လည်း အရပ်လေးမျက်နှာမှ လာပြီး၊ လာဆဲ သံဃာသာပိုင်ဆိုင်သည်၊ထိုသံဃာတို့ဥစ္စာဖြစ်သည်-ဆိုသောကြောင့် သံဃာစဉ်ဆက် မပျက်မပြတ်သမျှကာလပတ်လုံး ဝတ်မိုး ဝတ်မြေ မပျက်တည်ကြောင်းကိုသိရပါသည်။

[ဤကား ဒုတိယအမေးအဖြေတည်း။]

**တတိယအမေးအဖြေ**

၃။ "တဦးမင်းလက်ထက် လှူခဲ့သည့် ဝတ်မိုးဝတ်မြေကို တမင်းလက်ထက်ရောက်သည်နှင့် ထပ်၍လှူမှ ရှေးမင်းလှူခဲ့သော ဝတ်မိုးဝတ်မြေမပျက်မစီး တည်သည်ဖြစ်မည်လော" ဟူသော တတိယ အမေးတော်၌—

**အဖြေကား။** ယခင်ဆိုခဲ့ပြီးသော ဝိနည်းပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာများ၌ ကျောင်းဘုရား ဝတ်မိုးဝတ်မြေသည် လှူရင်းမင်းပင်မရှိသော်လည်း နောက်မင်းတို့ လက်ထက်တိုင်အောင် ကျောင်းဘုရားအစဉ်အဆက် မပျက်မစီး ဝတ်မိုး ဝတ်မြေသာ ဖြစ်သင့်ကြောင်းကို လာသည်နှင့်အညီ ရှေးမင်းလှူပြီးသည်ကို နောက်မင်းတဖန်ထပ်၍လှူပြန်မှ ဝတ်မိုးဝတ်မြေ ဖြစ်သည်မဟုတ်ပါ၊ သံဃာစဉ်ဆက် မပျက်မပြတ်သမျှ ဝတ်မိုးဝတ်မြေ ဖြစ်မြဲပင် ဖြစ်ပါသည်၊ ထိုသို့ ဖြစ်မြဲဖြစ်လျက် ထပ်၍

တဖန် လျှုဒါန်း ပြန်သည်မှာကား သက်တော် ရှည်ရာသော ကုသိုလ် ခြောက်ပါးတွင် ထပ်၍ပြုပြင်သောပဋိသန်ရဏကုသိုလ် ပွားများစေလို၍လည်းကောင်း, ကွယ်ပျောက်မည်စိုးသဖြင့် မကွယ်မပျောက်စေလို၍ လည်းကောင်း ထပ်၍တဖန်လှူဒါန်းပြန်ခြင်းဖြစ်ပါသည်။

သက်တော်ရှည်ရာသောကုသိုလ်ခြောက်ပါးကား—

၁။ ပရိဿာဝနဒါန-ရေစစ်အလှူ,

၂။ ဂိလာနဝတ္ထုဒါန-သူနာတို့သုံးဆောင်မြဲဆေးအလှူ,

၃။ အာဝါသဒါန-ကျောင်းအလှူ,

၄။ ဇိဏ္ဏကပဋိသန်ရဏ-ဟောင်းနွမ်းသော ကျောင်း,ဘုရားကို ပြင်ဆင်သောကောင်းမှု,

၅။ ပဉ္စသီလ-ငါးပါးသီလဆောက်တည်သောကောင်းမှု,

၆။ ဥပေါသထကမ္မ-ရှစ်ပါး ဥပုသ်သုံးသောကောင်းမှု,

ဤခြောက်ပါးကို သက်တော်ရှည်ရာသော ကုသိုလ်ခြောက်ပါး-ဟူ၍ဆိုသည်၊ ဤကုသိုလ် ခြောက်ပါးကို အားထုတ်၍ သိင်္ဃိုဠ်ကျွန်း၌ ဝသဘမင်းကို ၁၂-နှစ်သာအသက်နေစစ်ရှိသည်-ဟူ၍ နိမိတ်ဘတ်သူတို့ ဟောပြောလျက် ၄၂-နှစ်တိုင်အောင် အသက်ရှည်ဘူးလေသည်-ဟု မဟာဝင်ကျမ်း၌လာသည်။

[ဤကား တတိယအမေးအဖြေတည်း။]

**စတုတ္ထအမေးအဖြေ**

၄။ ''ထပ်၍မလှူဘဲအထက်လှူခဲ့သော ဝတ်မိုးဝတ်မြေကို နောက်မင်းလက်ထက် မဖြစ်စေလင့်-သမုတ်ပြဋ္ဌာန်းသော် ပျက်မည်မပျက်မည်''ဟူသော စတုတ္ထအမေးတော်၌—

**အဖြေကား။** စတုဒ္ဒိသံ၊အရပ်လေးမျက်နှာ၌တည်သော။ သံဃံ၊သံဃာကို။ဥဒ္ဒိဿ၊ရည်၍။ ဘိက္ခူနံ၊ ရဟန်းတို့အား။ ဒိန္နံ၊ လှူအပ်သော။ ဝိဟာရံဝါ၊ ကျောင်းတိုက်အားလုံးကိုဎင်း။ ပရိဝေဏံဝါ၊ထိုကျောင်းတိုက်တွင် အသီးအသီးအကန့်အကန့်ဆီးသောပရိဝုဏ်ကိုဎင်း။အာဝါသံဝါ၊တဆောင်သောကျောင်းကိုဎင်း။မဟန္တံပိ၊ကြီးသည်လည်းဖြစ်စေ။ ခုဒ္ဒကံပိ၊ငယ်သည်လည်းဖြစ်စေ။ အဘိယုဉ္ဇတော၊တရား

ဆင်လိုသသူအား။ အဘိယောဂေါ၊ တရားစွဲခြင်းသည်။
နရူပာတိ၊ မရောက်ရာ။
အစ္ဆိန္ဒိတွာ၊ လုယက်၍။ဂဏှိတုံပိ၊ ယူအံ့သော်ငှါလည်း။
နသက္ကောတိ၊ မတတ်နိုင်။ ကသ္မာ၊ အဘယ့်ကြောင့်နည်း
ဟူမူကား။ သဗ္ဗေသံ၊ ခပ်သိမ်းကုန်သော အရပ်လေး
မျက်နှာ၌ တည်သောရဟန်းတို့၏။ ဓုရနိက္ခေပါ ဘာ
ဝတော၊ ဝန်ချခြင်းမရှိနိုင်ရာသောကြောင့်တည်း။ဟိသစ္စံ၊
ထိုသို့ ဝန်ချခြင်း မရှိနိုင်ရာ-ဆိုသော စကားသည်မှန်၏။
ဧတ္ထ၊ ဤသို့တရားစွဲရာလုယက်ရာ၌။ သဗ္ဗေ၊ခပ်သိမ်းကုန်
သော။ စတုဒ္ဒိသာဘိက္ခူ၊ အရပ်လေးမျက်နှာရဟန်းတို့
သည်။ ဓုရနိက္ခေပံ၊ ဝန်ချခြင်းကို။ နကရောန္တိ၊ အစဉ်
အနွံမပြုလေကုန်—

ဟူ၍ စတုဒ္ဒိသာသံဃာ ပိုင်ဆိုင်သောကျောင်းတိုက် ပရိဝုဏ်, ကျောင်းဆောင်များကိုတရားဆင်ခြင်း, လုယက်ခြင်းငှါ မမြောက်နိုင်ကြောင်းကို ဝိနည်းအဋ္ဌကထာလာသည်နှင့်အညီ ကျောင်းဘုရားပိုင်ဆိုင်သောဝတ်မိုးဝတ်မြေများကို နောက်မင်းလက်ထက် မဖျက်မဆီးနိုင်၊ ဖျက်ဆီးသော်လည်းမပျက်မစီးနိုင်ဖြစ်ပါသည်။

သူတပါး ပိုင်ဆိုင်သော ဥစ္စာဘဏ္ဍာကိုဖျက်ဆီးခြင်းသည် အရာမှ ရွေ့စေခြင်း, ပိုင်ဆိုင်သသူတို့ကို ဝန်ချစေခြင်း-ဟူသော အကြောင်းနှစ်ပါးတွင် တပါးပါးဖြင့်ဖြစ်မြဲတည်း၊ ဤအရာ၌ကား မြေနှင့်တကွဖြစ်၍ တည်ရာမှ ရွေ့စေခြင်းငှါလည်း မတတ်နိုင်၊ ပိုင်ဆိုင်သူအများဖြစ်၍ အစဉ်အနွံဝန်ချစေခြင်းငှါလည်း မတတ်နိုင်၊ဤသို့အကြောင်း နှစ်ပါးတွင် တပါးပါးမျှမရှိခဲ့ရကားကျောင်းဘုရားဝတ်မိုး,ဝတ်မြေကိုလုယက်ဖျက်ဆီးခြင်းငှါ မတတ်နိုင်ဟု ဆိုလိုပါသည်။

[ဤကားစတုတ္ထအမေးအဖြေတည်း။]

**ပဉ္စမအမေးအဖြေ**

၅။ ''ကျောင်းဘုရားဝတ်မိုးဝတ်မြေကိုဆိုခဲ့ပြီးသော ဘုရားအဆူဆူ, မင်းအဆက်ဆက်တို့တွင်မည်သည့်ဘုရား,မည်သည့်မင်းလက်ထက်ကစ၍ လှူဒါန်းသည်ဖြစ်မည်'' ဟူသော ပဉ္စမအမေးတော်၌—

**အဖြေကား။** သုဇာတဘုရားရှင်လက်ထက်တို့ဘုရားလောင်းစကြာမင်းဖြစ်၍ ရတနာ ခုနစ်ပါးနှင့်တကွ ကျွန်းငယ်နှစ်ထောင်, ကျွန်းကြီးလေးကျွန်းလုံးကို ဘုရားရှင်အားလှူသည်၊ တိုင်းသူပြည်သူအပေါင်းတို့အာရာမ်စောင့်ကိစ္စကိုပြုကြရသည်–

ဟူ၍ ကျမ်းဂန်အများလာသည်ကို ထောက်သော် အနန္တအသင်္ချေယျ ဘုရားအဆူဆူတို့လက်ထက်ကပင် ကျောင်းဘုရားဝတ်မိုး ဝတ်မြေလှူဒါန်းမြဲဖြစ်၍ မည်သည့်တွင် အစဟု မပြသာပါပြီ။

တို့ဘုရား လက်ထက်တော်တွင်လည်း နိဗ္ဗာန်စံတော်မူသည့်နောက် နှစ်တရာကျော်လောက်တွင် ဆရာရဟန်းအား မှီသည်မ လှူသောလယ် ၅-ပယ်ကိုဒွတ္တပေါင်မင်းကြီးသိမ်းယူမိ၍စည်ကြီးခေါင်းလောင်းမမြည်၊ လှံပျံစေတိုင်း မသွားကြောင်းကို ရာဇဝင်ဆိုရကား ရှေးအထက်ကပင် ကျောင်းဘုရား ဝတ်မိုး,ဝတ်မြေလှူမြဲဖြစ်ကြောင်းကိုသိရပါသည်။

[ဤကား ပဌမအမေးအဖြေတည်း။]

[ဤတွင်ရွှေကားလိုရင်းအမေးတော်ငါးချက်၌ ကျမ်းဂန်လာတိုင်းဖြေဆိုသော စကား ဖြစ်ပါသည်။]

၁။ အထက်ကလောကဝတ်, ဓမ္မဝတ်သိကျွမ်းလိမ်မာသော မဟာသီလဝံသဆရာလည်း ''သဒ္ဓမ္မောက္ခာဝဘာသီ'' ဂါထာ အဦးထားသော ရတနာ ဗိမာန်ကျောင်း ဝတ်မိုးဝတ်မြေကျောက်စာကိုရေးသားထားခဲ့သည့်အရာ ယခုတိုင်ထင်ရှားရှိပါသည်။

၂။ သာလွန်မင်းတရားကြီးလက်ထက် တံ့တီသဃ်ရာဇာထိန်းသိမ်းသော တံ့တီဘုရားဝတ်မိုး, ဝတ်မြေသည် ဝိသုံဂါမဖြစ်သည်၊ထိုဝတ်မိုး,ဝတ်မြေတွင်ပင် သိမ်တော်သမုတ်သင့်သည်-ဟု တောင်ဘီလာဆရာတော်ဆက်သွင်းသော မေတ္တာစာလည်း ထင်ရှားရှိပါသည်။

ရှင်မဟာသီလဝံသဆရာတော်, တောင်ဘီလာဆရာတော်တို့သည် လောက,ဓမ္မကျွမ်းကျင်လှသော ဆရာများဖြစ်၍ကျောင်းဘုရားဝတ်မိုး, ဝတ်မြေမကွယ်မပျောက်ဆင်းသက်သည်-ဟု ရှေးဆရာတို့လည်း အယူဝါဒရှိပါကြောင်းကို ရှိခိုးသံတော်ဦးတင်ပါသည်-ဟူ၍ အမေးစဉ် အတိုင်းဖြေလျှောက်ပါသည်။

ဤသို့လျှင် ယခင်ဆိုခဲ့ပြီးသော စကားအစဉ်အားဖြင့် ဘုရားသခင် လက်ထက်တော်က စူဠပုဏ္ဏ,မဟာပုဏ္ဏ,သစ္စဗန္ဓ,ဣသိဒိန္န အစရှိသော မရေမတွက်နိုင်သော ရှင်အဘိညာဉ်ရ,မဂ်ရ,ဖိုလ်ရ,အရိယာ, အနရိယာဆရာစဉ် ဆက်ဖြင့်၎င်း၊ များလှစွာသော ကျမ်းပြု,ကျမ်းတတ်, သီလဝန်, ဂုဏဝန် ဆရာစဉ်ဆက်ဖြင့်၎င်း၊ သရေခေတ္တရာ, ပုဂံ, တောင်ငူ, မြင်စိုင်း,ပင်းယ,စစ်ကိုင်း,အဝ,ရတနာသိင်္ခ, အမရပုရတိုင် အောင်သာ မဟာရာဇဓာနီမင်းနေပြည်ကြီး မြို့ကြီး အချက်အချာရှိသော မြန်မာတိုင်းနိုင်ငံ၌ သာသနာတော်မြတ် စည်ပင်သန့်ရှင်းထွန်းလင်းသည်။

ဤမျှလောက်သော စကားအစဉ်တွင် ယခင်လက်ဦးက ပြခဲ့ပြီးသော နည်းသုံးပါးအားဖြင့် အကြောင်း အကျိုး,အစအဆုံး အဆက်အနွယ်ကို ပညာဖြင့် ဆင်ခြင်၍ ပုတီးလုံးကိုသီသကဲ့သို့ အဆက်အလက် မပြတ်အောင်ယူလေ၊ သာသနာဆက်စကားအရာ၌ ဝိနည်းအဋ္ဌကထာကိုဆောင်၍ ဆိုခဲ့သည့်အတိုင်း အလဇ္ဇီနှင့် မဆိုင်၊ လဇ္ဇီသာ-ဟုမှတ်လေ၊ ဘုရားသခင် လက်ထက်တော်ကစ၍ သုနာပရန် တမ္ဗဒီပတိုင်း အချက်အချာ မြန်မာတို့တိုင်းနိုင်ငံ၌ အကြောင်းအမွန်း ၉-ပါး, ၁၁-ပါးဖြင့် ယခုထက်တိုင် သာသနာတော်မြတ် ကာလမြင့်ရှည်စည် ပင်သန့်ရှင်းထွန်းလင်းသောစကားအမြွက်ပြီး၏။

အမေးတော် ၅-ချက်၏ အဖြေစကားအကြောင်းပြီး၏။

---

## ၇၉—ဆရာစဉ်ဆက်ကိုအကျဉ်းအားဖြင့်ကောက်နုတ်၍ ပြခြင်းအကြောင်း

ပုဂံပြည်တွင်—

၁။ ရှင်အရဟံအရှေ့သာသနာတဂိုဏ်း,

၂။ ရှင်ဥတ္တရာဇီဝ,ဆပ္ပဒတို့အနောက်သာသနာတဂိုဏ်း,

၃။ ရှင်ဆပ္ပဒနှင့်အတူပါ သီဝလိတဂိုဏ်း,

၄။ ရှင်အာနန္ဒာတဂိုဏ်း,

၅။ ရှင်တာမလိန္ဒတဂိုဏ်း,

ငါးဂိုဏ်းကွဲပြားလေသည်။

"ပုဂံပြည်ရောက်ဂိုဏ်းငါးဂိုဏ်းက မည်သည့်ဂိုဏ်းအနွယ်အဆက် ပင်းယ,စစ်ကိုင်း,ရတနာပုရမြို့များသို့ရောက်သည်ကိုသိလိုပါသည်"ဟု အမေးပုံတွင်ပါသည့်အတိုင်း ပင်းယ,စစ်ကိုင်း,ရတနာပုရ မြို့များသို့ ရောက်သောဆရာစဉ်ဆက်ကို အကျဉ်းချုပ် ကောက်နုတ်စီစဉ်လျက် ဆိုဦးအံ့။

၁။ ထုပါရုံဒါယကာ နရပတိကြီးသည်မင်းမဖြစ်မီ ခမည်းတော် လက်ထက်ကသည် နောင်တော်ဘုရင်မင်းရဲကျော်စွာ လက် ထက်တိုင်အောင် ပြည်မြို့ကို အစဉ်ပင်စားသည့်စောရန်နောင် ပြည်မြို့သို့ပင့်၍ ကိုးကွယ်သော ပင်းယ စံကားကျောင်းက ထွက်၍နေသည့် တောင်ဘီလူး ပဏ္ဏရမအနွယ်ရှင်သာရဒဿိ ၏ တပည့်ရင်းရှင်သဒ္ဓမ္မဌိတိကိုဆရာပြုသည်။

၂။ သက္ကရာဇ် ၇၀၄-ခုနှစ်တွင်မှ ပြည်ကဆန်၍ရတနာပုရရွှေဝ မြို့ကြီးကိုမင်းပြုသည်။

၃။ သားတော်လတ် မင်းဆင်များကိုလည်း မင်းကြီးစွာအမည် နှင့်ပြည်မြို့ကိုသနားတော်မူသည်။

၄။ တောင်ကိုဂုထွတ်တရုပ်မော်၊ အနောက်ကိုဘိုးခေါင်၊ အရှေ့ ကိုကုန်းခေါင်၊ မြောက်ကိုမလွန်တောင်ခွင်ကျွန်းတော်၊ သည် ၄-ရပ်အတွင်းတွင် လူဖွေးဖွေးကိုငါ့သားစီရင်စေ၊ ရှင်ချင်း ချင်းကို ငါ့ဆရာစီရင်စေ-ဟုအမိန့်တော်နှင့် ဆရာတော် ရှင် သဒ္ဓမ္မဌိတိကို သာသနာပိုင် အပ်တော်မူသည်။

၅။ ရှင်သဒ္ဓမ္မဌိတိတွင် ရှင်အရိယဝံသ,ရှင်မဟာသာမိ တပည့်နှစ် ပါးရှိသည့်အနက်က ရှင်မဟာသာမိသည် ယခင်ရေးကပြခဲ့ သည့်အတိုင်း သာသနာ အဆက်အနွယ်ကိုဆောင်ယူမည်-ဟု သိဃ်ိုဠ်ကျွန်းသို့ကူး၍ သိဃ်ိုဠ်ကျွန်းကရှင်သဒ္ဓမ္မစာရီနှင့် သံဃာ ငါးပါးဆောင်ယူခဲ့ပြီးလျှင် သိက္ခာအသစ်ထပ်တင်၍ သရေ ခေတ္တရာပြည်တွင် သိဃ်ိုဠ် အဆက်အနွယ် သာသနာကို ပွား များအောင်ပြုစုနေထိုင်သည်။

၆။ ထိုအရှင်မဟာသာမိတပည့် ရှင်အတုလဝံသလည်း အရပ်လေးမျက်နှာစာပေသင်ပြီးလျှင် ပြည်မြို့အရှေ့ ကွမ်းမစားချောက်တွင် သာသနာပြုစုနေထိုင်သည်။

၇။ ရှင်အတုလဝံသတပည့် ရှင်ရတနာရံသီလည်း စာပေတတ်မြောက်လျှင် ပြည်မြို့တွင်ပင်သာသနာပြုစုနေထိုင်သည်။

၈။ ရှင်ရတနာရံသီတပည့် ပြည်ဘုရင် သတိုးဓမ္မရာဇာဆရာ ရှင်အဘိသင်္ကေတလည်း စာပေတတ်မြောက်၍ ပြည်မြို့တွင်ပင်သာသနာပြုစုနေထိုင်သည်။

၉။ ရှင်အဘိသင်္ကေတ တပည့်ကား ရှင်မုနိန္ဒဃောသတည်း၊ ကြာသပတေးသားဖြစ်၍ သာမဏေမည် ရှင်မုနိန္ဒဃောသ၊ ဦးရီးတော်ဆရာ အမည်ကိုခံ၍ ပဉ္စင်းမည်ရှင်ဥပါလိ၊ စစ်ကိုင်းမြစ်နားလေးထပ်ကျောင်းကို တင်လှူသည်တွင်မှ တံဆိပ်ရ၍ တံဆိပ်မည်ရှင်တိပိဋကာလင်္ကာရ၊ တောင်ဘီလာ တောရကျောင်းသို့ ပြောင်းနေသည်တွင်မှ တောင်ဘီလာ ဆရာတော်ဟူ၍ တွင်သောရှေးအဝကောင်းစားစဉ် အလင်္ကာသုံးပါး, ပဉ္စင်းကျော်သုံးပါးအဝင်အပါ တောင်ဘီလာပုဂ္ဂိုလ်ကျော်ပင်ဖြစ်သည်။

သက္ကရာဇ် ၉၇၀-နှစ်တွင် အနောက်ဘက် လွန်မင်းတရားပြည်ကိုလုပ်ကြံသည့်ကာလပင့်ဆောင်ခဲ့၍ရတနာပုရအဝပြည်ထဲရောက်သည်၊ ငါပြည်ကိုလုပ်ကြံသည်ကား ရှင်တပါးနှင့် လူတယောက်သာရသည်-ဟူ၍ အနောက်ဘက် လွန်မင်းတရားမိန့်ဆိုကြောင်းကိုယခုထက်တိုင်ပြောဆိုကြသည်၊ရှင်တပါးကားတောင်ဘီလာပုဂ္ဂိုလ်ကျော်, လူတယောက်ကား နန္ဒယော်ဓာတည်း။

ကျောင်းနေ ပုဂ္ဂိုလ်မဖြစ်မီ ပဉ္စင်းပျိုကလည်း ရှမ်းဇလုံဘေးကြောင့် အဝက တောင်ငူသို့ရောက်သော် ရှင်တိသာသနဓဇတပည့် ရှင်ဓမ္မရာဇဂုရုထံ ကျမ်းဂန်စာပေ သင်ကြားသည်၊ ပါဠိ, အဋ္ဌကထာ, ဋီကာကျမ်းဂန် ကျနလှသောကြောင့်ရှင်း,

လူငယ်ကပင် ဝေဿန္တရာပျို့ စသည်ကိုစီရင်၍ လောကဓမ္မ ပြည့်စုံလှသောကြောင့်ငှင်း သာမဏေကျော်၊ ပဥ္စင်းကျော်၊ ပုဂ္ဂိုလ်ကျော်ဟူ၍ ထင်ရှားသည်။

ကျောင်းနေပုဂ္ဂိုလ်ဖြစ်မှ ညီတော်မင်းရဲကျော်စွာ ဆောက်လုပ်သော စစ်ကိုင်းမြစ်နား လေးထပ်ကျောင်း၊ တောင်ဘီလာ ကျောင်းများမှာ နေထိုင်၍ သာသနာပြုစုသည်၊ သက္ကရာဇ် ၁၀၀၀-ပြည့်တွင် အသက် ၆၀-ပြည့်မှ လေးထပ်ကျောင်းက တောင်ဘီလာကျောင်းသို့ပြောင်း၍တောဝင်လေသတည်း။

၁၀။ တောင်ဘီလာ ပုဂ္ဂိုလ်ကျော်တပည့် အမြင့်မြို့ ရှင်မဟာတိဿ လည်း၊ဗန့်ကျီတိုက် ဆားလင်းကြီးတောင်ကျောင်းတွင် စာပေ သင်ကြားပို့သနေထိုင်သည်။

၁၁။ ရှင်မဟာတိဿတပည့် ရေမြိန်ရွာကျောင်း ရှင်စန္ဒပညာ။

၁၂။ ၎င်းတပည့် ၎င်းရွာကျောင်း ရှင်ဂုဏသိရီ။

၁၃။ ၎င်းတပည့် ၎င်းရွာကျောင်း ရှင်ကလျာဏဓဇ၊ ထိုဆရာသည် ဗဒုံမြို့ကျေး မောင်းထောင်ညောင်ကန်ရွာကျောင်းများတွင်စာ ပေပို့သနေထိုင်သည်။

၁၄။ ၎င်းရှင်ကလျာဏဓဇတပည့်ညောင်ကန်ရွာကျောင်းရှင်ဇာနေ့ာ ဘာသ,ရှင်ကလျာဏစက္က, ရှင်ဝိမလာစာရ, မောင်းထောင် ရွာကျောင်း ရှင်ဂုဏသာရ, ရှင်စန္ဒသာရ, ဗဒုံရွာကျောင်း ရှင်ဝရသေီ, ကန္နီမြို့ကျေး မင်းအိုရွာကျောင်း ရှင်ဂုဏသိရီတို့ လည်းသိက္ခာအသစ်ထပ်တင်၍စာပေသင်ကြားကုန်သည်၊ပါဠိ, အဠကထာ, ဋီကာကျမ်းဂန်ကျနကုန်သည်၊စုဒ်, စောဒနာ,အာ ဘော်, ကျမ်းထွက်, ကျမ်းတက်, ကျမ်းရိုး, အချေအတင် အဓိပ္ပါယ်နယတတ်ကျွမ်းကုန်သည်။

၁၅။ ယခင် ရှင်ကလျာဏဓဇတပည့် ဗန့်ကျီတိုက် ထနောင်းဝန်းရွာ ကျောင်း ရှင်ဓမ္မဓရလည်း ဗဒုံမြို့ကျေးပန်ရင်းရွာကျောင်းတွင် စာပေပို့သနေထိုင်သည်၊ စာပေကျမ်းဂန် ကျနတတ်ကျွမ်းလှ သည်။

ဤသို့ဆိုခဲ့ပြီးသော ဆရာဆက် တဆယ်ကျော်နှစ်ဆယ်သည် မန်လည်ဆရာတော်,မင်းအိုဆရာတော်,မင်းရွာဆရာတော်,ဆုံးထားဆရာတော်မှစ၍ သိမှီလိုက်သောသီလဝန်, ဂုဏဝန်, လဇ္ဇီပေသလ, သိက္ခာကာမ,ဓမ္မဝါဒီဖြစ်သော ရတနာပုရ,အဝ,စစ်ကိုင်း နိုင်ငံတော်အတွင်း ရဟန်းသံဃာတို့အဆက်အနွယ်ဖြစ်သည်။

[ဤကား ယခင် သာသနာအမွန်းအကြောင်း ၉-ပါး, ၁၁-ပါးတွင် သီဟိုဠ်မှ နောက်ဆုံးရောက်သော ရှင်သဒ္ဓမ္မစာရီ, ရှင်မဟာသာမိတ္တိုက ဆက်လက်၍ဆိုသောစကားတည်း။]

တကြောင်းလည်း—

၁။ သီဟိုဠ်ရောက် ပုဂံရှင်ဆပ္ပဒအဆက်အနွယ်က ရှင်သဒ္ဓမ္မကိတ္တိသည် စစ်ကိုင်းသို့လာရောက်၍ လေးကျွန်းမြေ အရပ်တွင်နေထိုင်သည်၊ ရှင်မဟာအရိယဝံသထံမှာလည်း စာပေကျမ်းဂန်သင်ကြားသည်၊ နောက် ရှင်မဟာ အရိယဝံသက ပြည့်နှင့်၍ ဇေတဝန်ကျောင်းသို့ ပြောင်းရွှေ့လျက် စာပေပို့သနေထိုင်၏။

၂။ ထိုရှင်သဒ္ဓမ္မကိတ္တိတပည့် ရှင်တိသာသနဓဇ။

၃။ ၎င်းတပည့် ရှင်ဓမ္မရာဇဂုရု။

၄။ ၎င်းတပည့် ရှင်မုနိန္ဒဃောသ တောင်ဘီလာပုဂ္ဂိုလ်ကျော်ပင်ဖြစ်သည်။

၅။ ၎င်းတပည့် ရှင်မဟာတိဿ၊ ရှင်စန္ဒပညာ၊ ရှင်ဂုဏသိရီ၊ ရှင်ကလျာဏဓဇ၊ရှင်ဓမ္မရေ၊ရှင်ဍလန္ဒောဘာသ၊ရှင်ကလျာဏစက္က ရှင်ဝိမလာစာရ၊ရှင်ဂုဏသာရ၊ရှင်စန္ဒသာရ၊ ရှင်ဝရသေဋ္ဌ၊ရှင်ဂုဏသိရီတိုင်အောင် ယခင်ကနည်း ဆရာစဉ်ဆက်ဆင်းသက်သည်။

ထိုဆရာစဉ်ဆက်သည် ယခုနောက် စစ်ကိုင်း,အဝ နိုင်ငံတော်အတွင်း သီလဝန်,ဂုဏဝန်,လဇ္ဇီပေသလ, သိက္ခာကာမ,ဓမ္မဝါဒီ ရဟန်းသံဃာတို့ အဆက်အနွယ်တည်း၊ ထိုအဆက်အနွယ် ရဟန်းသံဃာတို့ကား တရားကိုအလေးအမြတ်ပြုကုန်လျက် သိမ်ဟူကာတွင်ကံကြီးကံငယ်မဆောင်ကုန်၊ ယုံကြည်လောက်အောင် အခြေအမြစ်ရှိသော သိမ်

တွင်သာ ကံကြီးကံငယ်ဆောင်ကုန်သည်၊ ပွဲကျောင်းနွယ်, အတင်နွယ် များကိုလည်း စာပေအသင်အကြားကိုမျှမပြု ကြဉ်ရှောင်ကုန်သည်။

[ဤကားယခင်သာသနာ အမွန်းအကြောင်း ၉–ပါး, ၁၁–ပါးတွင် သီဟိုဠ်ရောက် ပုဂံရှင်ဆပဒတပည့် ရှင်သဒ္ဓမ္မကိတ္တိကဆက်လက်၍ ဆိုသော စကားတည်း။]

ဤစကားများကို ငါတို့ဆရာ "တိပိဋကသဒ္ဓမ္မသာမိ မဟာဓမ္မရာဇဂုရု" ဆရာတော်စီရင်သောသာသနသုဒ္ဓိဒီပကကျမ်း၌ ဆိုသည်၊ အထက်ကပင်းယစကား ၇-ကျောင်းကောင်းစားစဉ်ကာလ ထိုကျောင်းနေသံဃာတို့အဆက်အနွယ်ကို ပုဂံရှေ့သာသနာဝင်, နောက်သာသနာဝင် အဆက်အနွယ်ကဖြစ်သည်ဟူ၍ ပြခဲ့ပြီးသည်မှတပါး ခပ်သိမ်းသော အရာများ၌လည်း အဆက်အနွယ်နှင့်ချည်းပြခဲ့ပြီ၊ ထိုသို့ ပြခဲ့သမျှဆရာစဉ်ဆက်တွင် ရှေ့ကားအကြောင်း,နောက်ကားအကျိုး၊ရှေ့ကားအစ, နောက်ကား အဆုံး-ဟုမှတ်၍ ယခင်နည်း ၃-ပါးဖြင့် ဆင်ခြင်လျက် ပုတီးလုံးကို သီသကဲ့သို့ယူမှတ်လေ။

အတုလဆရာစဉ်သမိုင်းတွင်ကား—

၁။ အဘိသင်္ကေတတပည့်တိပိဋကာလင်္ကာရတောင်ဘီလာပုဂ္ဂိုလ်ကျော်တည်း။

၂။ ၎င်းတပည့်အမြင့်ဖောရိသတ်။

၃။ ၎င်းတပည့် ဆားလင်းကြီးအရိယဓဇ။

၄။ ၎င်းတပည့် ရှင်ဂုဏာဘိလင်္ကာရတုံဘုန်းကြီးတည်း။

၅။ ၎င်းတပည့် တပယင်းပညာရာမ။

၆။ ၎င်းတပည့် လိင်လှဓမ္မဇောတာဘိသာရ။

၇။ ၎င်းတပည့် ကုန်းဘောင်ပြည်တည်ထောင်ဦးမင်းတရားဆရာ မဟာအတုလဆရာတော်တည်း—

ဟူ၍ ဆရာစဉ်ကိုကြံစည်၍ဆိုလေသည်၊မည်သည့်စာတွင်မှ ထိုဆရာစဉ်မရှိ၊ တောင်ဘီလာပုဂ္ဂိုလ်ကျော် တပည့် အမြင့်ဖောရိသတ်ဟူ၍လည်း စာတမ်းမထွက်မဆို၊အနှစ်နှစ်ရာကျော်ကို ပုဂ္ဂိုလ် ၄-ဆက်နှင့် သာလည်းမတန်။

ဆရာစဉ်ဆက် ကောက်နုတ်ချက်ပြီး၏။

---

## ၁၀-သာသနာတော်ဆုတ်ယုတ်ကွယ်ပျောက်ခြင်း ၅-ပါးအကြောင်း

သာသနာကွယ်ခြင်း အကြောင်းငါးပါးကို အပြီးနိဂုံးသို့ရောက်မှ ဆိုအံ့ဟု ရှေ့ဦးလက်မွန်ပဋိညာဉ်ထားခဲ့သည့်အတိုင်း သာသနာတော် ကွယ်ခြင်းအကြောင်းငါးပါးကို ယခုဆိုပေအံ့။

သာသနာတော် ကွယ်ခြင်းအကြောင်းငါးပါး ဟူသည်ကား—

၁။ ကျမ်းဂန် ပိဋက ဟူသောပရိယတ်၏ ကွယ်ခြင်း,

၂။ ထိုပရိယတ်နှင့် လျော်သော အကျင့် ဟူသော ပဋိပတ်၏ ကွယ်ခြင်း,

၃။ မဂ်ဖိုလ်ဟူသော ပဋိဝေဓ၏ကွယ်ခြင်း,

၄။ ရဟန်း၏ အဝတ်အရုံဟူသော အသွင်အပြင်၏ကွယ်ခြင်း,

၅။ ဘုရားရှင်၏ ကိုယ်တော်အစိတ်ဟူသော ဓာတ်တော်မွေတော်၏ကွယ်ခြင်း,

ဤသို့အားဖြင့် ငါးပါးတည်း။

### ပရိယတ္တိသာသနာကွယ်ပုံ

ထိုငါးပါးတို့တွင်—

၁။ ကျမ်းဂန် ပိဋက ဟူသော ပရိယတ်သည်သာလျှင် သာသနာတော်မြဲတည်ခြင်း၏ အကြောင်းတည်း၊ ထိုစကားသည်လျှင် မှန်စွ၊ ပညာရှိသောသူသည် ပရိယတ်ကိုသင်၍ ပဋိပတ်,ပဋိဝေဓ ၂-ပါးကိုပင် ဖြည့်ကျင့်နိုင်၏၊ ဘုရားလောင်းသိဒ္ဓတ်မင်းသား တောထွက်ပြီးလျှင် အာဠာရ ရသေ့အထံသို့ဝင်ပြီးသော် အဘိညာဉ်ငါးပါး,သမာပတ်ခုနစ်ပါး အလုံးစုံကိုကြားနာ၍ တခဏခြင်းပင်ပြီးစေသတည်း။

နေဝသညာနာသညာယတန သမာပတ်၌ စီးဖြန်းနည်းကို အာဠာရ ရသေ့အားမေးသော် မပြောနိုင်၍ ဥဒကရသေ့အထံသို့ ဝင်ပြီးလျှင် နေဝသညာနာသညာယတနသမာပတ်၌ စီးဖြန်းနည်းကိုမေးသော် ဥဒကရသေ့ပြောသည်တွင် ပြောထည့်ခြင်းပြောသောစကား၏ အခြားမဲ့၌ ပင်ပြီးစေသတည်း၊ထို့အတူပညာရှိသသူသည်ပရိယတ်ကိုကြားနာရလျှင်

ပဋိပတ်,ပဋိဝေဓ ၂-ပါးကိုပင် ဖြည့်ကျင့်နိုင်၏-ဟု ပမာပမည်းဆောင်သတည်း။

ထို့ကြောင့် ပရိယတ် တည်ရှိသည် ရှိသော် သာသနာတော်မြတ် တည်၏၊ပရိယတ်မတည်သည်ရှိသော် သာသနာတော်မြတ်မတည်လေ၊ နောက်ကာလရောက်သော် ကလိယုဂ်မင်းတို့လက်ထက် လူတို့တရား မစောင့်ကုန်လျှင် မိုယ်းလေမမှန်၍ ပစ္စည်းရှားပါးသဖြင့် ပရိယတ် ယုတ်လျော့လေ၍ အနက်ပါဠိအားဖြင့် မဆောင်ရွက်နိုင်ကုန်၊ အဘိဓမ္မာပိဋကသည်ရှေးဦးစွာပဋ္ဌာန်းကျမ်းကြီးကစ၍အစဉ်အတိုင်းတရွေ့ တရွေ့ ကွယ်ပလေ၏၊ ထိုနောက် သုတ္တန်ပိဋကသည်အင်္ဂုတ္တရနိကာယ် ဧကာဒသ နိပါတ်ကစ၍ အစဉ်အတိုင်း တရွေ့တရွေ့ ကွယ်ပလေ၏၊ ထိုနောက်သံယုတ္တနိကာယ်, မဇ္ဈိမနိကာယ်, ဒီဃနိကာယ်တိုင်အောင် အစဉ်အတိုင်း တရွေ့တရွေ့ကွယ်ပလေ၏။

သဘိယပုစ္ဆာ,အာဠာဝကပုစ္ဆာဂါထာများသည်ကဿပဘုရားရှင် လက်ထက်တော်ကပင် လာကုန်သော်လည်း အနည်းငယ်မျှသာဖြစ်၍ သာသနာတော်မြတ်တည်ထွန်းအောင် မဆောင်ရွက်နိုင်လေ၊ ဝိနည်း ပိဋကကိုလည်း လဇ္ဇီပုဂ္ဂိုလ်တို့သာဆောင်ရွက်ကုန်အံ့၊ လာဘ်ကိုလို သောတရားဟောပုဂ္ဂိုလ်တို့လည်း အခြားတရားကိုဟောသော် မှတ် သားလိုသူမရှိဟူ၍ ဇာတ်ကိုသာဆောင်ကုန်အံ့၊ ထိုနောက်ဇာတ်ကိုမျှ အစေ့အစုံမဆောင်နိုင်ကုန်သဖြင့် ဝေဿန္တရာ ဇာတ်ကစ၍ အစဉ်အ တိုင်း တရွေ့တရွေ့ကွယ်ပလေ၏။

အကြင်မျှလောက်ကာလ၌လူတို့ဝယ် ၄-ပါဒရှိသော တဂါထာပင် လည်းထင်ရှားဖြစ်သေး၏၊ထိုမျှလောက်ကာလပတ်လုံး ပရိယတ်ကွယ် သည်မမည်လေ၊ အကြင်အခါ၌ သာသနာဝယ် သဒ္ဓါကြည်ညိုသော မင်းသည် ဆင်ကျောက်ကုန်းထက်ရွှေပန်းတောင်း၌ အသပြာထောင် ထုပ်ကိုတင်၍ သဗ္ဗညုဘုရားဟောကြားတော်မူသော ၄-ပါဒမျှရှိသော တဂါထာခန့်ကိုပင် သိသသူတို့သည် ဤအသပြာထောင်ထုပ်ကိုယူ စေ ကုန်ဟုမြို့တွင်းမြို့ပြင် ၃-ကြိမ်တိုင်အောင်စည်လှည့်စေသော်လည်းတ ဂါထာခန့်ကိုပင်တတ်သသူ,အသပြာထောင်ထုပ်ကိုယူဝံ့သသူမရှိ၍ထိုအ

သပြာထောင်ထုပ်ကို မင်းအိမ်သို့သာသွင်းရလေကုန်၏၊ထိုသို့သောအခါပရိယတ္တိသာသနာကွယ်သည်မည်၏။

[ဤသို့ကျမ်းဂန်ဆိုသောစကားနှင့် ယခုအခါဖြစ်သော သနစ်သနာကို ထောက်ထားနှိုင်းခိုင်း၍ ပရိယတ္တိသာသနာရှိ,မရှိကိုသိလေ။]

## ပဋိပတ္တိသာသနာကွယ်ပုံ

၂။ သာသနာတော်ကာလ ရှည်လျားလတ်သော် ဈာန်,ဝိပဿနာ,မဂ်ဖိုလ်တို့ကိုမဖြစ်စေနိုင်ကုန်၊ စတုပါရိသုဒ္ဓိသီလ ၄-ပါးမျှကိုသာစောင့်ရှောက်ကြကုန်အံ့၊ ထိုနောက် ကာလလျားပြန်သော် ထိုသီလလေးပါးကိုပင်လည်းအပြည့်အစုံမစောင့်ရှောက်ကြကုန်ဘဲ,ကမ္မဋ္ဌာန်းဘာဝနာမစီးဖြန်းကြကုန်ဘဲ ယခုအခါမဂ်,ဖိုလ်မရနိုင်ပြီ-ဟု လုံ့လလျော့ကြကုန်လျက် ပျင်းရိခြင်းများသည်ဖြစ်၍ တဦးကိုတဦးအပြုအမူသင့်မသင့်ရာမရာကို မစောဒနာကြကုန်၊ မအောက်မေ့ စေကြကုန်၊ နောင်တပူပန်ခြင်းမရှိကြကုန်၊ ငယ်ငယ်ကြီးကြီးသောအကျင့်သိက္ခာပုဒ်တို့ကိုကျော်နင်းကြကုန်အံ့။

ထိုနောက် ကာလရောက်သော် ပါစိတ်အာပတ်, ထုလ္လစ္စဥ်းအာပတ်, သံဃာဒိသိသ်အာပတ်များသင့်ကြကုန်အံ့၊ ပါရာဇိက အာပတ် ၄-ပါးမျှသာကြွင်းအံ့၊ ထိုပါရာဇိက အာပတ် ၄-ပါးကိုစောင့်ရှောက်သော ရဟန်းအရာအထောင်ပင်ရှိသော်လည်း ပဋိပတ္တိသာသနာကွယ်သည်မမည်သေး၊ ထိုရဟန်းတို့တွင် နောက်ဆုံးဖြစ်သောရဟန်း၏ ပါရာဇိက ၄-ပါးတွင် တပါးပါးသင့်ခြင်းဖြင့်၎င်း, သေလွန်ခြင်းဖြင့်၎င်း ပဋိပတ္တိသာသနာကွယ်သည်မည်လေ၏။

[ဤသို့ ကျမ်းဂန်ဆိုသောစကားနှင့် ယခုအခါဖြစ်သော သနစ်သနာကို ထောက်ထားနှိုင်းခိုင်း၍ ပဋိပတ္တိသာသနာရှိ,မရှိကိုသိလေ။]

## ပဋိဝေဓသာသနာကွယ်ပုံ

၃။ ဘုရားကိုယ်တော် ထင်ရှားရှိသည်ကစ၍သာသနာတော်စည်ပင်သောကာလ မဂ် ၄-ပါး, ဖိုလ် ၄-ပါး, ပဋိသမ္ဘိဒါ ၄-ပါး,ဝိဇ္ဇာ ၃-ပါး, အဘိညာဉ် ၆-ပါးဟု ဆိုအပ်သော ပဋိဝေဓတရားကို အပြည့်အစုံရကြ၏၊ သာသနာတော် ကာလလျားလတ်သော် ပဋိသမ္ဘိ

ဒါ၄-ပါးကစ၍ တရွေ့တရွေ့ကွယ်ပလေအံ့၊ မဂ်ဖိုလ်ရသော အရိယာတို့တွင်နောက်ဆုံးဖြစ်သော သောတာပန်၏ သေလွန်ခြင်းဖြင့် ပဋိဝေဓသာသနာတော်မြတ် ကွယ်ပသည်မည်၏။

[ဤသို့ကျမ်းဂန်ဆိုသော်စကားနှင့် ယခုအခါဖြစ်သော သနစ်သနာကိုထောက်ထားနှိုင်းခိုင်း၍ ပဋိဝေဓသာသနာရှိ, မရှိကိုသိလေ။]

## လိင်္ဂသာသနာကွယ်ပုံ

၄။ သာသနာတော်မြတ်ကာလရှည်လျား၍ ဆုတ်ယုတ်လတ်သော် သပိတ်စွဲခြင်း, သင်္ကန်းဝတ်ခြင်း, လက်ခြေကွေးခြင်း,ဆန့်ခြင်း, တူရူကြည့်ခြင်း, တစောင်းကြည့်ခြင်း အပြုအမူ အနေအထားများသည်ကြည်ညိုဘွယ်မရှိ၊ တက္ကတွန်းရဟန်းများကဲ့သို့ အိမ်ဘူးတောင်းကိုသပိတ်အဟန် လက်ရုံးတွင်လွယ်လျက် ယူဆောင်၍ ထိုမှဤမှ သွားလာကြကုန်အံ့၊ ထိုသို့ပင် သွားလာသော်လည်း ရဟန်းအသွင် မကွယ်မပသေး၊ ထိုနောက်ရှည်လျားလတ်သော် လက်ရုံးဖျားမှလျှောချ၍လက်ဖြင့်ရင်း,ဆိုင်းဖြင့်ရင်းတွဲလွဲဆွဲ၍ ထိုမှဤမှသွားလာကြကုန်အံ့၊ သင်္ကန်းကိုလည်း ဆိုးရည်ဖြင့် လျောက်ပတ်အောင်မဆိုးဘဲ ကုလားအုပ်၏ ကျောက်ကုန်းအဆင်းကဲ့သို့ဆိုးသည်ကိုပြု၍ထိုမှဤမှသွားလာကြကုန်အံ့။

ထိုနောက်ကာလရောက်လတ်သော်အလျှင်းပင် ဆိုးရည်မဆိုးဘဲအမြိတ်အဆာ ဖြတ်ကာမျှရင်း, မြောင်းတလုပ် ချုပ်ကာမျှရင်း,ကပ္ပဗိန္ဒုထိုးကာမျှရင်း ပြု၍ သုံးဆောင်ကြကုန်အံ့၊ ထိုနောက်ကာလလျားလတ်သော်မြောင်းတလုပ်ချုပ်ကာမျှကိုရင်း,ကပ္ပဗိန္ဒုထိုးကာမျှကိုရင်းမပြုဘဲ အမြိတ်အဆာဖြတ်ကာမျှကိုသာ ပြုလျက်ဝတ်၍ ပုရိပိုဇ်ရဟန်းတို့ကဲ့သို့ထိုမှ ဤမှ သွားလာကြကုန်အံ့၊ ထိုနောက်ကာလ ရောက်ပြန်လတ်သော် ဤသင်္ကန်းဖြင့် ငါတို့အား အဘယ်အကျိုးရှိအံ့နည်း-ဟုဖန်ရည်စွန်းသော သင်္ကန်းပိုင်းငယ်ကိုလက်၌ရင်း,လည်၌ရင်းရစ်ဖွဲ့ကုန်လျက် ထိုသင်္ကန်းပိုင်းငယ်ဖြင့် ဆံ၌မူလည်း အုပ်ကုန်လျက် ထိုမှဤမှ သွားလာကြကုန်အံ့။

မယားမွေးခြင်း, လယ်ထွန်ခြင်း, စိုက်ပျိုးခြင်းစသဖြင့်အသက်မွေး မှုတခုခုကို ပြုကုန်၍ ထိုမှ၍မှ သွားလာကြကုန်အံ့၊ ထိုသို့ဖန်ရည်စွန်း သော သင်္ကန်းပိုင်းငယ်ကို ဆောင်သည့် တိုင်အောင်လည်း ရဟန်းအ သွင်ကွယ်သည် မမည်သေး၊ ထိုအခါ၌လည်း သံဃာတော်ကိုရည်၍ အလှူပေးသော် သံဃဒါနအကျိုး အတိုင်းမသိ ရသေး၏၊၍အကြောင်း ကိုရည်တော်မူ၍ ဒက္ခိဏာဝိဘင်္ဂသုတ်၌‘‘ဘဝိဿန္တိ ခေါပနာနန္ဒ’’အစရှိ သော ဓမ္မဒေသနာကိုသတ္တဝါတို့အား စီးပွားချမ်းသာ များစိမ့်သောငှါ သဗ္ဗညုဘုရား ဟောကြားတော်မူသည်။

**အနက်ကား။** အာနန္ဒ၊ ချစ်သား အာနန္ဒာ။ အနာဂတ မဒ္ဓါနံ၊ နောင်လာလတ့်သော အခွန့်၌။ ဂေါတြဘုနော၊ ရဟန်း၏အနွယ်၌ ဖြစ်ကုန်သော။ကာသာဝကဏ္ဍာ၊ သင်္ကန်းလည်ရောက်ကာမျှ ဖြစ်ကုန် သော။ဒုဿီလာ၊သီလမရှိကုန်သော။ပါပဓမ္မာ၊ယုတ်မာသောအကျင့်ရှိ ကုန်သောရှင်ယောင်တို့သည်။ခေါပန၊စင်စစ်လျှင်။ဘဝိဿန္တိ၊ဖြစ်ကုန်လ တ့်။ ဒုဿီလေသု၊သီလမရှိကုန်သော။တေသု၊ ထိုရှင်ယောင်တို့၌။သံဃံ၊ သံဃာတော်ကို။ ဥဒ္ဒိဿ၊ရည်မှတ်၍။ ဒါနံ၊ အလှူကို။ ဒဿန္တိ၊ ပေးလှူ ကုန်လတ့်။အာနန္ဒ၊ ချစ်သားအာနန္ဒာ။ တဒါပိ၊ ထိုအခါ၌လည်း။ သံဃ ဂတံ၊ သံဃာကို ရည်မှတ်၍ဖြစ်သော။ ဒက္ခိဏံ၊ အလှူကို။ အသင်္ချေယျံ၊ မရေတွက်နိုင်သော အကျိုးရှိ၏။ အပ္ပမေယျံ၊ အတိုင်းမသိသောအကျိုး ရှိ၏။ ဣတိ၊၍သို့။ အဟံ၊ ငါဘုရားသည်။ ဝဒါမိ၊ ဟောတော်မူ၏။

ထိုမှနောက်ကာလလျှားလတ်သော် အထူးထူး အပြားပြားအခင်း အမှုပြုကုန်လျက် ငါတို့အား ဖန်ရည်စွန်းသော သင်္ကန်းပိုင်းငယ်ဝတ် ခြင်းသည် ကြန့်ကြာ၏၊ ၍သင်္ကန်းပိုင်းငယ်ဖြင့် အဘယ်မှုစအံ့နည်း-ဟု သင်္ကန်းပိုင်းငယ်ကို ဆုတ်ဖြတ်၍ ပစ်လွှင့်ကြကုန်လတ့်၊ ထိုအခါ ရဟန်း ၏ အသွင်သည် ကွယ်သည်မည်လေ၏၊ ကဿပဘုရားရှင် သာသနာ တော်ကွယ်သည်ကစ၍ယောနကတိုင်းသားရှမ်းယွန်းပန်းသေးလူမျိုးတို့ အား ပုဆိုးကိုရုံ၍သွားလာခြင်း, ပုဆိုးဖြူကိုဝတ်သော ရဟန်းအနွယ် ဖြစ်ခြင်းများသည် သာသနာကို တည်စေခြင်းငှါ မတတ်နိုင်လေ။

[၍သို့ကျမ်းဂန်ဆိုသောစကားနှင့် ယခုအခါဖြစ်သော သနစ်သနာကို ထောက်ထားနှိုင်းခိုင်း၍ ရဟန်းအသွင်လိင်္ဂသာသနာရှိ, မရှိကိုသိလေ။]

ဓာတုသာသနာကွယ်ပုံ

၅။ မဟာဗောဓိပလ္လင်၌ တထောင်ငါးရာ ကိလေသာကို ပယ်ခြင်းသည် ကိလေသ ပရိနိဗ္ဗာန်, ကုသိနာရုံပြည် မလ္လာမင်းတို့ အင်ကြင်းတော၌ ခန္ဓာတော်ကို ပစ်ချခြင်းသည် ခန္ဓပရိနိဗ္ဗာန်, ဓာတ်တော်မွေတော်တို့၏ တေဇောဓာတ်ဖြင့် အကုန်အစင် လောင်ခြင်းသည် ဓာတုပရိနိဗ္ဗာန်-ဟူ၍ ပရိနိဗ္ဗာန် ၃-ပါးတည်း၊ ထို၃-ပါးတို့တွင် ဓာတုပရိနိဗ္ဗာန်သည် နောင်အခါမှ ဖြစ်လတ္တံ့။

**ဖြစ်ဟန်ကား။** မြတ်စွာဘုရား ထင်ရှားရှိတော်မူစဉ် ငါ၏ဓာတ်တော်,မွေတော်တို့သည် ပူဇော်သက္ကာရကိုမရရာအရပ်က ရရာအရပ်သို့ပြောင်း၍ သတ္တဝါတို့စီးပွားများအောင်တည်ရစ်စေ-ဟု ဝေနေယျတို့ချမ်းသာစီးပွားကို အရှည်မြော်ခေါ်တော်မူလျက်၊ အဓိဋ္ဌာန်ပြုတော်မူ၏၊ ထိုသို့ အဓိဋ္ဌာန်တော်၏ အစွမ်းကြောင့် ဓာတ်တော်,မွေတော်တို့သည်ပူဇော်သက္ကာရမရရာကရရာသို့ပြောင်း၍ပူဇော်သက္ကာရကိုခံကုန်မြဲတည်း၊သာသနာတော်ကာလလျှားလတ်သော်ကား ဓာတ်တော်,မွေတော်ကို အလေးအမြတ်ပူဇော်သက္ကာရပြုသောအရပ်နည်း၍မပြုသောအရပ်သာ များလေ၏။

၁။ ထိုသို့သာသနာတော် ဆုတ်ယုတ်သောအခါ သီဟိုဠ် မဟာစေတီတော်ကြီး၌သာ ရွှေးဦးစွာတပေါင်းတည်း စုဝေးလာကုန်လတ္တံ့။

၂။ ထိုနောက် မဟာစေတီကြီးကပြောင်း၍ နာဂဒီပကျွန်း လင်းလွန်းပင် စေတီမှာ စုံဝေးလာကုန်လတ္တံ့။

၃။ ထိုနောက် လင်းလွန်းပင်စေတီမှ ပြောင်းရွှေ့ပြန်၍ ပွင့်တော်မူရာ မဟာဗောဓိ မဏ္ဍိုင် မှာ စုဝေးလာကုန်လတ္တံ့။

[နဂါးပြည်,လူ့ပြည်,နတ်ပြည်,ဗြဟ္မာ့ပြည်ဝယ်ရှိလေသမျှဓာတ်တော်မွေတော်တို့သည် တမုန်ညင်းခန့်မျှ မကြွင်းမကျန် မဟာဗောဓိမဏ္ဍိုင်မှာ ချည်းစုဝေးလာကုန်သတည်း၊ ပမာဏ ၃-ပါး, အဆင်း ၃-ပါးပြားသော အချင့်ရှစ်စရွက်ရှိသော ဓာတ်တော် မွေတော်စုက တမုန်ညင်းခန့်မျှ တေဇောဓာတ် မလောင်မီ ပျောက်ကွယ်မြဲမဟုတ်-ဟူ၍ ကျမ်းဂန်လာသည် မှတ်လေ။]

၄။ ထိုသို့မဟာဗောဓိဝယ် စုံဝေးပြီးလျှင် ဓာတ်တော်, မွေတော်တို့ ပင် မြတ်စွာဘုရားအသွင်တော်ကို ဖိပြင်စွာ ဖန်ဆင်း၍ လက် မွှန် ရှေးဦး ပွင့်တော်မူစကာလကကဲ့သို့ မဟာဗောဓိပင်ဝယ် ထက်ဝယ်ဖွဲ့ခွေနေတော်မူလျက်အာသရေအပေါင်းဖြင့်တင့်တယ် စွာသော ကိုယ်တော်မြတ်ကိုပြကုန်လတ္တံ့။

၅။ လက္ခဏာတော်ကြီး ၃၂-ပါး, လက္ခဏာ တော်ငယ်-၈၀, ရောင်ခြည်တော်ခြောက်သွယ်, တလံမျှလောက်သော ထွက်မြဲ ရောင်ခြည်တော် အဝန်းတို့လည်း ထင်ရှားဖြစ်ကုန်လတ္တံ့။

၆။ ထိုသို့သက်တော်ထင်ရှား ဘုရားကိုယ်တော် အတုဖန်ဆင်းပြီးမှ ရေမီးအစုံထွက်သောယမိုက် ပြာဋိဟာကို ပြကုန်လတ္တံ့။

၇။ ရောင်ခြည်တော် ခြောက်သွယ် လွှတ်ကုန်လျက် စကြဝဠာ တ သောင်းပျံ့နှံ့လတ္တံ့။

၈။ ထိုအခါလူတို့ မဖူးမတွေ့ရကုန်၊ စကြဝဠာတသောင်းက လာ သော နတ်,ဗြဟ္မာတို့သာဖူးတွေ့ရကုန်လတ္တံ့။

၉။ ထိုနတ်,ဗြဟ္မာတို့သည် စည်းဝေးဖူးတွေ့ကုန်၍ ယနေ့ မူကား အား ၁၀-ပါးနှင့်ပြည့်စုံတော်မူသော ဘုရား ပရိနိဗ္ဗာန်လား တော်မူခဲ့ပြီ၊ ယနေ့အမှန် သာသနာတော်ကွယ်ခဲ့ပြီ၊ ဤနေ့က စ၍ လောကဝယ်အမိုက်အတိသာဖြစ်လေတော့အံ့၊ ဤကား- အဆုံးစွန်ဖူးတွေ့ခြင်းတည်း-ဟု နှလုံးပြုကုန်၍ ဘုရားပရိနိဗ္ဗာန် လားတော်မူသော နေ့ကထက်ကဲလွန်စွာ သနားစုံမက် ငိုကြွေး မြည်တမ်းကြကုန်လတ္တံ့။

၁၀။ ထိုသို့စဉ်တွင် ဓာတ်တော်တို့မှ မီးထွက်၍ ဓာတ်တော်အလုံး ကို အကြွင်းမရှိ ကျွမ်းစေလတ္တံ့။

၁၁။ ထိုမီး လျှံကား-ဗြဟ္မာ့ပြည်တိုင်အောင်ပင် တက်လေသတည်း၊ ထိုရောအခါစည်းဝေးလာသောနတ်ဗြဟ္မာတို့သည်စည်,စောင်း ညွှင်းသံစသည်တို့ဖြင့် ပူဇော်သက္ကာရပြုကုန်လျက် မဟာဗောဓိ ကို ၃-ကြိမ်လက်ျာရစ်လှည့်၍ ရှိခိုးကုန်လျက် နောင်အခါပွင့် လတ္တံ့သော ဘုရားရှင်ကိုဖူးတွေ့ရပါလိုသော-ဟု ဆုပန်၍ပြန် သွားကြကုန်လတ္တံ့။

ဤသို့သာ ကျမ်းဂန်လာသည်၊ ထိုအခါ အကျွတ်တရားရကြသည်-ဟူ၍မလာ၊ ရောင်တော်ပြန်တွင်ရော၍ ကျွတ်သည်-ဟု ဆိုရိုးစကားအစဉ်ရှိသည်ကားမသင့်။

[ဤသို့လျှင်ဓာတ်တော်,မွေတော်တို့မှမီးထ၍လောင်သဖြင့်ကုန်စင်ခြင်းသည် ဓာတ်တော်,မွေတော်တို့ကွယ်သည်မည်၏–ဟု ကျမ်းဂန်လာသောစကားနှင့် ယခုအခါဖြစ်သော သနစ်သနာကိုထောက်ထား နှိုင်းခိုင်း၍ ဓာတ်တော်မွေးတော် ရှိ,မရှိကိုသိလေ။]

ဒုတိယမင်းခေါင်လက်ထက် တံတားဦး မင်္ဂလာစေတီတော်တည်မည်ပြုသောအခါ ရသောဓာတ်တော်၊ စတုတ္ထရတနာပုရ မြို့တည်နန်းတည် ဆဒ္ဒန်ဆင်မင်းသခင် ဆင်ဖြူများရှင် မင်းတရားကြီး လက်ထက်အမရပုရမြို့ မဟာဝိဇယရံသီစည်းခံတော်ကြီး တည်မည်ပြုသောအခါရသောဓာတ်တော်များသည်–

"ဘုရားတို့ဓာတ်၊ အတ္တုပ္ပတ်မူ၊ အထွတ်ဘုန်းခေါင်၊ ရှင်တော်ရောင်တို့၊ ရုပ်ဆောင်ကြွားကြွား၊ နှစ်ဆူပွား၏၊ ဖြူထွားစိမ်းပြာ၊ နီဝါရောင်မောင်း၊အဆင်းပေါင်းလျက်၊လုံးလျောင်းဘန်များ၊ သဏ္ဌာန်ပြား၏၊ ဝန်းလျားမိုလ်ထု၊ ရှုကြစဉ်တည့်၊ ဝိညာဉ်အတိ၊ ရှိဘိသော့လား၊ ရွရွတွား၏၊ မွေ့မှားကိုင်ချွတ်၊ လက်မှလွတ်လည်း၊ ဝတ်သည့်ပုဆိုး၊ လက်မိုးလက်ရုံး၊ပခုံးမေးဖျား၊ ထိပ်ထက်နား၏၊လေးပါးဤမျှ၊ အကျဉ်းပြသည်၊ တေဇထန်ထန်ပြင်းပြင်းတည်း"-

ဟူ၍ဆိုသည့်အတိုင်း မြတ်စွာဘုရားအဓိဋ္ဌာန်တော်အားဖြင့် ပူဇော်သက္ကာရ ရှိရာပြန်ရောက်လာသောဓာတ်တော်စစ်မှန်၏၊ စည်းခံတော်ကြီးတွင် ဌာပနာသောဓာတ်တော်များကို စာဆိုနှင့်အညီ မျက်မှောက်ထင်ထင်မြင်လိုက်ရပေသတည်း။

သာသနာကွယ်ခြင်း ၅-ပါးအကြောင်းပြီး၏။

---

## ၈၁–သာသနာတော်ကိုပြုစုသုတ်သင်သင့်ခြင်း အကြောင်း

သာသနာတော်ကိုအလေးအမြတ် ပြုစုသုတ်သင် အပ်ကြောင်းကို ဆိုအံ့ဟု ရှေးဦးလက်မွန် ပဋိညာဉ်ထားခဲ့သည့်အတိုင်း သာသနာပြုစုသုတ်သင်ကြောင်းကို အမြွက်မျှဆိုပေအံ့။

၁။ ပုရာသောကော ဓမ္မရာဇာ၊ အတုလဝိဘဝေါဒယော။
သာသနံ ပိယတာယ သ၊မလံ ဒသ္ဍနကမ္ဗိတော။ ။

၂။ မောဂ္ဂလိပုတ္တတိဿထေရ၊ မုပနိဿာယ သောဓနံ။
ဘိက္ခူ ဆန္နဝုတေ ကာသိ၊ ဥပ္ပဗ္ဗာဇိယ ပါပကေ။ ။

၃။ လင်္ကာဒီပေ သိရိသဃ်၊ ဗောဓာဒိပဒနာမကော။
ပရက္ကမဗာဟုစာပိ၊ ဗုဒ္ဓသာသနမာမကော။ ။

၄။ မလိနံ သာသနံ ဒိသွာ၊ သံဝေဂါပနမာနသော။
ပါပကေ ဗဟဝေါ ဘိက္ခူ၊ ခံသိယာ ဓမ္မဝါဒိနော။ ။

၅။ မဟာဝိဟာရဝါသိနံ၊ ပဝေဏိဓမ္မဝါဒိနံ။
သံဃမေကနိကာယဥ္စ၊ ဌပေတွာ သောဓနံ အကာ။ ။

၆။ တတော ပစ္ဆာ ပုန စသ္ဓော၊ ဝိဇယဗာဟု ဘူပတိ။
ပရက္ကမရာဇာစာပိ၊ တထာ သာသနသောဓနံ။ ။

၇။ အမှာကံ ဗောဓိသတ္တောပိ၊ပုရေနေ္တာ ပါရမိ ပုရာ။
တိဒသာလယသဂ္ဂမှိ၊ဒေဝရဇ္ဇ မကာရယိ။ ။

၈။ တဒါ အာနန္ဒထေရောပိ၊ ဗာရာဏသီပုရေ အကာ။
ရဇ္ဇမုသိန္ဓရော ဟုတွာ၊ ကဿပဗုဒ္ဓသာသနေ။ ။

၉။ မလံ ဒိသွာပိ မဇ္ဈတ္တော၊ န ကာ သာသနသောဓနံ။
တဒါ သက္ကော ဒေဝရာဇာ၊ ဒိဗ္ဗသုခပရံမုခေါ။ ။

၁၀။ ကဏှသုနခဝဏ္ဏေန၊ဂန္တွာ မာတလိနာ သဟ။
ဥတ္တာသေတွာန ရာဇာနံ၊ တဒုသိန္ဓရနာမကံ။ ။

၁၁။ သာသနသောဓနတ္ထာယ၊ လဒ္ဓါ တပ္ပတိဇာနနံ။
ပစ္ဆာ နုသာသနံ ကတွာ၊ ပစ္စဂါ တိဒသာလယံ။ ။

**အနက်ကား**

၁။ ပုရာ၊ ရှေးအခါ၌။ အတုလဝိဘဝေါဒယော၊ အတုမဲ့စီးပွား စည်းစိမ်ရှိသော။ အသောကောဓမ္မရာဇာ၊ ဓမ္မာသောက မင်းတရားသည်။ သမလံ၊ အညစ်အကြေးရှိသော။သာသနံ၊သာသနာကို။ ဒသ္သနကမ္ပိတော၊ မြင်သဖြင့်တုန်လှုပ်ခြင်းရှိ၍။ ပိယတာယ၊ စုံမက်မြတ်နိုးသဖြင့်။

၂။ မောဂ္ဂလိပုတ္တတိဿထေရံ၊ရှင်မောဂ္ဂလိပုတ္တတိဿမထေရ်ကို။ ဥပနိဿာယ၊အမှီပြု၍။ဆန္ဒရုစိတော၊ခြောက်သောင်းကုန်သော။ပါပကေ၊ ယုတ်မာကုန်သော။ဘိက္ခူ၊ရဟန်းယောင်တို့ကို။ဥပ္ပဗ္ဗာဇိယ၊လူထွက်စေ၍။သောဓနံ၊သာသနာပြုစု သုတ်သင်ခြင်းကို။ အကာသိ၊ ပြုဘူးလေပြီ။

၃။ လင်္ကာဒီပေ၊ သိဟိုဠ်ကျွန်း၌။ သိရီသင်္ဃဗောဓာဒိပဒနာမကော၊ သိရီသင်္ဃဗောဓိဟူသော အစပုဒ်ဖြင့် အမည်ရှိသော။ပရက္ကမဗာဟုစာပိ၊ ပရက္ကမဗာဟုမင်း သည်လည်း။ ဗုဒ္ဓသာသနမာမကော၊ ဘုရားသာသနာကို စုံမက်မြတ်နိုးသည်ဖြစ်၍။

၄။ မလိနံ၊ညစ်ညူးသော။သာသနံ၊သာသနာကို။ဒိသွာ၊မြင်၍။သံဝေဂါပန္နမာနသော၊ထိတ်လန့်ခြင်းသို့ရောက်သော နှလုံးရှိလေရကား။ပါပကေ၊ယုတ်မာကုန်သော။ဗဟဝေါ၊များစွာကုန်သော။အဓမ္မဝါဒိနော ဘိက္ခူ၊အဓမ္မဝါဒီရဟန်းတို့ကို။ခံသိယ၊ဖျက်ဆီးပြီးမှ။

၅။ မဟာဝိဟာရဝါသိနံ၊မဟာဝိဟာရကျောင်း၌နေသော။ ပဝေဏိဓမ္မဝါဒိနံ၊ အစဉ်ဓမ္မဝါဒီဖြစ်သော။ သံဃဉ္စ၊ သံဃာကိုင်း။ကေနိကာယဉ္စ၊ မဟာဝိဟာရဝါသီနိကာယ်တပါးတည်းကိုင်း။ ဌပေတွာ၊ ထား၍။သောဓနံ၊သာသနာသုတ်သင်ခြင်းကို။ အကာ၊ပြုဘူးလေပြီ။

၆။ တတော ပစ္ဆာ၊ထိုမှနောက်၌။ပုနစ၊တဘန်လည်း။ အညော၊တပါးသော။ဝိဇယဗာဟု ဘူပတိရာဇာစာပိ၊ ဝိဇယဗာဟုမင်းသည်ငင်း။ ပရက္ကမရာဇာစာပိ၊ ပရက္ကမဗာဟုမင်းသည်ငင်း။ တထာ၊ ထို့အတူ။ သာသနသောဓနံ၊သာသနာသုတ်သင်ခြင်းကို။အကာ၊ပြုဘူးလေပြီ။

၇။ အမှာကံဖော်မိသတ္တော်ပါ၊ ငါတို့ဘုရားလောင်းသည်လည်း။ ပုရာ၊ ရှေးအခါ။ ပါရမီပုရေန္တော၊ ပါရမီဖြည့်သည်ရှိသော်။ တိဒသာလယသဂ္ဂမှိ၊ တာဝတိံသာနတ်ပြည်၌။ ဒေဝရဇ္ဇံ၊ သိကြားမင်းအဖြစ်ကို။ အကာရယိ၊ ပြုလေစေပြီ။

၈။ တဒါ၊ ထိုရောအခါ။ ကဿပဗုဒ္ဓသာသနေ၊ ကဿပဘုရားရှင်သာသနာတော်၌။ အာနန္ဒထေရောပိ၊ အရှင်အာနန္ဒာမထေရ်အလောင်းသည်လည်း။ ဗာရာဏသီပုရေ၊ ဗာရာဏသီပြည်ဝယ်။ ဥသိန္နရော၊ ဥသိန္နရမည်သောမင်းသည်။ ဟုတွာ၊ ဖြစ်၍။ ရဇ္ဇံ၊ မင်းအဖြစ်ကို။ အကာ၊ ပြုတော်မူလျက်။

၉။ မလံ၊ သာသနာတော်အညစ်အကြေးကို။ ဒိသွာပိ၊ မြင်၍လည်း။ မဇ္ဈတ္တော၊ လျစ်လျူသာနေလျက်။ သာသနသောဓနံ၊ သာသနာသုတ်သင်ခြင်းကို။ နကာရယေ၊ မပြုလေ။ တဒါ၊ ထိုအခါ၌။ သက္ကောဒေဝရာဇာ၊ သိကြားနတ်မင်းသည်။ ဒိဗ္ဗသုခံ ပရံမုခေါ၊ နတ်စည်းစိမ် ချမ်းသာကို မျက်ကွယ်ပြုလျက် မငဲ့ကွက်ဘဲ။

၁၀။ ကဏှသုနခဝဏ္ဏေန၊ ခွေးနက်ကြီးအဟန်ဘန်ဆင်းသော။ မာတလိနာ၊ မာတလိနတ်သားနှင့်။ သဟ၊ ဟက္ခ။ ဂန္တွာ၊ ဗာရာဏသီသို့သွား၍။ ဥသိန္နရနာမကံ၊ ဥသိန္နရမည်သော။ တံရာဇာနံ၊ ထိုဗာရာဏသီမင်းကို။ ဥတ္တာသေတွာန၊ ထိတ်လန့်စေ၍။

၁၁။ သာသနသောဓနတ္ထာယ၊ သာသနာကိုသုတ်သင်ခြင်းအကျိုးငှာ။ တပ္ပတိဇာနနံ၊ ထိုဗာရာဏသီမင်း၏ ဝန်ခံခြင်းကို။ လဒ္ဓါ၊ ရပြီးမှ။ ပစ္ဆာ၊ နောက်၌။ အနုသာသနံ၊ ဆုံးမသွန်သင်ခြင်းကို။ ကတွာ၊ ပြု၍။ တိဒသာလယံ၊ တာဝတိံသာနတ်ပြည်သို့။ ပစ္စဂါ၊ ပြန်သွားလေ၏။

ဤ ၁၁-ဂါထာပါဌ်အနက်ကို လေ့ကျက်ဆောင်ရွက်၍ သာသနာတော်မြတ်ကို သုတ်သင်ပြုစုသင့်သည်ဟုယူမှတ်လေ။

သာသနာတော်ကိုပြုစုသင့်ကြောင်းပြီး၏။

# ကျမ်းပြီးနိဂုံး

ယခုအခါ၌ သာသနာလင်္ကာရစာတမ်းကို ပြုစုသောအခြေအမြစ် သနစ်သနာ အကြောင်းအရာစကားကို အကျဉ်းမှာထားလျက် နိဂုံး ချုပ်ဦးအံ့။

၁။ ရာဇာဓိရာဇာ ယော အသိ၊သဗ္ဗိသာနုဂဇပ္ပတိ။
ရတနပ္ပုရေ တမ္ဗဒီပ၊ရဋ္ဌေ သာသနဇောတနေ။ ။

၂။ မဟာရာဇသိရီမဟာ၊နန္ဒသင်္ကြမ္ပနာမိနာ။
တဿ မစ္စေန သန္တေန၊သာသနေ ဟိတကာမိနာ။ ။

၃။ တဿန္ဒေ့သေနစ္ဆျောသိတော၊ရာဇမန္တီ အကာသိ မံ။
သာသနာလင်္ကာရနာမံ၊သာသနေ ဝရမင်္ဂလာနံ။

၄။ ယံ ပတ္တံ ကုသလံ တေန၊ ကာတုံ သာသနဇောတနံ။
သမတ္ထော့တု အဝေရောဝ၊ရာဇာယံ နော တုဒမ္ပတိ။

၅။ သဗ္ဗေပိ သတ္တာ သဒါဝ၊ဓမ္မေ ဟောန္တု သဂါရဝါ။
ဒေဝေါ ဝဿတု ကာလေန၊ သတ္တာနံ သုခိတံ ကရံ။

၆။ ယထာ ရက္ခိံသု ပေါရာဏာ၊ သုရာဇာနော တထေဝိမံ။
ရာဇာ ရက္ခတု ဓမ္မေန၊ အတ္တနောဝ ပဇံ ပဇန္တိ။

၁။ သဗ္ဗိသာနုဂဇပ္ပတိ၊ ဆဒ္ဒန်ဆင်မင်းသခင်ဖြစ်သော။ ယောရာဇာ မိရာဇာ၊အကြင်"သိရီတြိဘဝနာ ဒိတျာဓိပတိပဝရ ပဏ္ဍိတ မဟာ ဓမ္မရာဇာဓိရာဇာ" တံဆိပ်နာမံတော် ရှိသော မင်းတရားမြတ်သည်။ သာသနဇောတနေ၊သာနာတော်မြတ်စည်ပင် ထွန်းလင်းရာဖြစ်သော။ တမ္ဗဒီပရဋ္ဌေ၊ တမ္ဗဒီပမည်သောတိုင်း၌။ ရတနပ္ပုရေ၊ ရတနာပုရရွှေ ဝပြည်ကြီးဝယ်။ အသိ၊ မင်းတရားစစ်ဖြစ်တော်မူ၏။

၂။ တဿရာဇာဓိရာဇိနော၊ ထိုသိရီတြိဘဝနာဒိတျာဓိပတိပဝရ ပဏ္ဍိတ မဟာဓမ္မရာဇာဓိရာဇာမည်သော မင်းတရားမြတ်၏။အမစ္စေန၊ အတွင်းသေနာပတိ အမတ်ဖြစ်သော။ သန္တေန၊ သူတော်ကောင်း သဘောရှိသော။ သာသနေဟိတကာမိနာ၊ သာသနာတော်မြတ် စီးပွား

ကို အလိုရှိသော။ မဟာရာဇသိရိမဟာနန္ဒသင်္ကြံမ္ဗနာမိနာ၊ မင်းကြီး သိရိ မဟာနန္ဒသင်္ကြံမည်သော အမတ်ကြီးသည်။

၃။ တဿန္တေ့သေန၊ ထိုမင်းတရားမြတ်၏ အမိန့်တော်မြတ်ဖြင့်။ အဇ္ဈောသိတော၊ တိုက်တွန်းအပ်သည်ဖြစ်၍။ ရာဇမန္တီ၊ မင်းတိုင်ပင် အမတ်သည်။ သာသနေ၊ သာသနာတော်၌။ ဝရမဏ္ဍနံ၊ မြတ်သော တန်ဆာသဘွယ်ဖြစ်သော။ သာသနာလင်္ကာရနာမံ၊ သာသနာလင်္ကာ ရမည်သော။ ဣမံ-တန္တိံ၊ ဤအစဉ်စာတမ်းကို။အကာသိ၊စီရင်ပြုစုပြီ။

၄။ ယံကုသလံ၊ အကြင်ကျမ်းဂန်ပြုသော ကုသိုလ် ကောင်းမှုသို့။ ပတ္တံ၊ ရောက်အပ်၏။ တေနကုသလေန၊ ထိုကုသိုလ်ကောင်းမှုကြောင့်။ အယံနောရာဇာ၊ ဤငါတို့အရှင် မင်းတရားကြီးသည်။ တုဒမ္ပတိ၊ အ ရှင်မိဖုရားကြီးနှင့်တကွ။အဝေရောဝ၊ရန်မာန်ကင်းသည်ဖြစ်၍ သာလျှင်။ သာသနဇောတနံ၊ သာသနာတော်မြတ်ကြာမြင့်စွာထွန်းလင်းခြင်းကို။ ကာတုံ၊ ပြုအံ့သောငှါ။ သမတ္ထေတု၊ စွမ်းတော်မူနိုင်စေသတည်း။သဗ္ဗေ ပိသတ္တာ၊ သတ္တဝါခပ်သိမ်းတို့သည်လည်း။ သဒါဝ၊ အခါလေးမြင့်လျှင်။ ဓမ္မေ၊ တရား၌။ သဂါရဝါ၊ ရိုသေခြင်းရှိကုန်သည်။ ဟောန္တု၊ ဖြစ်စေ ကုန်သတည်း။ ဒေဝေါ၊ မိုဃ်းသည်။ သတ္တာနံ၊ သတ္တဝါတို့၏။ သုခိတံ၊ ကောင်းစွာဝပြောသာယာခြင်းကို။ ကရံ၊ပြုလျက်။ကာလေန၊ လျောက် ပတ်သင့်တင့်သောအခါ၌။ ဝဿတု၊ ရွာစေသတည်း။

၅။ ပေါရာဏာ၊ရှေး၌ဖြစ်ကုန်သော။ သုရာဇာနော၊မင်းကောင်း မင်းမြတ်တို့သည်။ရက္ခိံသုယထာ၊စောင့်ရှောက်ကုန်သကဲ့သို့။တထေဝ၊ ထို့အတူလျှင်။ ရာဇာ၊ မင်းအပေါင်းသည်။ ဣမံ ပဇံ၊ ဤသတ္တဝါအ များကို။ အတ္တနော၊ မိမိ၏။ ပဇံဣဝ၊ သားရင်းကဲ့သို့။ ဓမ္မေန၊ တရားသ ဖြင့်။ ရက္ခတု၊ စောင့်ရှောက်ပါစေသတည်း။

သာသနာတော် ၂၃၇၅-ခု၊ သက္ကရာဇ် ၁၁၉၃-ခု နယုန်လပြည့် ကျော် ငါးရက်နေ့ကစ၍ ဝါခေါင်လပြည့်ကျော် ၁၄-ရက်နေ့တိုင် အောင် အထူးထူးသောပိဋကကျမ်း,ကျောက်စာ, ရာဇဝင်, အစောင် စောင်သော ဆရာစဉ်သမိုင်းစာတမ်းများကို နှိုင်းယှဉ်နှီးနှောတိုက် ဆိုင်စေ့စပ်၍ သင်္ဂါယနာသုံးတန်က အစမူလျက် မဇ္ဈိမတိုက်, သီဟိုဠ်,

သထုံ, မွန်ပြည်, ယွန်းပြည်, မြန်မာတိုင်းပြည် မြင်စိုင်း, ပင်းယ, စစ်ကိုင်း,အဝ,ကုန်းဘောင်,အမရပုရ, ရာဇဒ္ဓာနီပြည်ကြီးများတိုင်အောင်သော သာသနာနွယ်သာသနာဆက်,ဆရာစဉ်ဆက်ထုတ်နုတ်ပေါင်းစုသော''သာသနဝံသစာတမ်း-သာသနာလင်္ကာရကျမ်း''ကို၁၁၉၃-ခုဝါခေါင်လပြည့်ကျော် ၁၄-ရက် နေ့တွင် ပေထက်တင်၍ပြီး၏။

သာသနာလင်္ကာရစာတမ်း ပြီး၏။



